MYANMAR

# THE PENAL CODE

မြန်မာနိုင်ငံ

# ရာဇသတ်ကြီး

# ရာဇသတ်ကြီး

---

## မာတိကာ

ပုဒ်မများ။ စာမျက်နှာ။



## အခန်း ၄

## ကင်းလွတ်ချမြဲအချက်များ

## ကာကွယ်ခုခံပိုင်ခွင့်



## အခန်း ၅

## အားပေးကူညီမှု

## အခန်း ၅-က

## ရာဇဝတ်မကောင်းသောပူးပေါင်းကြံစည်မှု



## အခန်း ၆

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရကို ဆန့်ကျင်ကျူးလွန်သော ပြစ်မှုများ

ပုဒ်မများ။ စာမျက်နှာ။



## အခန်း ၆-က

## ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေနှင့် ပါလီမန်တို့၏ အက်ဥပဒေများ၌ ပါရှိသည့် ပြဋ္ဌာန်းချက်အချို့နှင့် စပ်လျဉ်းသော ပြစ်မှုများ



## အခန်း ၆-ခ

## အခြားနိုင်ငံများကိုအသရေပျက်စေမှု



## အခန်း ၇

## ကြည်းတပ်၊ ရေတပ်၊ လေတပ်နှင့်ဆိုင်သော ပြစ်မှုများ

## အခန်း ၈

## နိုင်ငံတော် ငြိမ်ဝပ်ရေးကို ပျက်စေသောပြစ်မှုများ

## အခန်း ၉

## ပြည်သူ့ဝန်ထမ်းတို့ ကျူးလွန်သော၊ သို့တည်းမဟုတ် ပြည်သူ့ဝန်ထမ်းတို့နှင့် သက်ဆိုင်သော ပြစ်မှုများ

ပုဒ်မများ စာမျက်နှာ

## အခန်း ၉-က

## ရွေးကောက်ပွဲဆိုင်ရာပြစ်မှုများ



## အခန်း ၁၀

## ပြည်သူ့ဝန်ထမ်းများ၏ ဥပဒေရ အာဏာကိုမထီလေးစားပြုခြင်း

ပုဒ်မများ။ မျက်နှာ။



## အခန်း ၁၁

## မမှန်သက်သေခံမှုနှင့် ဖြောင့်မှန်စွာ တရားစီရင်ရေးကို ဆန့်ကျင်သော ပြစ်မှုများ

ပုဒ်မများ။ စာမျက်နှာ။

## အခန်း ၁၂

### ဒင်္ဂါးမှစ၍၊ အစိုးရတံဆိပ်ခေါင်းများနှင့် သက်ဆိုင်သောပြစ်မှုများ

## အခန်း ၁၃

## အလေးအချိန်အတွယ်တင်းတောင်းနှင့် အတိုင်းအတာများဆိုင်ရာ ပြစ်မှုများ



## အခန်း ၁၄

## ပြည်သူ့ကျန်းမာမှု၊ လုံခြုံမှု၊ သက်သာမှု၊ သိက္ခာစောင့်စည်းမှုနှင့် ကိုယ်ကျင့်တရားရှိမှုကိုထိခိုက်စေသောပြစ်မှုများ

## အခန်း ၁၅

## ဘာသာ သာသနာဆိုင်ရာပြစ်မှုများ

ပုဒ်မများ။ စာမျက်နှာ။



## အခန်း ၁၆

## လူ့ကိုယ်ကိုထိခိုက်သောပြစ်မှုများ

## လူ့အသက်ကိုထိခိုက်သောပြစ်မှုများ



## ကိုယ်ဝန် ပျက်စေခြင်း၊ မဖွါးသေးသည့် ကလေးကို နာကျင်စေခြင်း၊ ဆယ့်နှစ်နှစ်အောက် ကလေးကို စွန့်ပစ်ခြင်း၊ ကလေးမီးဖွါးကြောင်းကို ထိမ်ချန်ခြင်း

## နာကျင်စေမှု

# မာတိကာ

## ခြောက်လှန့်တောင်းယူမှု



## လုယက်မှုနှင့်ဓါးပြမှု

ပုဒ်မများ။ စာမျက်နှာ။

## ရာဇဝတ်မကင်းသော ပစ္စည်းအလွဲသုံးစားမှု



## ရာဇဝတ်မကင်းသော ယုံကြည်အပ်နှံရေးဖေါက်ဖျက်မှု



## ခိုးရာပါပစ္စည်းလက်ခံမှု



## လိမ်လည်မှု

## ရာဇဝတ်မကင်းသောကျော်နင်းမှုများ

မာတိကာ

ပုဒ်မများ။ ... စာမျက်နှာ



## အခန်း ၁၈

## စာတမ်း အမှတ်အသားနှင့်ရင်း၊ ကုန်တံဆိပ်၊ သို့တည်းမဟုတ် ပစ္စည်း တံဆိပ်များနှင့်ရင်း စပ်လျဉ်းသောပြစ်မှုများ

## အခန်း ၂၂

## ရာဇဝတ်မကင်းသော ခြောက်လှန့်မှု၊ စော်ကားမှုနှင့် စိတ်ပြို့ငြင်စေမှု



## အခန်း ၂၃

## ပြစ်မှုကျူးလွန်ရန်အားထုတ်မှုများ

# ရာဇသတ်ကြီး

(၁၈၆၀ ခု၊ မေလ ၁ ရက်။)

## အခန်း ၁။

## နိဒါန်း။

၁။ ။ • • • •

ပြည်ထောင်စု နိုင်ငံတော် အတွင်း၌ ကျူးလွန် သော ပြစ်မှုများ အတွက် ပြစ်ဒဏ်။

၂။ ။မည်သူမဆို၊ ပြည်ထောင်စု နိုင်ငံတော် အတွင်းတွင် ဤရာဇသတ်ကြီး ပါ ပြဋ္ဌာန်းချက်များကို ဆန့်ကျင်၍ပြုလုပ်လျှင်၊ သို့တည်းမဟုတ် ထိုပြဋ္ဌာန်းချက်များအတိုင်း မပြုလုပ်ဘဲ ပျက်ကွက်လျှင်၊ ထိုသူကို ဤရာဇသတ်ကြီးအရ ပြစ်ဒဏ်ထိုက်သင့်စေရမည်။ အခြားနည်းအားဖြင့် ပြစ်ဒဏ်ထိုက်သင့်ခြင်း မရှိစေရ။

ပြည်ပတွင်ကျူးလွန်သော ပြစ်မှုများအတွက် ပြည်တွင်းတွင် ဥပဒေအရ စစ်ဆေးစီရင် ပြစ်ဒဏ်ပေးခြင်း။

၃။ ။မည်သူမဆို၊ ပြည်ထောင်စု နိုင်ငံတော်အပ၌ ကျူးလွန်သော ဤရာဇသတ်ကြီး ဆိုင်ရာပြစ်မှုအတွက်၊ ပြည်ထောင်စုနိုင်ငံတော်၏ တည်ဆဲဥပဒေ တခုခုအရ စစ်ဆေးစီရင်ခြင်းခံရန် ထိုက်သင့်လျှင်၊ ထိုသူကို ပြည်ထောင်စု နိုင်ငံတော်အတွင်း ကျူးလွန်သော ဤရာဇသတ်ကြီး ဆိုင်ရာ ပြစ်မှုအတွက် စစ်ဆေးစီရင်ဘိသကဲ့သို့ စစ်ဆေးစီရင်ရမည်။

ဤရာဇသတ်ကြီးကို ပြည်ပ၌ ကျူးလွန်သောပြစ်မှုများနှင့် သက်ဆိုင်စေခြင်း။

၄။ ။ဤရာဇသတ်ကြီးပါ ပြဋ္ဌာန်းချက်များကို မည်သည့် အရပ်၌မဆို ရှိနေသော ပြည်ထောင်စုနိုင်ငံသား ကျူးလွန်သည့် ပြစ်မှုများနှင့်လည်း သက်ဆိုင်စေရမည်။

**ရှင်းလင်းချက်။** ။ဤပုဒ်မ အလို့ငှါ "ပြစ်မှု" ဆိုသောစကားတွင်၊ ပြည်ထောင်စုနိုင်ငံတော်အပ၌ ကျူးလွန်သော ပြစ်မှု ဖြစ်စေကာမူ၊ ဤရာဇသတ်ကြီး၌ အဓိပ္ပါယ်ဖေါ်ပြထားသော ပြစ်မှုမျိုး ဖြစ်လျှင်၊ ထိုပြစ်မှုလည်း ပါဝင်သည်။

ဤရာဇသတ်ကြီးနှင့် မသက်ဆိုင်သော အချို့ဥပဒေများ။

၅။ ။ဤရာဇသတ်ကြီး၌ ပါရှိသောအချက်ကြောင့်၊ ပြည်ထောင်စု နိုင်ငံတော် ကြည်း၊ ရေ၊ လေ၊ တပ်တခုခုတွင်ထမ်းရွက်သော စစ်သားများအား၊ သို့တည်းမဟုတ် အရာရှိများအား ပြစ်ဒဏ်စီရင်ရေး အတွက် ပြဋ္ဌာန်းထားသော အက်ဥပဒေကိုသော်၎င်း၊ အထူး ဥပဒေ တခုခုကိုသော်၎င်း၊ ဒေသန္တရ ဥပဒေ တခုခုကိုသော်၎င်း ထိခိုက်ခြင်းမရှိစေရ။

# အခန်း ၂။

## အရပ်ရပ်ဆိုင်ရာ ရှင်းလင်းချက်များ။

**ကင်းလွတ်ချက်များကို အထောက် အထားပြု၍၊ ဤ အက်ဥပဒေတွင် အဓိပ္ပါယ် ကောက်ယူခြင်း။**

၆။ ။ဤရာဇသတ်ကြီး တစောင်လုံးတွင် ပြစ်မှု၏ အင်္ဂါအရပ်ရပ်ကိုရှင်း၊ ရာဇဝတ်ပြစ်ဒဏ် ပြဋ္ဌာန်းချက် အရပ်ရပ်ကိုရှင်း၊ ယင်းအင်္ဂါ အရပ်ရပ်ကို ဖြစ်စေ၊ ရာဇဝတ်ပြစ်ဒဏ် ပြဋ္ဌာန်းချက်အရပ်ရပ်ကိုဖြစ်စေ ရှင်းလင်းပြသည့် ဥပမာ အရပ်ရပ်ကိုရှင်း အဓိပ္ပါယ် ကောက်ယူသည့် အခါတိုင်း "အရပ်ရပ်ဆိုင်ရာ ကင်းလွတ်ရမြဲ အချက်များ" ဟူသောအခန်းပါ ကင်းလွတ်ချက်များကို အထောက်အထားပြု၍ အဓိပ္ပါယ်ကောက်ယူရမည်။

### ဥပမာများ။

(က) ဤရာဇသတ်ကြီးတွင် ပြစ်မှုများ၏ အင်္ဂါများကို ဖော်ပြသည့် ပုဒ်မများ၌၊ အသက် ၇ နှစ်မပြည့်သေးသော ကလေးသူငယ်သည်၊ ထိုပြစ်မှုများကို မကျူးလွန်နိုင်ကြောင်း ဖော်ပြထားခြင်း မရှိသော်လည်း၊ အသက် ၇ နှစ်မပြည့်သေးသည့် ကလေးသူငယ် ပြုသောအရာသည် ပြစ်မှု မမြောက်စေရဟု ပြဋ္ဌာန်းသည့် အရပ်ရပ်ဆိုင်ရာ ကင်းလွတ်ရမြဲ အချက်ကို အထောက်အထားပြု၍၊ ပြစ်မှု၏အင်္ဂါများကို အဓိပ္ပါယ်ကောက်ယူရမည်။

(ခ) လူသတ်မှု ကျူးလွန်သူ မောင်မဲကို၊ ရဲအရာထမ်း မောင်ဖြူကဝရမ်းမပါဘဲ ဖမ်းဆီးရာတွင်၊ မောင်ဖြူသည် မတရားချုပ်နှောင်ထားမှုကို ကျူးလွန်ရာမရောက်။ မောင်ဖြူသည် မောင်မဲကို ဥပဒေအရ ဖမ်းဆီးရန် တာဝန်ရှိသဖြင့်၊ ထိုသို့ဖမ်းဆီးခြင်းသည် "ဥပဒေအရပြုရန် တာဝန်ရှိသူပြုသော အရာသည် ပြစ်မှုမမြောက်" ဟု ပြဋ္ဌာန်းထားသော အရပ်ရပ်ဆိုင်ရာ ကင်းလွတ်ရမြဲ အချက်၌ ကျရောက်သက်ဆိုင်နေသောကြောင့်ဖြစ်သည်။

**တကြိမ် အဓိပ္ပါယ် ဖော်ပြပြီးလျှင်၊ ထိုအဓိပ္ပါယ်ဖော်ပြထားသည့် အတိုင်း၊ ထုံးစွဲရခြင်း။**

၇။ ။ဤရာဇသတ်ကြီးတွင် တနေရာ၌ အဓိပ္ပါယ် ဖော်ပြထားသော စကားတရပ်ရပ်ကို အဓိပ္ပါယ် ဖော်ပြထားသည့် အတိုင်း တစောင်လုံးတွင် သုံးစွဲသည်။

**လိင်။**

၈။ ။ဝိဘတ်နှင့်တွဲသည်ဖြစ်စေ၊ မတွဲသည်ဖြစ်စေ "သူ" ဆိုသည့်နာမ်စားကို ယောကျ်ား၊ မိန်းမနှစ်မျိုးလုံးအတွက် သုံးစွဲသည်။

**သချ်ာ။**

၉။ ။ရှေ့နောက်စကားတို့၌ အဓိပ္ပါယ် မဆန့်ကျင်လျှင်၊ ကေဝုစ်အဓိပ္ပါယ် သက်သည့် စကားတွင် ဗဟုဝုစ် အဓိပ္ပါယ်သက်ဝင်သည်။ ဗဟုဝုစ်အဓိပ္ပါယ် သက်သည့် စကားတွင်လည်း ကေဝုစ်အဓိပ္ပါယ်သက်ဝင်သည်။

ယောကျ်ား၊ မိန်းမ။

၁၀။ ။"ယောကျ်ား" ဆိုသည်မှာ၊ အသက်အရွယ်ကြီးသည်ဖြစ်စေ၊ ငယ်သည်ဖြစ်စေ လူယောကျ်ားကိုဆိုလိုသည်။ "မိန်းမ" ဆိုသည်မှာ၊ အသက်အရွယ်ကြီးသည်ဖြစ်စေ၊ ငယ်သည်ဖြစ်စေ လူမိန်းမကိုဆိုလိုသည်။

"တဦး တယောက်"၊ "တဦး"။

၁၁။ ။"တဦးတယောက်သောသူ"၊ "သူတဦး" ဆိုသည်တွင်၊ ဥပဒေအရ ဖွဲ့စည်းသည်ဖြစ်စေ၊ မဖွဲ့စည်းသည်ဖြစ်စေ ကုမ္ပဏီ၊ သို့တည်းမဟုတ် အဖွဲ့အစည်း၊ သို့တည်းမဟုတ် လူအစုလည်း ပါဝင်သည်။

အများပြည်သူ။

၁၂။ ။"အများပြည်သူ" သို့တည်းမဟုတ် "ပြည်သူ" ဆိုသည်တွင်၊ အများပြည်သူတို့အနက် မည်သည့်အမျိုးအစားမဆို၊ သို့တည်းမဟုတ် မည်သည့်လူမျိုးစုမဆို ပါဝင်သည်။

၁၃။ ။ * * * *

အစိုးရရာထမ်းမှုထမ်း။

၁၄။ ။"အစိုးရရာထမ်းမှုထမ်း" ဆိုရာ၌၊ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရသော်၎င်း၊ နိုင်ငံတော် သမတကသော်၎င်း၊ နိုင်ငံတော်သမတ၏ အာဏာအရသော်၎င်း ဆက်လက်ထမ်းရွက်ရသူ၊ သို့တည်းမဟုတ် ခန့်ထားခြင်းခံရသူ၊ သို့တည်းမဟုတ် စေခိုင်းခြင်းခံရသူရာထမ်းမှုထမ်းအရပ်ရပ်တို့ ပါဝင်သည်။

၁၅။ ။ * * * *

၁၆။ ။ * * * *

အစိုးရ။

၁၇။ ။"အစိုးရ" ဆိုသည်မှာ၊ ပြည်ထောင်စု နိုင်ငံတော် တဝှမ်းလုံးတွင် မည်သည့်အရပ်၌မဆို၊ ဥပဒေအရ အုပ်ချုပ်မှုအာဏာရရှိသော သူတဦးကိုဖြစ်စေ၊ အများကိုဖြစ်စေ ဆိုလိုသည်။

၁၈။ ။ * * * *

တရားသူကြီး။

၁၉။ ။"တရားသူကြီး" ဆိုသည်မှာ၊ တရားသူကြီးရာထူးအမည်ခံသူကိုသာ ဆိုလိုသည် မဟုတ်။ တရားမမှုတွင်ဖြစ်စေ၊ ရာဇဝတ်မှုတွင်ဖြစ်စေ ဆုံးခန်းရောက်စေသည့် စီရင်ချက်ကိုသော်၎င်း၊ အယူမခံလျှင် ဆုံးခန်းရောက်စေမည့် စီရင်ချက်ကိုသော်၎င်း၊ အခြားအာဏာပိုင် တဦးဦးက အတည်ပြုလျှင် ဆုံးခန်းရောက်စေမည့် စီရင်ချက်ကိုသော်၎င်း ချမှတ်ရန် ဥပဒေအရ အာဏာရသူကိုလည်း ဆိုလိုသည်။ သို့တည်းမဟုတ် ထိုကဲ့သို့သော အာဏာရသော လူစုတွင် ပါဝင်သည့်သူတဦးဦးကိုလည်း ဆိုလိုသည်။

ဥပမာများ။

(က) * * * *

(ခ) အယူခံခွင့်ရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ ငွေဒဏ်သော်၎င်း၊ ထောင်ဒဏ်သော်၎င်း စီရင်နိုင်သည့် စွဲချက်နှင့် စပ်လျဉ်း၍၊ စီရင်ခွင့် အာဏာရှိသော ရာဇဝတ်တရားသူကြီးသည် တရားသူကြီးဖြစ်သည်။

(ဂ) * * * *

(ဃ) စွဲချက်တခုခုကို စစ်ဆေးရန်သာအာဏာရှိ၍၊ ထိုစွဲချက်ကို စစ်ဆေးစီရင်စေရန် အခြားရုံးသို့ လွှဲအပ်တင်ပို့ရသော ရာဇဝတ်တရားသူကြီးသည် တရားသူကြီးမဟုတ်။

၂၀။ ။"တရားရုံး" ဆိုသည်မှာ၊ တရားစီရင်ဆဲအခါတွင် တဦးတည်းတရားစီရင်ရန် ဥပဒေအရ အာဏာရရှိသော တရားသူကြီးကိုသော်၎င်း၊ အစုအညီ စည်းဝေး၍ တရားစီရင်ရန် ဥပဒေအရ အာဏာရရှိသော တရားသူကြီးစုကိုသော်၎င်း ဆိုလိုသည်။

တရားရုံး။

၂၁။ ။"ပြည်သူ့ဝန်ထမ်း" ဆိုသည်မှာ၊ အောက်ဖော်ပြပါ သူတမျိုးမျိုးကို ဆိုလိုသည်။

ပြည်သူ့ဝန်ထမ်း။

ပဌမ။ ။အစိုးရပင့်ဳိညာဥ်ခံအမှုထမ်း။

ဒုတိယ။ ။နိုင်ငံတော် ကြည်း၊ ရေ၊ လေတပ်ဆိုင်ရာ ရေးရာပိုင် အရာရှိ။

တတိယ။ ။တရားသူကြီး။

စတုတ္ထ။ ။ဥပဒေနှင့် သက်ဆိုင်သည့် အကြောင်းကိုဖြစ်စေ၊ ဖြစ်ပျက်ပုံ အချင်းအရာကိုဖြစ်စေ ရာထူးအလျောက် မေးမြန်း စုံထောက်ရန်၊ သို့တည်းမဟုတ် အစီရင်ခံရန်၊ သို့တည်းမဟုတ် စာတမ်းအမှတ်အသားကိုပြုရန်၊ သို့တည်းမဟုတ် မှန်ကြောင်း လက်မှတ်ရေးထိုးရန်၊ သို့တည်းမဟုတ် ထားရှိရန်၊ သို့တည်းမဟုတ် ပစ္စည်းကို ရယူထိန်းသိမ်းရန်၊ သို့တည်းမဟုတ် စီမံထုခွဲရန်၊ သို့တည်းမဟုတ် တရားစီရင်မှုဆိုင်ရာ အမိန့်ဆင့်စာ စသည်များကို အတည်ဖြစ်အောင် ဆောင်ရွက်ရန်၊ သို့တည်းမဟုတ် ကျမ်းသစ္စာတိုက်ရန်၊ သို့တည်းမဟုတ် ဘာသာပြန်ဆိုရန်၊ သို့တည်းမဟုတ် ရုံးတော်တွင် ငြိမ်ဝပ်စေရအောင် စောင့်ရှောက်ရန် တာဝန်ဝတ်တရားရှိသော တရားရုံးအရာရှိ။ ထိုပြင် ဆိုခဲ့သော တာဝန်ဝတ်တရား အရပ်ရပ်ကို ဆောင်ရွက်ရန် တရားရုံး၏ အထူးသီးခြား အာဏာလွှဲအပ်ခြင်းကို ခံရသူ။

ပဉ္စမ။ ။တရားရုံးကိုဖြစ်စေ၊ ပြည်သူ့ဝန်ထမ်းကိုဖြစ်စေ ကူညီသော ဂျူရီလူကြီး၊ သို့တည်းမဟုတ် ကျေးရွာကော်မီတီလူကြီး။

ဆဋ္ဌမ။ ။ဆုံးဖြတ်ရန်သော်၎င်း၊ အစီရင်ခံရန်သော်၎င်း မည်သည့်အမှုကိုမဆို၊ သို့တည်းမဟုတ် မည်သည့်အကြောင်းအရာကိုမဆို၊ တရားရုံး၏၊ သို့တည်းမဟုတ် အာဏာရ ပြည်သူ့ဝန်ထမ်း အာဏာပိုင်အဖွဲ့၏ လွှဲအပ်ခြင်းကို ခံရသော အနုညာတ ခုံလူကြီး၊ သို့တည်းမဟုတ် အခြားလူကြီး။

သတ္တမ။ ။တဦးတယောက်သောသူကို ချုပ်နှောင်ပိုင်၊ သို့တည်းမဟုတ် ချုပ်နှောင်ထားပိုင်ခွင့် အာဏာရ ရာထူးလက်ရှိဖြစ်သူ။

**အငှမ။** ။ရာထူးအလျောက် ပြစ်မှုများကို တားမြစ်ရန်၊ သို့တည်းမဟုတ် ပြစ်မှုအကြောင်းအရာကို သတင်းပေးရန်၊ သို့တည်းမဟုတ် ပြစ်မှုကျူးလွန်သူတို့ကို ဥပဒေနှင့်အညီဖြစ်စေရန်သော်၎င်း၊ ပြည်သူ့ကျန်းမာရေးကိုဖြစ်စေ၊ လုံခြုံရေးကိုဖြစ်စေ၊ သက်သာရေးကိုဖြစ်စေ စောင့်ရှောက်ရန်သော်၎င်း တာဝန်ဝတ်တရားရှိသော အစိုးရအရာရှိ။

**နဝမ။** ။ရာထူးအလျောက်အစိုးရအတွက် ပစ္စည်းကိုရယူရန်၊ သို့တည်းမဟုတ် လက်ခံရန်၊ သို့တည်းမဟုတ် ထားရှိရန်၊ သို့တည်းမဟုတ် သုံးစွဲရန် တာဝန်ဝတ်တရားရှိသော အရာရှိ။ အစိုးရအတွက် စစ်ဆေးခန့်မှန်းရန်၊ သို့တည်းမဟုတ် တန်ဘိုးဖြတ်ရန်၊ သို့တည်းမဟုတ် အခွန်စည်းကြပ်ရန်၊ သို့တည်းမဟုတ် ပဋိညာဉ်ပြုရန်တာဝန်ဝတ်တရားရှိသောအရာရှိ။ အခွန်တော်နှင့်စပ်လျဉ်းသည့်အမိန့်ဆင့်စာစသည်များကို အတည်ဖြစ်အောင်ဆောင်ရွက်ရန်တာဝန်ဝတ်တရားရှိသော အရာရှိ။ အစိုးရငွေကြေးအခွင့်အရေးဆိုင်ရာ အမှုကိစ္စကို မေးမြန်းစုံထောက်ရန်၊ သို့တည်းမဟုတ် အစီရင်ခံရန် တာဝန်ဝတ်တရားရှိသော အရာရှိ။ အစိုးရငွေကြေး အခွင့်အရေးဆိုင်ရာ စာတမ်းအမှတ်အသားကိုပြုရန်၊ သို့တည်းမဟုတ် မှန်ကြောင်း လက်မှတ်ရေးထိုးရန်၊ သို့တည်းမဟုတ် ထားရှိရန်တာဝန်ဝတ်တရားရှိသော အရာရှိ။ အစိုးရငွေကြေး အခွင့်အရေးဆိုင်ရာ အကျိုးစီးပွါးကိုစောင့်ရှောက်ရန်အလို့ငှါ ပြဋ္ဌာန်းထားသည့်ဥပဒေကို ကျူးလွန်ခြင်းမရှိစေရအောင်တားဆီးရန် တာဝန်ဝတ်တရားရှိသောအရာရှိ။ ထို့ပြင် နိုင်ငံတော်က ခန့်ထား၍ နိုင်ငံတော်၏အမှုကိုထမ်းရွက်သော၊ သို့တည်းမဟုတ် လစာကိုယူသော အရာရှိ။ အများပြည်သူဆိုင်ရာ တာဝန်ဝတ်တရား ဆောင်ရွက်ရေးအတွက် အခကြေးငွေသော်၎င်း၊ ကော်မရှင်သော်၎င်း ရရှိသော အရာရှိ၊ သို့တည်းမဟုတ် အစိုးရအဖွဲ့ဝင်ဝန်ကြီး။

**ဒသမ။** ။ကျေးရွာတွင်၊ သို့တည်းမဟုတ် မြို့တွင်၊ သို့တည်းမဟုတ် ခရိုင်တွင်၊ အများနှင့်သက်ဆိုင်သော လောကီရေးကိစ္စအတွက် ရာထူးအလျောက်ပစ္စည်းကို ရယူရန်၊ သို့တည်းမဟုတ် လက်ခံရန်၊ သို့တည်းမဟုတ်ထားရှိရန်၊ သို့တည်းမဟုတ် သုံးစွဲရန် တာဝန်ဝတ်တရားရှိသော အရာရှိ။ စစ်ဆေးခန့်မှန်းရန်၊ သို့တည်းမဟုတ် တန်ဘိုးဖြတ်ရန် တာဝန်ဝတ်တရားရှိသော အရာရှိ။ အခွန်ကောက်ခံရန် တာဝန်ဝတ်တရားရှိသော အရာရှိ။ ကျေးရွာ၊ သို့တည်းမဟုတ် မြို့၊ သို့တည်းမဟုတ် ခရိုင်နေသူတို့၏ဆိုင်ရာ ဆိုင်ခွင့်များကိုသေချာစွာ သိသာနိုင်အောင် စာတမ်း အမှတ်အသားပြုရန်၊ သို့တည်းမဟုတ် မှန်ကန်ကြောင်း လက်မှတ်ရေးထိုးရန်၊ သို့တည်းမဟုတ် ထားရှိရန် တာဝန်ဝတ်တရားရှိသော အရာရှိ။

**ဧကဒသမ။** ။ရွေးကောက်ပွဲစာရင်းကို စီမံရေးသားရန်၊ သို့တည်းမဟုတ် ထုတ်ပြန်ကြေညာရန်၊ သို့တည်းမဟုတ် ထားရှိရန်၊ သို့တည်းမဟုတ် ထပ်မံပြင်ဆင်ရန် အာဏာရ ရာထူးလက်ရှိဖြစ်သူ၊ ရွေးကောက်ပွဲတခုအတွက်ဖြစ်စေ၊ တစိတ်တဒေသအတွက်ဖြစ်စေ ဆောင်ရွက်ရန် အာဏာရ ရာထူးလက်ရှိဖြစ်သူ။

ဥပမာ။

မြူနီစီပါယ်လူကြီးတိုင်းသည် ပြည်သူ့ဝန်ထမ်းဖြစ်သည်။

ရှင်းလင်းချက် ၁။ ။အထက်က ဖေါ်ပြခဲ့သောသူများသည် အစိုးရကခန့်ထားသည်ဖြစ်စေ မခန့်ထားသည်ဖြစ်စေ ပြည်သူ့ဝန်ထမ်းဖြစ်သည်။

ရှင်းလင်းချက် ၂။ ။"ပြည်သူ့ဝန်ထမ်း" ဆိုသည့်စကားရပ် ပါရှိသည့် နေရာတိုင်းတွင်၊ ပြည်သူ့ဝန်ထမ်း ရာထူးလက်ရှိ ဖြစ်နေခြင်းသည် ဥပဒေသဘောအရ ချို့နေစေကာမူ၊ ထိုရာထူးလက်ရှိဖြစ်နေသူကိုလည်းဆိုသည်။

ရှင်းလင်းချက် ၃။ ။"ရွေးကောက်ပွဲ" ဆိုသည်မှာ၊ ပြည်ထောင်စု ပါလီမန်၊ သို့တည်းမဟုတ် မြူနီစီပါယ်အဖွဲ့၊ သို့တည်းမဟုတ် အများပြည်သူဆိုင်ရာ အခြား အာဏာရ အဖွဲ့ဝင်လူကြီးကိုဖြစ်စေ၊ အရာရှိကိုဖြစ်စေ ရွေးချယ်ရန်ကိစ္စအလို့ငှါ ဥပဒေဖြင့် ပြဋ္ဌာန်းသည့် စံနစ်အတွင်း ရွေးကောက်ခြင်းကို ဆိုလိုသည်။

**ရွှေ့ပြောင်း နိုင်သည့် ပစ္စည်း။**

၂၂။ ။"ရွှေ့ပြောင်းနိုင်သည့်ပစ္စည်း" ဆိုသည်တွင်၊ မြေ၊ ထိုပြင်-မြေ၌ စွဲကပ်သောအရာများ၊ သို့တည်းမဟုတ် မြေ၌စွဲကပ်သော အရာတွင် အမြဲတွယ်ထားသည့် အရာများမှတပါး၊ အကောင်အထည် ရှိသော ကျန်ဝတ္ထုပစ္စည်းအမျိုးမျိုးကို ပါဝင်စေရန် ရည်ရွယ်၍ဆိုလိုသည်။

**မတရားရယူခြင်း။**

၂၃။ ။"မတရားရယူခြင်း" ဆိုသည်မှာ၊ ရယူသူသည် ဥပဒေနှင့်အညီ ပိုင်ခွင့်မရှိသော ပစ္စည်းကို မတရားသောနည်းဖြင့်ရယူခြင်းကို ဆိုလိုသည်။

**မတရားဆုံးရှုံးခြင်း။**

"မတရားဆုံးရှုံးခြင်း" ဆိုသည်မှာ၊ ဆုံးရှုံးသူသည် ဥပဒေနှင့်အညီ ပိုင်ခွင့်ရှိသောပစ္စည်းကို မတရားသော နည်းဖြင့် ဆုံးရှုံးခြင်းကို ဆိုလိုသည်။

**မတရားရယူခြင်း၊ မတရား ဆုံးရှုံးခြင်း။**

တဦးတယောက်သောသူသည် မတရားရရှိသောအခါ၌သော်၎င်း၊ မတရား ဆက်လက်ထားရှိသောအခါ၌သော်၎င်း မတရား ရယူသည်မည်၏။ တဦးတယောက်သောသူသည် ပစ္စည်းကို မရနိုင်အောင် မတရား တားဆီးခံရသောအခါ၌ သော်၎င်း၊ ပစ္စည်းကို မတရား လက်လွှတ်ခံရသောအခါ၌သော်၎င်း မတရားဆုံးရှုံးသည်မည်၏။

**မရိုးမဖြောင့်ခြင်း။**

၂၄။ ။မတရားရယူစေရန် အကြံနှင့်ဖြစ်စေ၊ မတရားဆုံးရှုံးစေရန် အကြံနှင့်ဖြစ်စေ မည်သူမဆို၊ တဦးတယောက်သောသူအားပြုလျှင်၊ ထိုသူသည် "မရိုးမဖြောင့်" ပြုသည်မည်၏။

**လိမ်လည်လှည့်ဖြားခြင်း။**

၂၅။ ။မည်သူမဆို၊ လိမ်လည်လှည့်ဖြားလိုသော အကြံနှင့်ပြုလျှင်၊ ထိုသူသည် "လိမ်လည်လှည့်ဖြား၍" ပြုသည်မည်၏။ ထိုအကြံမျိုးမရှိလျှင်၊ လိမ်လည်လှည့်ဖြား၍ ပြုသည်မမည်။

**ယုံကြည်ရန်အကြောင်း။**

၂၆။ ။ယုံကြည်ရန် လုံလောက်သော အချက်အလက်ရှိသောအခါမှ့်မှတပါး၊ မည်သည့်အရာကိုမျှ "ယုံကြည်ရန်အကြောင်း" ရှိသည်မမည်။

၂၇။ ။ပစ္စည်းတခုသည် တဦးတယောက်သောသူ၏ မယား၊ သို့တည်းမဟုတ် ထိုသူ၏ စာရေး၊ သို့တည်းမဟုတ် ထိုသူ၏ အစေခံလက်တွင် ထိုသူပိုင် ပစ္စည်းအဖြစ်ဖြင့်ရှိသည့်အခါ၊ ဤဥပဒေသတ်ကြီးအလို့ငှါ ထိုပစ္စည်းသည် ထိုသူ၏လက်ရှိဖြစ်သည်ဟု မှတ်ယူရမည်။

မယား၊ သို့တည်း မဟုတ် စာရေး၊ သို့တည်းမဟုတ် အစေခံလက်ရှိပစ္စည်း။

ရှင်းလင်းချက်။ ။စာရေးအဖြစ်ဖြင့်သော်၎င်း၊ အစေခံအဖြစ်ဖြင့်သော်၎င်း ခေတ္တ ဖြစ်စေ၊ သီးခြားကိစ္စတရပ်ရပ်အတွက်ဖြစ်စေ စေခိုင်းခံရသူသည် ဤပုဒ်မ၏အဓိပ္ပါယ်အလို့ငှါ၊ စာရေး၊ သို့တည်းမဟုတ် အစေခံဖြစ်သည်ဟု မှတ်ယူရမည်။

၂၈။ ။တဦးတယောက်သောသူသည် အရာဝတ္ထုတခု၏ ပုံသဏ္ဌာန်ကို ဆင်တူယိုးမှား ပြုရာ၌၊ ထိုသို့ဆင်တူယိုးမှားဖြစ်ခြင်းကို အကြောင်းပြု၍ လှည့်ဖြားရန်ကြံရွယ်လျှင်၊ သို့တည်းမဟုတ် လှည့်ဖြားခြင်း ဖြစ်တန်ရာသည်ကိုသိလျှင်၊ ထိုသူသည် အတုပြုသည်မည်၏။

အတုပြုခြင်း။

ရှင်းလင်းချက် ၁။ ။အတုပြုခြင်းတွင် ပုံသဏ္ဌာန်ထပ်တူကျနရန်မလို။

ရှင်းလင်းချက် ၂။ ။မှားလောက်အောင် ဆင်တူယိုးမှားဖြစ်နေလျှင်၊ လှည့်ဖြားရန် အကြံမရှိဟုသော်၎င်း၊ လှည့်ဖြားခြင်းဖြစ်တန်ရာသည်ကို မသိဟုသော်၎င်း သက်သေထင်ရှား မပြနိုင်သမျှကာလပတ်လုံး၊ လှည့်ဖြားရန် အကြံရှိသည်ဟုသော်၎င်း၊ လှည့်ဖြားခြင်း ဖြစ်တန်ရာသည်ကို သိသည်ဟုသော်၎င်း ဤကိစ္စအလို့ငှါ ယူဆရမည်။

၂၉။ ။"စာတမ်းအမှတ်အသား" ဆိုသည်မှာ၊ အကြောင်းအရာတခုခု၏ သက်သေခံ အဖြစ်ဖြင့် သုံးစွဲရန် ကြံရွယ်သော၊ သို့တည်းမဟုတ် သုံးစွဲနိုင်သော အက္ခရာဖြင့်ဖြစ်စေ၊ ဂဏန်းဖြင့်ဖြစ်စေ၊ အမှတ်အသားဖြင့်ဖြစ်စေ၊ ထိုနည်းများအနက် တနည်းထက်ပိုသောနည်းများဖြင့်ဖြစ်စေ၊ မည်သည့် အရာဝတ္ထုပေါ်၌မဆို ရေးသားထားသော၊ သို့တည်းမဟုတ် ဖော်ပြထားသော အကြောင်းအရာကို ဆိုလိုသည်။

စာတမ်းအမှတ်အသား။

ရှင်းလင်းချက် ၁။ ။ဆိုခဲ့သော အက္ခရာများကို၊ သို့တည်းမဟုတ် ဂဏန်းများကို၊ သို့တည်းမဟုတ် အမှတ်အသားများကို မည်သည့်ဝတ္ထုပေါ်တွင် မည်သည့်နည်းဖြင့် ရေးသား ဖော်ပြထားသည်ဖြစ်စေ၊ ဆိုခဲ့သော အကြောင်းအရာတို့ကို သက်သေခံအဖြစ်ဖြင့် တရားရုံး အတွက် ကြံရွယ်သည်ဖြစ်စေ၊ မကြံရွယ်သည်ဖြစ်စေ၊ တင်ပြသည်ဖြစ်စေ၊ မတင်ပြသည်ဖြစ်စေ ဤအချက်များသည် အရေးကြီးသော အချက်များမဟုတ်။

ဥပမာများ။

ပဋိညာဉ်ပြုကြောင်း သက်သေခံအဖြစ်ဖြင့် အသုံးပြုနိုင်သည့် စည်းကမ်းချက်များကို ဖော်ပြသောရေးသားချက်သည် စာတမ်းအမှတ်အသားဖြစ်သည်။

ငွေထုတ်ပေးရန် ဘဏ်တိုက်သို့ ညွှန်ကြားသော ချက်လက်မှတ်သည် စာတမ်းအမှတ် အသားဖြစ်သည်။

"ကိုယ်စားလှယ်စာ" သည်စာတမ်းအမှတ်အသားဖြစ်သည်။

သက်သေခံအဖြစ်ဖြင့် အသုံးပြုရန်ကြံရွယ်သော၊ သို့တည်းမဟုတ် အသုံးပြုနိုင်သော မြေပုံသည်၊ သို့တည်းမဟုတ် အိမ်ပုံစံအစရှိသော ပုံစံသည် စာတမ်းအမှတ်အသားဖြစ်သည်။

အမိန့်ဆင့်ဆိုချက်၊ သို့တည်းမဟုတ် ညွှန်ကြားချက်ပါရှိသောစာသည် စာတမ်းအမှတ်အသားဖြစ်သည်။

**ရှင်းလင်းချက် ၂။** ။ကုန်သည်တို့၊ သို့တည်းမဟုတ် အခြားသူတို့ ထုံးတမ်းအတိုင်း ရေးမှတ်သော အက္ခရာများသည်၊ သို့တည်းမဟုတ် ဂဏန်းများသည်၊ သို့တည်းမဟုတ် အမှတ်အသားများသည်၊ ရေးသားထားသည့်အတိုင်း အဓိပ္ပါယ်မပေါ်စေကာမူ ကုန်သည်တို့၏၊ သို့တည်းမဟုတ် အခြားသူတို့၏ ထုံးတမ်းအတိုင်း အဓိပ္ပါယ်ရှိသည်ဟု မှတ်ယူရမည်။

ဥပမာ။

မိမိညွှန်ကြားသူသို့ ငွေပေးချေရန်ဖြစ်သော ငွေလွှဲစာချုပ်ကျောဘက်တွင် မောင်ဖြူက မိမိ၏အမည်ကိုရေးသားလျှင်၊ ထိုရေးသားချက်သည် ကုန်သည်တို့ထုံးတမ်းအတိုင်း ထိုလက်မှတ်လက်ရှိဖြစ်သူအား ငွေပေးချေရမည်ဟု ဆိုလိုသည်။ ထိုရေးသားချက်သည် စာတမ်းအမှတ်အသားဖြစ်သည့်အပြင်၊ အမည်ရေးထိုးသော လက်မှတ်အထက်တွင် "လက်ရှိဖြစ်သူအား ပေးပါ" ဟူသော စကားကိုဖြစ်စေ၊ ထိုအဓိပ္ပါယ်သက်ရောက်သည့် စကားကိုဖြစ်စေ ရေးသား ဘိသကဲ့သို့ အဓိပ္ပါယ်ကောက်ယူရမည်။

၃၀။ ။"အတိုးတန်စာတမ်း အမှတ်အသား" ဆိုသည်မှာ၊ တရားဝင် အခွင့်အရေးကို ပြုလုပ်သော၊ သို့တည်းမဟုတ် ချဲ့ထွင်သော၊ သို့တည်းမဟုတ် လွှဲအပ်သော၊ သို့တည်းမဟုတ် ကန့်သတ်သော၊ သို့တည်းမဟုတ် ဖျက်သိမ်းသော၊ သို့တည်းမဟုတ် စွန့်လွှတ်သော စာတမ်းအမှတ်အသားကိုဖြစ်စေ၊ ထိုသို့ပြုလုပ်သည့်၊ သို့တည်းမဟုတ် ချဲ့ထွင်သည့်၊ သို့တည်းမဟုတ် လွှဲအပ်သည့်၊ သို့တည်းမဟုတ် ကန့်သတ်သည့်၊ သို့တည်းမဟုတ် ဖျက်သိမ်းသည့်၊ သို့တည်းမဟုတ် စွန့်လွှတ်သည့်အနေ သက်ရောက်သော စာတမ်းအမှတ်အသားကိုဖြစ်စေ၊ တဦးတယောက်က ဥပဒေအရ၊ တာဝန်ရှိကြောင်းသော်၎င်း၊ တရားဝင်အခွင့်အရေး မရှိကြောင်းသော်၎င်း ဝန်ခံသော စာတမ်းအမှတ်အသားကိုဖြစ်စေ ဆိုလိုသည်။

**အတိုးတန်စာတမ်း အမှတ်အသား။**

ဥပမာ။

မောင်ဖြူသည် ငွေလွှဲစာချုပ်ကျောဘက်တွင် မိမိ၏အမည်ကို ရေးသားရာ၊ ထိုရေးသားချက်သည် ထိုငွေလွှဲစာချုပ်ပိုင်ဆိုင်ခွင့်ကို တရားနှင့်အညီ စာချုပ်လက်ရှိဖြစ်သူအား လွှဲအပ်လိုက်သော သဘောသက်ရောက်သောကြောင့်၊ ထိုရေးသားချက်သည် "အတိုးတန်စာတမ်း အမှတ်အသား" ဖြစ်သည်။

၃၁။ ။"သေတမ်းစာ" ဆိုသည်မှာ၊ ရေးသားသူ သေဆုံးပြီးသည့်နောက် ပစ္စည်းများကို ခန့်ခွဲစီရင်စေရန် ညွှန်ကြားခဲ့သော စာတမ်းအမှတ်အသားကို ဆိုလိုသည်။

**သေတမ်းစာ။**

၃၂။ ။ရှေ့နောက်စကားတို့၌ ဆန့်ကျင်သောရည်ရွယ်ချက်မပေါ်ပေါက်လျှင်၊ ဤရာဇသတ်ကြီး၏အပိုင်းတိုင်း၌ ပြုလုပ်မှုများကိုရည်ညွှန်းသော စကားများသည်၊ဥပဒေနှင့် မညီသော ပျက်ကွက်မှုများနှင့်လည်း သက်ဆိုင်သည်။

**ပြုလုပ်မှုများကို ရည်ညွှန်းသော စကားများတွင် ဥပဒေနှင့် မညီသော ပျက်ကွက်မှုများလည်းပါဝင်ခြင်း။**

၃၃။ ။"ပြုလုပ်မှု" ဆိုသည်မှာ၊ တကြိမ်တည်းပြုလုပ်ခြင်းကိုလည်းဆိုလိုသည်၊ ဆက်ကာ ဆက်ကာ ပြုလုပ်ခြင်းများကိုလည်း ဆိုလိုသည်။ "ပျက်ကွက်မှု" ဆိုသည်မှာ၊ တကြိမ်တည်းပျက်ကွက်ခြင်းကိုလည်း ဆိုလိုသည်၊ ဆက်ကာ ဆက်ကာ ပျက်ကွက်ခြင်းများကိုလည်း ဆိုလိုသည်။

**ပြုလုပ်မှု၊ ပျက်ကွက်မှု။**

၃၄။ ။တဦးထက်ပိုသောသူများသည် မိမိတို့၏ အကြံတူတခုကို အထမြောက်စေရန် ရည်ရွယ်၍၊ ပြစ်မှုမြောက်သော ပြုလုပ်မှုကို ပြုခဲ့လျှင်၊ ထိုပြုလုပ်မှုကို တဦးတည်းပြုဘိသကဲ့သို့ ထိုသူအသီးသီး၌ တာဝန်ရှိသည်။

**အကြံတူ တခုကို အထမြောက်စေခြင်းငှါ၊တဦးထက်ပိုသော သူများက ပြုခြင်း။**

၃၅။ ။ရာဇဝတ်မကင်းသော အသိဉာဏ်နှင့်ဖြစ်စေ၊ အကြံနှင့်ဖြစ်စေ ပြုသောကြောင့်သာ ရာဇဝတ်မှုမြောက်သော ပြုလုပ်မှုတခုကို တဦးထက်ပိုသောသူများက ပြုခဲ့လျှင်၊ ထိုပြုလုပ်မှုကို ထိုသို့သော အသိဉာဏ်နှင့်ဖြစ်စေ၊ ထိုသို့သော အကြံနှင့် ဖြစ်စေ ပြုသူအသီးသီး၌သာ၊တဦးတည်းပြုဘိသကဲ့သို့ တာဝန်ရှိသည်။

**ရာဇဝတ် မကင်းသော အသိဉာဏ်နှင့်ဖြစ်စေ၊အကြံနှင့်ဖြစ်စေ ပြုသော ကြောင့်သာ၊ ရာဇဝတ်ပြစ်ဒဏ်ဆိုက်သောအမှု။**

၃၆။ ။ပြုလုပ်မှုဖြင့်ဖြစ်စေ၊ပျက်ကွက်မှုဖြင့်ဖြစ်စေအကျိုးသက်ရောက်စေခြင်းသည်၊ သို့တည်းမဟုတ် ထိုသို့ အကျိုးသက်ရောက်စေရန် အားထုတ်ခြင်းသည် ပြစ်မှုမြောက်လျှင်၊ ပြုလုပ်မှု တစိတ်တဒေသနှင့် ပျက်ကွက်မှု တစိတ်တဒေသတို့ ပေါင်းခြင်းဖြင့် အကျိုးသက်ရောက်စေခြင်းသည်လည်း ထိုပြစ်မှု ပင်မြောက်သည်ဟု မှတ်ယူရမည်။

**ပြုလုပ်မှု တစိတ် တဒေသအားဖြင့်၎င်း၊ ပျက်ကွက်မှု တစိတ်တဒေသအားဖြင့် ၎င်း၊ အကျိုးသက်ရောက်စေခြင်း။**

ဥပမာ။

အဘားအစာမပေး ဥပဒေနှင့် မညီသော ပျက်ကွက်ခြင်းနှင့် ရိုက်နှက်ခြင်းတို့ ပေါင်းခြင်းအားဖြင့် မောင်ဖြူသည် မောင်မဲအား တမင်သေစေ၏။ မောင်ဖြူသည် လူသတ်မှုကို ကျူးလွန်သည်။

၃၇။ ။ပြုလုပ်မှု အများကို ပေါင်းမှ ဖြစ်မှုတခုမြောက်သည့်တွင်၊ မည်သူမဆို ထိုဖြစ်မှုကို ကျူးလွန်ရာ၌၊ ဆိုခဲ့သော ပြုလုပ်မှုများအနက် တခုခုကို တဦးတည်းသော်၎င်း၊ အခြားသူနှင့် တွဲဖက်၍သော်၎င်း၊ ပြုခြင်းဖြင့် တမင်ပူးပေါင်း ဆောင်ရွက်လျှင်၊ ထိုသူသည် ထိုဖြစ်မှုကို ကျူးလွန်ရာ ရောက်သည်။

ပြုလုပ်မှု အများကို ပေါင်းမှ ဖြစ်မှုမြောက်သည့်တွင်၊ ထိုပြုလုပ်မှုများ အနက်၊ တခုခုကို ပြုခြင်းဖြင့် ပူးပေါင်းဆောင်ရွက်ခြင်း။

## ဥပမာများ။

(က) မောင်ဖြူနှင့် မောင်မဲတို့သည် တဦးစီတခါစီ အဆိပ်အနည်းငယ်သင့်စေခြင်းဖြင့် မောင်နီကို သတ်ရန် သဘောတူကြသည့်အတိုင်း၊ မောင်နီကိုသတ်ရန် ကြံရွယ်၍ အဆိပ်သင့်စေ၏။ မောင်နီသည် ထိုသို့အကြိမ်ကြိမ်သင့်စေသည့်အဆိပ်ကြောင့်သေဆုံး၏။ ဤတွင် မောင်ဖြူနှင့် မောင်မဲတို့သည် လူသတ်မှု ကျူးလွန်ရာ၌၊ တမင်ပူးပေါင်း ဆောင်ရွက်ကြ၏။ ထိုဖြင့် ထိုသူအသီးသီးသည် မောင်နီအား သေစေသော ပြုလုပ်မှုကို ပြုသည်ဖြစ်သောကြောင့် ထိုသူတို့၏ ပြုလုပ်မှုများသည် တခြားစီဖြစ်သော်လည်း၊ ထိုဖြစ်မှုအတွက် နှစ်ဦးလုံးပင် လူသတ်မှုဖြစ်ဒဏ် ထိုက်သင့်သည်။

(ခ) မောင်ဖြူနှင့် မောင်မဲတို့သည်တွဲဘက်ထောင်မှူးများဖြစ်ကြသည့်အတိုင်းအကျဉ်းသား မောင်နီကို ခြောက်နာရီကျတလှည့်စီ စောင့်ထိန်းကြရ၏။ မောင်ဖြူနှင့် မောင်မဲတို့သည် မောင်နီအား ကျွေးမွေးရန် ပေးအပ်ရရှိသော အစားအစာကို၊ဆိုင်ရာ အလှည့်ကျသော အခါများတွင် မောင်နီသေစေရန် ကြံရွယ်၍ မကျွေးဘဲ ဥပဒေနှင့်မညီသော ပျက်ကွက်ခြင်းဖြင့် မိမိတို့အကြံမြောက်စေရန်၊သိလျက်နှင့် ပူးပေါင်းဆောင်ရွက်ကြ၏။ မောင်နီသည် အစာငတ်သဖြင့် သေဆုံးသည်။ ဤတွင် မောင်ဖြူနှင့် မောင်မဲ နှစ်ဦးလုံးသည် မောင်နီကို သတ်မှုအတွက် လူသတ်မှုဖြစ်ဒဏ်ထိုက်သည်။

(ဂ) ထောင်မှူး မောင်ဖြူသည် အကျဉ်းသား မောင်နီကို စောင့်ထိန်းရသည်။ မောင်ဖြူသည် မောင်နီသေစေရန်ကြံရွယ်၍မောင်နီအား အစားအစာမပေး၊ ဥပဒေနှင့် မညီသော ပျက်ကွက်မှုကိုပြု၏။ ထိုကြောင့် မောင်နီသည် အင်အားယုတ်လျော့သည်၊ သို့ရာတွင် သေခြင်းသို့ မရောက်သေးချေ။ ထိုနောက် မောင်ဖြူသည်ရာထူးမှ နုတ်ခြင်းကို ခံရသည်။ မောင်ဖြူကို မောင်မဲက ဆက်ခံသည်။ မောင်မဲသည်မောင်ဖြူနှင့် ပူးပေါင်း ကြံစည်ခြင်းသော်၎င်း၊မောင်ဖြူနှင့် ပူးပေါင်း ဆောင်ရွက်ခြင်းသော်၎င်း မပြုသော်လည်း၊မောင်နီ သေတန်ရာသည်ကို သိလျက်နှင့် အစားအစာမပေး၊ ဥပဒေနှင့် မညီသောပျက်ကွက်မှုကိုပြုသောကြောင့်၊မောင်နီအစာငတ်၍ သေဆုံးလျှင်၊မောင်မဲသည် လူသတ်မှုကို ကျူးလွန်ရာ ရောက်သည်။ မောင်ဖြူမှာကား မောင်မဲနှင့် ပူးပေါင်းဆောင်ရွက်သူ မဟုတ်သောကြောင့် လူသတ်မှုကျူးလွန်ရန် အားထုတ်မှုအတွက်သာလျှင် အပြစ်ရှိသည်။

၃၈။ ။တဦးထက်ပိုသော သူများသည် ရာဇဝတ်မှု မြောက်သော ပြုလုပ်မှုတခုကို ကျူးလွန်ရာ၌ ပါဝင် သက်ဆိုင်ခဲ့လျှင်၊ ထိုသို့ပါဝင်သက်ဆိုင်ခြင်းဖြင့် သီးခြားဖြစ်မှုများကို ကျူးလွန်ရာ ရောက်နိုင်သည်။

ရာဇဝတ်မှု မြောက်သော ပြုလုပ်မှု တခုတွင်ပါဝင် သက်ဆိုင်သူတို့သည်၊ အသီးအခြား ဖြစ်သည့် ဖြစ်မှုများကို ကျူးလွန်ရာရောက်နိုင်ခြင်း။

ဥပမာ။

မောင်နီသည် မောင်ဖြူအား အလွန်အကျူး အမျက်ဒေါသထွက်အောင် ပြုသဖြင့်၊ မောင်ဖြူက မောင်နီကို သတ်၏။ မောင်မဲက ထိုသို့အမျက်ဒေါသ ထွက်အောင်ပြုခြင်းမခံရဘဲလျက်၊ မောင်နီအပေါ်၌ မုန်းထား၍၊ မောင်ဖြူက မောင်နီကို သတ်ရာတွင် သေစေရန် အကြံဖြင့် ကူညီ၏။ မောင်မဲမှာ လူသတ်မှုကို ကျူးလွန်သည်။ မောင်ဖြူမှာ ရာဇဝတ်ပြစ်ဒဏ်ထိုက်သော လူသေမှုကို ကျူးလွန်ရာရောက်သည်။

၃၉။ ။တဦးတယောက်သောသူသည် အကျိုးသက်ရောက်စေရန် ကြံရွယ်၍ပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့ပြုစဉ် အကျိုးသက်ရောက်မည်ကို သိလျက်နှင့် ဖြစ်စေ၊ အကျိုးသက်ရောက်တန်ရာသည်ကို ယုံကြည်ရန် အကြောင်းရှိလျက်နှင့်ဖြစ်စေပြုလျှင်၊ ထိုသူသည် မိမိအလိုအလျောက် ပြုသည်မည်၏။

မိမိ အလိုအလျောက်ပြုခြင်း။

ဥပမာ။

မောင်ဖြူသည် လုယက်ရာတွင် လွယ်ကူစေရန်အလို့ငှါ မြို့ကြီးတမြို့တွင် လူနေအိမ်တဆောင်ကို မီးရှို့ရာ လူတယောက် သေဆုံး၏။ ဤတွင် မောင်ဖြူသည် မည်သူ့ကိုမျှ သေစေရန် မကြံရွယ်ငြားမူ မိမိကြောင့် ထိုသို့ သေဆုံးရသည်ကိုပင် ဝမ်းနည်းခြင်းဖြစ်သော်လည်း၊ ပြုစဉ်က ထိုသို့ သေတန်ရာသည်ကို သိလျှင်၊ မောင်ဖြူသည် လူသေစေခြင်းကို မိမိအလိုအလျောက် ပြုသည်မည်၏။

၄၀။ ။ဤပုဒ်မရှိ အောက်ပါစာပိုဒ် ၂ နှင့် ၃ တို့တွင် ပေါ်ပြပါရှိသည့် အခန်းနှင့် ပုဒ်မများတွင်မှတပါး "ဖြစ်မှု" ဆိုသော စကားသည် ဤရာဇသတ်ကြီးအရ ပြစ်ဒဏ်စီရင်ထိုက်သော အရာကို ဆိုလိုသည်။

ဖြစ်မှု။

အခန်း ၄၊ အခန်း ၅ က၊ ထို့ပြင် ပုဒ်မ ၆၄၊ ၆၅၊ ၆၆၊ ၆၇၊ ၇၁၊ ၁၀၉၊ ၁၁၀၊ ၁၁၂၊ ၁၁၄၊ ၁၁၅၊ ၁၁၆၊ ၁၁၇၊ ၁၈၇၊ ၁၉၄၊ ၁၉၅၊ ၂၀၃၊ ၂၁၁၊ ၂၁၃၊ ၂၁၄၊ ၂၂၁၊ ၂၂၂၊ ၂၂၃၊ ၂၂၄၊ ၂၂၅၊ ၃၂၇၊ ၃၂၈၊ ၃၂၉၊ ၃၃၀၊ ၃၃၁၊ ၃၄၇၊ ၃၄၈၊ ၃၈၈၊ ၃၈၉ နှင့် ၄၄၅ တို့တွင် "ဖြစ်မှု" ဆိုသောစကားသည်၊ ဤရာဇသတ်ကြီးအရဖြစ်စေ၊ အထူးဥပဒေအရဖြစ်စေ၊ ဒေသန္တရ ဥပဒေအရဖြစ်စေ ပြစ်ဒဏ်စီရင်ထိုက်သော အရာကိုဆိုလိုသည်။

ထို့ပြင် ပုဒ်မ ၁၄၁၊ ၁၇၆၊ ၁၇၇၊ ၂၀၁၊ ၂၀၂၊ ၂၁၂၊ ၂၁၆ နှင့် ၄၄၁ တို့တွင် "ဖြစ်မှု" ဆိုသောစကားသည်၊ ဤရာဇသတ်ကြီးအရ ပြစ်ဒဏ်စီရင်ထိုက်သော အရာအပြင်၊ အထူးဥပဒေအရ၊ သို့တည်းမဟုတ် ဒေသန္တရဥပဒေအရ ငွေဒဏ်ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ထောင်ဒဏ် ခြောက်လထက်မနည်း ပြစ်ဒဏ်စီရင်ထိုက်သော အရာများလည်း ပါဝင်သည်။

၄၁။ ။"အထူးဥပဒေ" ဆိုသည်မှာ သီးခြားအကြောင်းအရာတခုနှင့် သက်ဆိုင်သော ဥပဒေကို ဆိုလိုသည်။

အထူးဥပဒေ။

**ဒေသန္တရဥပဒေ။**

၄၂။ ။"ဒေသန္တရဥပဒေ" ဆိုသည်မှာ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်းရှိ ဒေသတခုနှင့်သာ သက်ဆိုင်သော ဥပဒေကို ဆိုလိုသည်။

**ဥပဒေနှင့်မညီသော။**

၄၃။ ။"ဥပဒေနှင့်မညီသော" ဆိုသည့်စကားသည် ပြစ်မှုနှင့်ဖြစ်စေ၊ ဥပဒေအရ တား မြစ်ခြင်းခံရသော အရာနှင့်ဖြစ်စေ၊ တရားမကြောင်း စွဲဆိုနိုင်ရန် ဖြစ်သည့်အကြောင်းအရာနှင့်ဖြစ်စေ သက်ဆိုင်သည်။

**ဥပဒေအရပြုရန်တာဝန်ရှိခြင်း။**

"ဥပဒေအရ ပြုလုပ်ရန် တာဝန်ရှိသောအရာ" ဆိုသည်မှာ၊မပြုဘဲပျက်ကွက်လျှင်၊ဥပဒေ နှင့် မညီဖြစ်နေမည့်အရာဟူသမျှကို ဆိုလိုသည်။

**နစ်နာစေခြင်း။**

၄၄။ ။"နစ်နာစေခြင်း" ဆိုသည်မှာ ကိုယ်ကိုဖြစ်စေ၊ စိတ်ကိုဖြစ်စေ၊ ဂုဏ်သရေကို ဖြစ်စေ၊ ပစ္စည်းကိုဖြစ်စေ ဥပဒေနှင့် မညီသော ထိခိုက်စေခြင်းကို ဆိုလိုသည်။

**အသက်။**

၄၅။ ။"အသက်"ဆိုသည်မှာ ရှေ့နောက်စကားတို့၌ အဓိပ္ပါယ်မဆန့်ကျင်လျှင်၊ လူ၏ အသက်ကိုဆိုလိုသည်။

**သေခြင်း။**

၄၆။ ။"သေခြင်း" ဆိုသည်မှာ ရှေ့နောက်စကားတို့၌ အဓိပ္ပါယ် မဆန့်ကျင်လျှင်၊ လူသေခြင်းကိုဆိုလိုသည်။

**တိရစ္ဆာန်။**

၄၇။ ။"တိရစ္ဆာန်" ဆိုသည်မှာ လူမှတပါး အခြားသက်ရှိ သတ္တဝါကို ဆိုလိုသည်။

**ရေယာဉ်။**

၄၈။ ။"ရေယာဉ်" ဆိုသည်မှာ ရေကြောင်းခရီး၌ လူကိုဖြစ်စေ၊ ပစ္စည်းကိုဖြစ်စေ သယ်ယူပို့ဆောင်သောအရာကို ဆိုလိုသည်။

**နှစ်၊ လ။**

၄၉။ ။"နှစ်" ၊သို့တည်းမဟုတ် "လ" ဆိုသည့်စကားကို သုံးစွဲသည့်အခါတိုင်းတွင်၊ ထို "နှစ်" ကို၊ သို့တည်းမဟုတ် ထို "လ" ကို ဗြိတိသျှပြက္ခဒိန် အရ ရေတွက်ရမည်။

၅၀။ ။ • • • •

**ကျမ်းသစ္စာ။**

၅၁။ ။"ကျမ်းသစ္စာ" ဆိုသည့်စကားတွင် ဥပဒေက ကျမ်းသစ္စာ အစား ခွင့်ပြုသော ကတိသစ္စာပြုချက်၊ ထို့ပြင် ပြည်သူ့ဝန်ထမ်းရှေ့တွင် ဥပဒေအရ သော်၎င်း၊ ဥပဒေ၏ ခွင့်ပြုချက်အရသော်၎င်း ပြုသည့်ကျေညာ ချက်၊ သို့တည်းမဟုတ် တရားရုံးအတွင်းတွင်ဖြစ်စေ၊ အပတွင်ဖြစ်စေ သက်သေထင်ရှားစေခြင်း အလို့ငှါ အသုံးပြုရန် ရည်ရွယ်သော ကျေညာချက်လည်း ပါဝင်သည်။

*သဘောရိုး။*

၅၂။ ။ထိုက်သင့်သော သတိပြုခြင်းနှင့် စိတ်အာရုံပြုခြင်းတို့ ကင်းသော ပြုလုပ်မှုသည်၊ သို့တည်းမဟုတ် ယုံကြည်မှုသည် "သဘောရိုး" နှင့် ပြုလုပ်သည် မမည်၊ သို့တည်းမဟုတ် ယုံကြည်သည်မမည်။

*လက်ဆောင်ခံခြင်း။*

၅၂-က။ ။ပုဒ်မ ၁၃၀ နှင့် ၁၅၇ တို့တွင်၊ လင်က မယားကိုသော်၎င်း၊ မယားက လင် ကိုသော်၎င်း၊ လက်သင့်ခံသော အမှုမျိုးမှာမှတပါး၊ "လက်သင့်ခံခြင်း" ဆိုသော စကားရပ်တွင်၊ လူတဦးတယောက်အား နိုလ္လုရာကိုဖြစ်စေ၊ အစားအသောက်ကိုဖြစ်စေ၊ ငွေကြေးကိုဖြစ်စေ၊ အထည်အဝတ်ကိုဖြစ်စေ၊ လက်နက်ကိုဖြစ်စေ၊ ခဲယမ်းမီးကျောက်ကိုဖြစ်စေ၊ ယာဥ်တမျိုးမျိုးကိုဖြစ်စေ ထောက်ပံ့ခြင်းပါဝင်သည်။ သို့တည်းမဟုတ် ဤပုဒ်မ၌ ဖေါ်ပြထားသော အရာအမျိုးဟုတ်သည်ဖြစ်စေ၊ မဟုတ်သည်ဖြစ်စေ ဖမ်းဆီးခြင်းကို ထိုသူတိမ်းရှောင် နိုင်စိမ့်သောငှါ တနည်းနည်းဖြင့် ကူညီခြင်းပါဝင်သည်။

## အခန်း ၃။

### ပြစ်ဒဏ်များ။

*ပြစ်ဒဏ်များ။*

၅၃။ ။ဤရာဇသတ်ကြီးပါ ပြဋ္ဌာန်းချက်များအရ၊ ပြစ်မှုကျူးလွန်သူတို့ ထိုက်သင့်သည့် ပြစ်ဒဏ်များမှာ—

**ပဌမ။** ။သေဒဏ်။

**ဒုတိယ။** ။တကျွန်းပို့ဒဏ်။

**တတိယ။** ။ * * * *

**စတုတ္ထ။** ။ထောင်ဒဏ်။ ။ထိုထောင်ဒဏ်မှာလည်း—

(၁) အလုပ်ကြမ်းနှင့် ထောင်ဒဏ်။
(၂) အလုပ်မဲ့ ထောင်ဒဏ်။

**ပဥ္စမ။** ။ * * * *

**ဆဌမ။** ။ငွေဒဏ်။

*သေဒဏ်ကိုပြောင်းလဲခြင်း။*

၅၄။ ။သေဒဏ်ချမှတ်သည့် အမှုတိုင်းတွင်၊ ထိုသို့ချမှတ်ခြင်းခံရသူ သဘောမတူဘဲ နိုင်ငံတော်သမတသည် သေဒဏ်မှ ဤရာဇသတ်ကြီးတွင်ပြဋ္ဌာန်းထားသည့်အခြား ပြစ်ဒဏ်တမျိုးမျိုးသို့ ပြောင်းလဲနိုင်သည်။

*တသက် တကျွန်း ဒဏ်ကို ပြောင်းလဲခြင်း။*

၅၅။ ။တသက်တကျွန်းဒဏ် ချမှတ်သည့်အမှုတိုင်းတွင်၊ ထိုသို့ချမှတ်ခြင်းခံရသူသဘောမတူဘဲ နိုင်ငံတော်သမတသည် တသက်တကျွန်း ဒဏ်မှ ဆယ်လေးနှစ်ထက် မပိုသည့် ထောင်ဒဏ်တမျိုးမျိုးသို့ ပြောင်းလဲနိုင်သည်။

၅၆။ ။ * * * *

၅၇။ ။ဖြစ်ဒဏ်ကာလအပိုင်းအခြားကို ရေတွက်ရာတွင် တသက်တကျွန်းဒဏ်ကို နှစ်ပေါင်း နှစ်ဆယ် တကျွန်းပို့ဒဏ်နှင့် အညီထား၍ ရေတွက်ရမည်။

ဖြစ်ဒဏ်ကာလအပိုင်း၊ အခြား။

၅၈။ ။တကျွန်းပို့ဒဏ် ချမှတ်ခြင်းခံရသူကိုကျွန်းသို့မပို့ရသေးမီ၊ အလုပ်ကြမ်းနှင့်ထောင်ဒဏ် ချမှတ်သကဲ့သို့ ထားရှိရမည်။ ထောင်အတွင်း အကျဉ်းခံနေရသည့် ကာလကိုလည်း၊ တကျွန်းပို့ဒဏ် ခံနေရသည့် ကာလကဲ့သို့ မှတ်ယူရမည်။

တကျွန်းပို့ဒဏ် ချမှတ်ခြင်း ခံရသူကို မပို့သေးမီ၊ မည်သို့ ပြုလုပ်ရမည့် အကြောင်း။

၅၉။ ။အမှုအသီးသီးတွင် ဖြစ်မှုကျူးလွန်သူတဦးအား ထောင်ဒဏ် ခုနစ်နှစ်ဖြစ်စေ၊ ခုနစ်နှစ်ထက်ပို၍ဖြစ်စေ ချမှတ်ထိုက်သည့်အခါ၊ ဖြစ်ဒဏ်ချမှတ်သည့် တရားရုံးသည် ထောင်ဒဏ် ချမှတ်မည့်အစား၊ ခုနစ်နှစ်ထက် မလျော့သော၊ ထို့ပြင် ဤရာဇသတ်ကြီးအရ ထိုက်သင့်သည့် ထောင်ဒဏ် ကာလအပိုင်းအခြားထက် မပိုသော ကာလထိ တကျွန်းပို့ဒဏ် ချမှတ်ပိုင်ခွင့် ရှိစေရမည်။

ထောင်ဒဏ်အစား၊ တကျွန်း ပို့ဒဏ်။

၆၀။ ။အမှုအသီးသီးတွင် ဖြစ်မှုကျူးလွန်သူ တဦးအား ထောင်ဒဏ် တမျိုးမျိုးချမှတ်ထိုက်သည့်အခါ ဖြစ်ဒဏ်ချမှတ်သည့် တရားရုံးသည် ထိုသူအား အလုပ်ကြမ်းနှင့် ထောင်ဒဏ် ကာလအားလုံးအတွက် သော်၎င်း၊ အလုပ်မဲ့နှင့် ထောင်ဒဏ်ကာလ အားလုံးအတွက်သော်၎င်း၊ အလုပ်ကြမ်းနှင့် ထောင်ဒဏ် ကာလတစိတ်တဒေသအပြင် အလုပ်မဲ့နှင့် ကျန်ရှိသော ထောင်ဒဏ်ကာလ အတွက် သော်၎င်း ချမှတ်ခွင့် ရှိစေရမည်။

ထောင်ဒဏ် ချမှတ်သည့် အမှုအချို့တွင် အလုပ်ကြမ်းနှင့်ကာလအားလုံး၊ သို့တည်း မဟုတ် အလုပ်မဲ့နှင့် ကာလ အားလုံးဖြစ်စေ၊ အလုပ်ကြမ်း နှင့် ကာလ တစိတ်တဒေသ၊ သို့တည်းမဟုတ် အလုပ်မဲ့နှင့် ကာလ တစိတ် တဒေသဖြစ် စေ ချမှတ်ခြင်း။

၆၁။ ။ * * * *

၆၂။ ။ * * * *

၆၃။ ။ငွေဒဏ်ကို မည်မျှမည်မျှထက်မပိုရဟု ပေါ်ပြခြင်းမရှိလျှင်၊ ဖြစ်မှုကျူးလွန်သူအား အကန့် အသတ်မရှိ ငွေဒဏ် ချမှတ် နိုင်သော်လည်း မများလွန်းစေရ။

ငွေဒဏ်အရေအတွက်။

၆၄။ ။ထောင်ဒဏ်၊ ငွေဒဏ်၊ နှစ်ရပ်လုံး ချမှတ်ထိုက်သည့် ဖြစ်မှုတိုင်းအတွက် ဖြစ်မှုကျူးလွန်သူအား ငွေဒဏ် ချမှတ်ရာ၌၎င်း၊

ထောင်ဒဏ်၊ သို့တည်းမဟုတ် ငွေဒဏ်သော်၎င်း၊ ငွေဒဏ်သက်သက်သော်၎င်း ချမှတ်ထိုက်သည့် ဖြစ်မှုတိုင်းအတွက် ဖြစ်မှုကျူးလွန်သူအား ငွေဒဏ်သက်သက် ချမှတ်ရာ၌၎င်း၊

ငွေဒဏ် မဆောင် သည့်အတွက် ထောင်ဒဏ် ချမှတ် ခြင်း။

ငွေဒဏ်မဆောင်လျှင်၊ ပြစ်ဒဏ်ချမှတ်ခြင်းခံရသူအား ပြစ်ဒဏ်ချမှတ်သည့် တရားရုံးက ထောင်ဒဏ်ချမှတ်ခွင့် ရှိစေရမည်။ ထိုထောင်ဒဏ်ကိုချမှတ်ပြီးဖြစ်သော အခြားထောင်ဒဏ်၌သော်၎င်း၊ ပြောင်းလဲပေးသည့် အခြားထောင်ဒဏ်၌သော်၎င်း ထည့်ပေါင်းရမည်။

ထောင်ဒဏ်၊ ငွေဒဏ် နှစ်ရပ်စလုံး ချမှတ်ထိုက်သည့် အမှုများတွင် ငွေဒဏ်မဆောင်သည့်အတွက် ထောင်ဒဏ်ကာလကန့်သတ်ခြင်း။

၆၅။ ။ထောင်ဒဏ်၊ ငွေဒဏ်နှစ်ရပ်လုံးချမှတ်ထိုက်သည့်ပြစ်မှုမျိုးအတွက် ရုံးတော်က ချမှတ်သော ငွေဒဏ်ကို ပြစ်မှုကျူးလွန်သူက မဆောင်လျှင်၊ ထိုငွေဒဏ်အစား တရားရုံးက ထောင်ဒဏ်ချမှတ်ရာ၌၊ ထိုထောင်ဒဏ်သည် ထိုပြစ်မှုအတွက် သတ်မှတ်ထားသော အများဆုံးထောင်ဒဏ်၏ လေးပုံ တပုံထက်မပိုစေရ။

ငွေဒဏ် မဆောင် သဖြင့်၊ ချမှတ်သည့် ထောင်ဒဏ် အမျိုးအစား။

၆၆။ ။ပြစ်မှုကိုစီရင်ရာ၌ ချမှတ်သောငွေဒဏ်ကို မဆောင်သဖြင့် ထိုငွေဒဏ်အစား ထောင်ဒဏ်ကိုချမှတ်ရာတွင်၊ ထိုထောင်ဒဏ်သည် ထိုပြစ်မှုအတွက် ချမှတ်နိုင်သော မည်သည့်ထောင်ဒဏ်မျိုးမဆို ဖြစ်နိုင်သည်။

ငွေဒဏ် သက်သက် ချမှတ်ထိုက်သောပြစ်မှုမျိုး အတွက် ငွေဒဏ် မဆောင်သဖြင့်၊ ငွေဒဏ်အစား ချမှတ် သည့် ထောင်ဒဏ် ကာလ သတ်မှတ်ခြင်း။

၆၇။ ။ငွေဒဏ်သက်သက်သာ ချမှတ်ထိုက်သည့် ပြစ်မှုမျိုးအတွက် ငွေဒဏ်မဆောင်သဖြင့် ငွေဒဏ်အစားချမှတ်သော ထောင်ဒဏ်သည် အလုပ်မဲ့ထောင်ဒဏ်ဖြစ်ရမည်။ ထိုသို့ချမှတ်သော ထောင်ဒဏ်ကာလ အပိုင်းအခြားသည် အောက်ပါအတိုင်း ဖြစ်ရမည်။

ငွေဒဏ် ငါးဆယ်ထက် မပိုလျှင်၊ နှစ်လထက်မပိုသည့် ထောင်ဒဏ်၊ ငွေဒဏ်တရာထက်မပိုလျှင်၊ လေးလထက်မပိုသည့် ထောင်ဒဏ်၊ ငွေဒဏ်တရာထက်ပိုလျှင်၊ ခြောက်လထက် မပိုသည့် ထောင်ဒဏ်။

ငွေဒဏ် ဆောင်သည့် အခါ၊ ထောင်ဒဏ်ရပ်စဲခြင်း။

၆၈။ ။ငွေဒဏ်ဆောင်သည့်အခါ၊ သို့တည်းမဟုတ် ဥပဒေနှင့်အညီ ဆောင်ရွက်သဖြင့် ငွေရသည့်အခါ၊ ထောင်ဒဏ်သည်ရပ်စဲရမည်။

ငွေဒဏ် အချိုးကျ ဆောင် သည့်အတိုင်း ထောင်ဒဏ်ရပ်စဲခြင်း။

၆၉။ ။ငွေဒဏ်မဆောင်သဖြင့် တရားရုံးက ငွေဒဏ်အစား ချမှတ်သောထောင်ဒဏ် ကာလမစေ့ကုန်မီ၊ကျခံရန် ရှိသေးသော ထောင်ဒဏ် ကာလအတွက် ငွေဒဏ်ကို ဆောင်ခဲ့သော်၊ သို့တည်းမဟုတ် ဥပဒေနှင့်အညီဆောင်ရွက်သဖြင့်ငွေရခဲ့သော်၊ ပေးဆောင်သော ငွေဒဏ် အချိုးကျအတိုင်း၊ ထောင်ဒဏ်ကာလ ရပ်စဲရမည်။

## ဥပမာ။

ဆောင်ပြုသည် ငွေဒဏ်တရာ မဆောင်သဖြင့်၊ ထောင်ဒဏ်လေးလ ကျခံစေရန် အမိန့်ချမှတ်ခြင်းခံရ၏။ အကယ်၍ ထောင်ဒဏ် တလမစေ့မီ ငွေဒဏ် ခုနစ်ဆယ့်ငါးကျပ်ကိုဆောင်လျှင် သို့တည်းမဟုတ် ဥပဒေနှင့်အညီဆောင်ရွက်သဖြင့် ငွေရရှိလျှင်၊ ပဌမတလစေ့လျှင် စေ့ခြင်းဆောင်ပြုကို ထောင်မှလွှတ်စေရမည်။ အကယ်၍၊ ပဌမတလစေ့သည့်အခါ၌သော်၎င်း၊ နောက်အကျဉ်းခံနေစဉ်အခါ၌သော်၎င်း ငွေခုနစ်ဆယ့် ငါးကျပ်ကိုဆောင်လျှင်၊ သို့

မဟုတ် ဥပဒေနှင့် အညီဆောင်ရွက်သဖြင့် ငွေရရှိလျှင်၊ မောင်ဖြူကို ချက်ခြင်းထောင်မှ လွတ်စေရမည်။ ပဌမနှစ်လ မစေ့ကုန်မီငွေငါးဆယ်ကိုဆောင်လျှင်၊ သို့တည်း မဟုတ်ဥပဒေနှင့် အညီဆောင်ရွက်သဖြင့် ငွေရရှိလျှင်၊ ပဌမနှစ်လ စေ့လျှင်စေ့ခြင်း၊ မောင်ဖြူကိုထောင်မှ လွတ်စေရမည်။ ငွေငါးဆယ်ကို ပဌမနှစ်လ စေ့သည့်အခါတွင် ဖြစ်စေ၊ စေ့ပြီးမှ ဖြစ်စေ ဆောင်လျှင်၊ သို့တည်းမဟုတ် ဥပဒေနှင့်အညီ ဆောင်ရွက်သဖြင့် ငွေရရှိလျှင်၊ မောင်ဖြူကို ထောင်မှ ချက်ခြင်းလွတ်စေရမည်။

၇၀။ ။ငွေဒဏ် အားလုံးကိုဖြစ်စေ၊ ကျန်ငွေကိုဖြစ်စေ အမိန့် ချမှတ်ပြီးနောက် ခြောက်နှစ်အတွင်း မည်သည့်အခါ၌မဆို ဆောင်းခံနိုင်သည်။ ပြစ်မှုကျူးလွန်သူသည် ခြောက်နှစ်ထက်ပို၍ ထောင်ဒဏ် ချမှတ်ခြင်းခံရလျှင်၊ ထိုကာလမစေ့မီ မည်သည့်အခါ၌မဆို တောင်းခံနိုင်သည်။

ခြောက်နှစ် အတွင်း၊ ဖြစ်စေ ... ဆောင်ဒဏ် ခံနေရစဉ် ... ဖြစ်စေ ငွေဒဏ်ကို ...ခြင်း။

ပြစ်မှုကျူးလွန်သူ သေဆုံးသော်လည်း၊ ထိုသူ၏ ကြွေးမြီများအတွက် ဥပဒေနှင့်အညီ ပေးဆပ်ရန် တာဝန်ရှိသော ထိုသူပိုင် ပစ္စည်းများမှာ၊ ငွေဒဏ် အတွက် ပေးဆောင်ရန်လည်း တာဝန်ရှိစေရမည်။

ပြစ်မှုကျူးလွန်သူ သေ...သော်လည်း၊ ထိုသူပိုင် ...သည် တာဝန်မလွတ် ...ခြင်း။

၇၁။ ။တခုစီပြစ်မှုမြောက်သော အစိတ်အပိုင်းများ ပေါင်းစုနေသည့် ပြစ်မှုကို ကျူးလွန်သူအား၊ အတည့်အလင်း ပြဋ္ဌာန်းချက် မရှိပါက၊ ထိုပြစ်မှု မြောက်သော အစိတ်အပိုင်းများအနက်၊ ပြစ်မှုတခုခုအတွက် ပေးနိုင်သော ပြစ်ဒဏ်ထက်ပို၍ မပေးရ။

... အမျိုးမျိုးပေါင်းစု၍ ...သော ပြစ်မှုအတွက် ပြစ် ...ကို ကန့်သတ်ခြင်း။

တည်ဆဲဥပဒေအရ တဦးတယောက်သောသူ၏ ပြုလုပ်မှု ...ခြားပြစ်မှု နှစ်မျိုးသော်၎င်း၊ နှစ်မျိုးထက်ပို၍သော်၎င်း မြောက်နိုင်လျှင်၊ သို့တည်း ... ပြစ်ဒဏ် ချမှတ်ခြင်း ခံထိုက်လျှင်၊ ထိုသူအား၊ သို့တည်းမဟုတ်

...ယူလျှင် ပြစ်မှုတခု မြောက်သည်လည်းဖြစ်၍၊ သို့တည်းမဟုတ် တခုထက်ပိုမှုပြစ်မှု ...သည်လည်းဖြစ်၍ စုပေါင်းယူလျှင် အခြားပြစ်မှုတခုလည်း မြောက်သောပြုလုပ်မှု ...ကို ကျူးလွန်သောသူအား၊

...သောတရားရုံးက၊ အထက်ပါ ပြစ်မှုတခုခုအတွက်ပေးနိုင်သော ပြစ်ဒဏ်ထက်ပိုမို ...သော ပြစ်ဒဏ်ကိုမပေးရ။

## ဥပမာများ။

(က) မောင်ဖြူက မောင်နီကို တုတ်နှင့် အချက်ငါးဆယ်ရိုက်၏။ ရိုက်နှက်သည့်အချက် ...ပေါင်း၍၎င်း၊ ချက်ရေ တချက်စီခွဲ၍၎င်း မောင်နီအား နာကျင်စေရန် မိမိအလို ... ပြုလုပ်သော ပြစ်မှုကို မောင်ဖြူကျူးလွန်ရာ ရောက်သည်။ မောင်ဖြူသည် ...အတွက် ပြစ်ဒဏ်ထိုက်သင့်ရမည်ဆိုပါက၊ တချက်လျှင် တနှစ်ကျ၊ နှစ်ပေါင်း ငါး ... ဆောင်အကျဉ်းခံရမည်ဖြစ်သည်။ သို့ရာတွင် မောင်ဖြူသည် ရိုက်နှက်သော အချက် ... ပြစ်ဒဏ်တရပ်တည်းအတွက်သာ ချမှတ်ခြင်းခံရမည်။

(ခ) သို့ရာတွင် မောင်ဖြူသည် မောင်နီကို ရိုက်နှက်နေခိုက် မောင်ညိုက ဝင်ရောက် စွက်ဖက်သဖြင့် မောင်ညိုကိုလည်း တမင် ရိုက်နှက်ပြန်လျှင်၊ မောင်ညိုကိုရိုက်နှက်ခြင်းသည်၊ မောင်နီကို အလိုအလျောက် နာကျင်စေသော ပြစ်မှုကျူးလွန်ရာ၌ မပါဝင်၊ မောင်ဖြူသည် မောင်နီကို နာကျင်စေရန် အလိုအလျောက် ပြုလုပ်သည့်အတွက် ပြစ်ဒဏ်တရပ်၊ ထို့ပြင် မောင်ညိုကို ရိုက်သည့်အတွက် ပြစ်ဒဏ်တရပ် ပေါင်းနှစ်ရပ် ချမှတ်ခြင်းခံရမည်။

၇၂။ ။စီရင်ချက်၌ ဖေါ်ပြသော ပြစ်မှုများအနက်၊ ပြစ်မှုတခုခုအတွက် တဦးတယောက်သောသူသည် အပြစ်ရှိသည်ဖြစ်သော်လည်း၊ မည်သည့်ပြစ်မှု အတွက် အပြစ်ရှိသည်ကို သံသယမကင်းလျှင်၊ ထိုပြစ်မှု အသီးသီး အတွက် တူညီသော ပြစ်ဒဏ် ပြဋ္ဌာန်းခြင်းမရှိပါက၊ ပြစ်မှုကျူးလွန်သူအား၊ အနည်းဆုံးပြဋ္ဌာန်းသော ပြစ်ဒဏ်ကို ချမှတ်ရမည်။

ပြစ်မှုများအနက်၊ မည်သည့် ပြစ်မှုအတွက် အပြစ်ရှိသည်ဟု စီရင်ချက်တွင် သံသယ ဖြစ်လျှင်၊ ပြစ်မှုတခုအတွက်ပြစ်ဒဏ်။

၇၃။ ။ဤရာဇသတ်ကြီးအရ အလုပ်ကြမ်းနှင့် ထောင်ဒဏ်ချမှတ်ခွင့် အာဏာရှိသော ပြစ်မှုတခုအတွက် တရားရုံးက ပြစ်ဒဏ်ချမှတ်သောအခါ၊ ထောင်ဒဏ်ကာလကိုလိုက်၍ သုံးလထက် မပိုစေဘဲ အောက်ပါအချိုးအစားအတိုင်း အလုံထောင်ချရန် စီရင်ချက်၌ အမိန့်ချမှတ်နိုင်သည်။

အလုံထောင်ချခြင်း။

ထောင်ဒဏ် ခြောက်လထက် မပိုလျှင် တလထက် မပိုသည့်ကာလ။ ထောင်ဒဏ်ခြောက်လထက်ပိုသော်လည်း တနှစ်ထက်မပိုလျှင် နှစ်လထက်မပိုသည့်ကာလ။ ထောင်ဒဏ် တနှစ်ထက်ပိုလျှင် သုံးလထက်မပိုသည့်ကာလ။

၇၄။ ။အလုံထောင်ချရန် ချမှတ်သည့်အမိန့်ကို ဆောင်ရွက်ရာတွင်၊ အလုံထောင်ချသော ကာလကို တကြိမ်လျှင် ဆယ့်လေးရက်ထက် မပိုစေရ၊ တကြိမ်နှင့် တကြိမ်ကြားကာလကို ဆယ့်လေးရက် အောက် မလျော့စေရ။ ချမှတ်သော ထောင်ဒဏ်ကာလသည် သုံးလထက်ပိုလျှင်၊ အလုံထောင်ချသော ကာလကို တလလျှင် ခုနစ်ရက်ထက် မပိုစေရ၊ တကြိမ်နှင့် တကြိမ်ကြားကာလကိုလည်း ခုနစ်ရက်အောက် မလျော့စေရ။

အလုံ ထောင်ချသော ကာလကို ကန့်သတ်ခြင်း။

၇၅။ ။ဤရာဇသတ်ကြီးပါ အခန်း ၁၂ အရ၊ သို့တည်းမဟုတ် အခန်း ၁၇ အရ သုံးနှစ်ဖြစ်စေ၊ သုံးနှစ်ထက်ပို၍ဖြစ်စေ ထောင်ဒဏ်တမျိုးမျိုးထိုက်သော ပြစ်မှုတခုခုအတွက် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တရားရုံးတခုခု၏ ပြစ်မှုထင်ရှား စီရင်ခြင်း ခံရဘူးသူသည်၊ ဆိုခဲ့သော အခန်းများအနက် အခန်းတခုခုအရ၊ ယခင်ထောင်ဒဏ်မျိုးနှင့်၎င်း၊ ယခင်ထောင်ဒဏ်ကာလနှင့်၎င်း တူသောပြစ်ဒဏ်ချမှတ်ရန် ထိုက်သင့်သည့်ပြစ်မှုတခုခုကို ထပ်မံကျူးလွန်လျှင်၊ ထိုသို့ထပ်မံကျူးလွန်သော ပြစ်မှုအတွက် တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ထိုက်သင့်စေရမည်။

အခန်း ၁၂ အရ၊ သို့တည်း မဟုတ် အခန်း ၁၇ အရ ထောင် ပြစ်ဒဏ် ခံရဘူးသူအား အမျိုးပြစ်မှုများအတွက် ပြစ်ဒဏ်တိုးမြှင့်ခြင်း။

# အခန်း ၄။

## ကင်းလွတ်ရမြဲအချက်များ။

ဥပဒေအရ တာဝန် ရှိသဖြင့် ပြုလုပ်ခြင်း၊ သို့တည်း မဟုတ် ကြောင်းခြင်းရာ ကို အယူအဆ လွဲခြင်းကြောင့် ဥပဒေအရ တာဝန်ရှိသည် ယုံကြည်၍ ပြုလုပ်ခြင်း။

၇၆။ ။ဥပဒေအရ ပြုလုပ်ရန် တာဝန်ရှိသူကသော်၎င်း၊ ဥပဒေကို အယူအဆလွဲခြင်း ကြောင့် မဟုတ်ဘဲ ကြောင်းခြင်းရာကို အယူအဆလွဲခြင်းကြောင့် ဥပဒေအရ တာဝန်ရှိသည်ဟု သဘောရိုးနှင့် ယုံကြည်သူကသော်၎င်း ပြုလုပ်လျှင်၊ ထိုပြုလုပ်မှုသည် ပြစ်မှုမမြောက်။

### ဥပမာများ။

(က) စစ်သားမောင်ဖြူသည် ရန်းရင်းဆန်ခတ်ပြုသော လူစုလူဝေးကို ဥပဒေနှင့် ညီသော မိမိ၏ အထက်အရာရှိ၏ အမိန့်ဖြင့် သေနတ်နှင့် ပစ်ခတ်သည်။ ထိုသို့ပစ်ခတ်ခြင်းသည် ပြစ်မှုကျူးလွန်ရာမရောက်။

(ခ) တရားရုံးအမှုထမ်း မောင်ဖြူသည် မောင်မဲကိုဖမ်းဆီးရန် တရားရုံးမှ အမိန့်ရရှိ၏။ ထိုက်သင့်သော စုံစမ်းမှုကိုပြုပြီးနောက်၊ မောင်နီကို မောင်မဲဟု ထင်မှတ်ယုံကြည်၍ ဖမ်းဆီးသည်။ ထိုသို့ဖမ်းဆီးခြင်းသည် ပြစ်မှုကျူးလွန်ရာမရောက်။

တရားစီရင်ရေး ဆောင်ရွက်ရာ၌ တရားသူကြီး၏ပြုလုပ်မှု။

၇၇။ ။တရားစီရင်မှု ဆောင်ရွက်ရာ၌၊ တရားသူကြီးတဦးသည် ဥပဒေအရ မိမိရရှိသော အာဏာကို၊ သို့တည်းမဟုတ် ဥပဒေအရ မိမိရရှိသည်ဟု သဘောရိုးနှင့် ယုံကြည်သည့်အာဏာကို သုံးစွဲဆောင်ရွက်လျှင်၊ ထိုသို့ ဆောင်ရွက်ခြင်းသည် ပြစ်မှုမမြောက်။

တရားရုံး စီရင်ချက် အရ၊ သို့တည်းမဟုတ် အမိန့်အရ ပြုလုပ်မှု။

၇၈။ ။စီရင်ချက်ကို၊ သို့တည်းမဟုတ် အမိန့်ကို ထုတ်ဆင့်ရန် တရားရုံး၌ အာဏာမပိုင် သော်လည်း အာဏာပိုင်သည်ဟု သဘောရိုးနှင့် ယုံကြည်၍ ပြုလုပ်လျှင်၊ ထိုတရားရုံး၏ စီရင်ချက်အရဖြစ်စေ၊ စီရင်ချက်နှင့် အညီဖြစ်စေ၊ အမိန့်အရဖြစ်စေ၊ အမိန့်နှင့်အညီဖြစ်စေ ထိုစီရင်ချက်၊ သို့တည်းမဟုတ် ထိုအမိန့်တည်ဆဲတွင်ပြုသော ထိုပြုလုပ်မှုသည် ပြစ်မှုမမြောက်။

ဥပဒေအရ ပြုပိုင်သူ၏ ပြုလုပ်ခြင်း၊ သို့တည်းမဟုတ် ကြောင်းခြင်းရာကို အယူအဆ လွဲခြင်းကြောင့် ဥပဒေအရ ပြုပိုင်သည်ဟု ယုံကြည်၍ ပြုလုပ်ခြင်း။

၇၉။ ။ဥပဒေအရ ပြုပိုင်သူကသော်၎င်း၊ ဥပဒေကိုအယူအဆလွဲခြင်းကြောင့်မဟုတ်ဘဲ ကြောင်းခြင်းရာကို အယူအဆလွဲခြင်းကြောင့် ဥပဒေအရပြုပိုင်သည်ဟု သဘောရိုးနှင့် ယုံကြည်သူကသော်၎င်း ပြုလုပ်လျှင်၊ ထိုသို့ပြုလုပ်မှုသည် ပြစ်မှုမမြောက်။

### ဥပမာ။

လူသတ်မှုကို ကျူးလွန်နေသည်ဟု အထင်ရောက်လောက်အောင် မောင်မဲပြုမူနေသည်ကို မောင်ဖြူမြင်ရ၏။ လူသတ်မှု ကျူးလွန်နေသူကို မည်သူမဆို ဥပဒေအရ ဖမ်းဆီး နိုင်ခွင့်ရှိသည့်အလျောက်၊ မောင်ဖြူသည် ဥာဏ်မှီသလောက် ဆင်ခြင်၍၊ ဆိုင်ရာအာဏာပိုင်တို့ထံ ပို့အပ်ရန် မောင်မဲအားသဘောရိုးဖြင့်ဖမ်းဆီး၏။ မောင်မဲသည်မိမိကိုယ်ကိုကာကွယ်လိုသော သဘောဖြင့် ပြုခဲ့ကြောင်း နောင်အခါ ပေါ်ပေါက်လာစေကာမူ၊ မောင်ဖြူသည် မောင်မဲကို ထိုသို့ဖမ်းဆီးခြင်းကြောင့် ပြစ်မှုပြုရာမရောက်။

**ဥပဒေနှင့်ညီသော ပြုလုပ်မှုကို ပြုရာတွင်၊ မတော်တဆ ဖြစ်ခြင်း။**

၈၀။ ။ဥပဒေနှင့်ညီသော ပြုလုပ်မှုကို ဥပဒေနှင့်ညီသော နည်းလမ်းအတိုင်း ဥပဒေနှင့်ညီသောအပြုအမူဖြင့် သတိကောင်းစွာထား၍ပြုရာတွင်၊ မတော်တဆ၊ သို့တည်းမဟုတ် ကံဆိုး၍ပြုသည်လည်းဖြစ်၍၊ ရာဇဝတ်မကောင်းသောအကြံ၊ သို့တည်းမဟုတ် အသိဥာဏ် မရှိဘဲနှင့် ပြုသည်လည်းဖြစ်သော ပြုလုပ်မှုသည် ပြစ်မှုမမြောက်။

### ဥပမာ။

မောင်ဖြူသည် ပုဆိန်တလက်ဖြင့် အလုပ်လုပ်နေရာ၊ ပုဆိန်ခေါင်း ကျွတ်ပြီးလျှင် အနီးတွင် ရပ်နေသော လူတယောက်ကိုထိမှန်၍ ထိုလူသေဆုံးလေ၏။ အကယ်၍ မောင်ဖြူသည် ထားသင့်သော သတိကင်းမဲ့ခြင်းမရှိဘဲ ပြုလုပ်ခဲ့လျှင်၊ ခွင့်လွှတ်နိုင်သည်ဖြစ်၍ ပြစ်မှုမမြောက်။

**ရာဇဝတ် မကောင်းသော အကြံမရှိဘဲ၊ အခြားသောဘေးအန္တရာယ်ကို တားဆီး လွဲဖယ်ရန်အလို့ငှါ ဘေးအန္တရာယ် ဖြစ်စေတန်ရာသော ပြုလုပ်မှု။**

၈၁။ ။ဘေးအန္တရာယ် ဖြစ်စေတန်ရာသည်ဟု သိလျက်နှင့် ပြုစေကာမူ၊ လူကိုယ်သို့ဖြစ်စေ၊ ပစ္စည်းများသို့ဖြစ်စေ၊ ကျရောက်မည့် အခြားဘေးအန္တရာယ်ကို တားဆီးရန်အလို့ငှါ၊ သို့တည်းမဟုတ် လွှဲဖယ်ရန်အလို့ငှါ ရာဇဝတ် မကောင်းသောအကြံမရှိဘဲ၊ သဘောရိုးဖြင့်ပြုခြင်းသည် ပြစ်မှုမမြောက်။

**ရှင်းလင်းချက်။** ။ဘေးအန္တရာယ် ဖြစ်စေတန်ရာသည်ဟု သိလျက်နှင့် ပြုရာတွင်၊ ထိုသို့ပြုခြင်းဖြင့် တားဆီးရမည့်၊ သို့တည်းမဟုတ် လွှဲဖယ်ရမည့် အခြားဘေးအန္တရာယ်သည် ထိုပြုလုပ်မှုကို ပြုပိုင်လောက်အောင် ဖြစ်သော၊ သို့တည်းမဟုတ် ခွင့်လွှတ်လောက်အောင် ဖြစ်သော ဘေးအန္တရာယ်မျိုးဟုတ်မဟုတ်၊ ထို့ပြင် ဆိုက်ရောက်မည့် ဆဲဆဲဖြစ်သော ဘေးအန္တရာယ်မျိုးလည်းဟုတ်မဟုတ်ဆိုသည်မှာ၊ ကြောင်းချင်းရာ ပြဿနာဖြစ်သည်။

### ဥပမာများ။

(က) မီးသင်္ဘောသူကြီး မောင်ဖြူသည် မိမိ၌ ပြစ်တင်ဘွယ်ရာလည်းမရှိ၊ မိမိ ပေါ့လျော့၍လည်းမဟုတ်၊ ရုတ်တရက်အားဖြင့် သင်္ဘောကို မရပ်နိုင်မီ လမ်းမလွှဲဘဲနေခဲ့လျှင် လူနှစ်ဆယ် သုံးဆယ်ပါ "ခ" ခေါ် လှေတစင်းကို တိုက်မိမည် ကေန်ဖြစ်၏။ လမ်းလွှဲမိလျှင်လည်း၊ လူနှစ်ယောက်ပါ "ဂ" ခေါ် လှေတစင်းကို တိုက်မိဘွယ်ရာရှိ၏။ "ဂ" ခေါ်

[illegible]တိုက်ရန် အကြံမရှိဘဲ၊ "ခ" ခေါ် လှေပေါ်ရှိ လူများသေဖြစ်မည့် အရာကို လွှဲဖယ်ရန် [illegible] သဘောရိုးနှင့် သဘောလမ်းလွဲလိုက်ရာ "ဂ" ခေါ် လှေကို တိုက်မိ၏။ မောင်ဖြူ [illegible]သည့် ဘေးအန္တရာယ်သည် အခြားဘေးအန္တရာယ်တရပ်ကို လွှဲဖယ်ရတွင် ပြုလုပ်ပိုင် [illegible]ကြောင်း ထင်ရှားလျှင်၊ တိုက်မိရန် လက္ခဏာရှိကြောင်း သိလျက်နှင့် မောင်ဖြူ ပြု[illegible]သော်လည်း၊ ပြစ်မှုကျူးလွန်ရာမရောက်။

(ခ) မီးအကြီးအကျယ်လောင်ရာတွင်၊ မောင်ဖြူက လူအသက်အန္တရာယ်၊ သို့တည်း[illegible] ပျွည်းအန္တရာယ်ဖြစ်မည်ကို တားဆီးရန် အကြံဖြင့်၊ မီးမကူးစက်စေရအောင် သဘော[illegible] အိမ်များကို ဆွဲချ ဖျက်ဆီး၏။ ဤတွင် မောင်ဖြူ တားဆီးမည့် ဘေးအန္တရာယ်သည် [illegible]တင်ကင်းစေထိုက်သည့် ဘေးအန္တရာယ် မျိုးသော်ငြား၊ အပြစ်တင် ကင်းစေလောက် [illegible] ဆိုက်ရောက်မည့်ဆဲဆဲ ဘေးအန္တရာယ်သော်ငြား ဖြစ်ကြောင်း ထင်ရှားလျှင်၊မောင်ဖြူ [illegible] ပြစ်မှုကျူးလွန်ရာ မရောက်။

၈၂။ အသက် ခုနစ်နှစ်အောက် ကလေးပြုလုပ်သည့် ပြုလုပ်မှုသည် ပြစ်မှုမမြောက်။

အသက် ခုနစ်နှစ်အောက် ကလေး၏ ပြုလုပ်မှု။

၈၃။ ပြုစဉ်အခါက မိမိပြုသော ပြုလုပ်မှု၏ သဘောနှင့် အကျိုးအပြစ်ကို သိနားလည်လောက်အောင် အမြော်အမြင် အဆင်အခြင်နှင့် မပြည့်စုံသေး၍၊ အသက်ခုနစ်နှစ်အထက်၊ ဆယ့်နှစ်နှစ်အောက် အရွယ်ရှိသော ကလေး၏ ပြုလုပ်မှုသည် ပြစ်မှုမမြောက်။

[illegible] အမြင် အဆင် [illegible] မပြည့်စုံသေး၍၊ အ[illegible] [illegible]နှစ်အထက်၊ ဆယ့် [illegible] အရွယ်ရှိသော [illegible]ပြုလုပ်မှု။

၈၄။ စိတ်ပေါ့သွပ်ခြင်းကြောင့် ပြုစဉ်အခါက မိမိ၏ ပြုလုပ်မှုသည် မည်သို့ သဘောရှိသည်ကိုသော်ငြား၊ မတော်မမှန်သည်ကို သော်ငြား၊ ဥပဒေနှင့် ဆန့်ကျင်သည်ကိုသော်ငြား မသိနိုင်သောသူ၏ ပြုလုပ်မှုသည်ပြစ်မှု မမြောက်။

[illegible]သူ၏ ပြုလုပ်မှု။

၈၅။ မိမိမသိဘဲ၊ သို့တည်းမဟုတ် အလိုမတူဘဲ သူတပါးက တိုက်ကျွေးခြင်းကြောင့် မူးယစ်သဖြင့် ပြုစဉ်အခါက မိမိ၏ ပြုလုပ်မှုသည် မည်သို့ သဘောရှိသည်ကိုသော်ငြား၊ မတော်မမှန် သည်ကိုသော်ငြား၊ ဥပဒေနှင့် ဆန့်ကျင့်သည်ကိုသော်ငြား မသိနိုင်သောသူ၏ ပြုလုပ်မှုသည် ပြစ်မှုမမြောက်။

[illegible] အလိုမတူဘဲ မူးယစ် [illegible] တိုက် [illegible] မသိနိုင်သူ၏ [illegible]

၈၆။ အထူးအသိဥာဏ်ဖြင့်၊ သို့တည်းမဟုတ် အထူးအကြံဖြင့် ပြုမှသာ ပြစ်မှုမြောက်သော ပြုလုပ်မှုကို မူးယစ်နေသူ ပြုရာတွင်၊ ထိုသူသည် မိမိမသိဘဲ၊ သို့တည်းမဟုတ် အလိုမတူဘဲ သူတပါးတိုက်ကျွေးသဖြင့် မူးယစ်နေစဉ်ပြုသော အခါမှာမှတပါး၊ မမူးမယစ်သောအခါတွင် လိုအပ်ရှိအပ်သည့်အထူးအသိဥာဏ်ဖြင့် ပြုဘိသကဲ့သို့ ပြစ်ဒဏ်စီရင်ခြင်း ခံထိုက်ရမည်။

[illegible] အသိဥာဏ်၊ သို့ [illegible] အထူး အကြံ [illegible] မြောက်မည့် [illegible] မူးယစ်နေသူ ပြု [illegible]

**သေစေရန် ဖြစ်စေ၊ အပြင်း အထန် နာကျင်စေရန် ဖြစ်စေ အကြံ မရှိဘဲနှင့်ရင်း၊ ထိုသို့ဖြစ်စေတန်ရာ သည်ကို မသိဘဲနှင့်ရင်း၊ အပြုခံရသူ သဘောတူချက်ဖြင့်ရင်း ပြုလုပ်မှု။**

၈၇။ ။သေစေရန်ဖြစ်စေ၊ အပြင်းအထန် နာကျင်စေရန်ဖြစ်စေ အကြံမရှိဘဲနှင့်ရင်း၊ သေစေတန်ရာသည်ကိုဖြစ်စေ၊ အပြင်းအထန် နာကျင်စေတန်ရာသည်ကိုဖြစ်စေမသိဘဲနှင့်ရင်း ပြုသောသူကပြုလုပ်ရာတွင်၊ အသက်တဆယ့်ရှစ်နှစ်အထက်အသက်အရွယ်ရှိသူက မိမိသို့ကျရောက်မည့် ဘေးအန္တရာယ်ကို မိမိခံယူမည်ဟု အတည့်အလင်းသော်ရင်း၊ သဘော သက်ရောက်စေခြင်းဖြင့်သော်ရင်း သဘောတူလျှင်၊ ထိုသူ၏ ပြုလုပ်မှုသည် ထိုအသက်တဆယ့်ရှစ်နှစ်အထက် အသက်အရွယ်ရှိသူအား ဘေးအန္တရာယ် ဖြစ်စေနိုင်သည်ဟူသော အကြောင်းကြောင့်၊ သို့တည်းမဟုတ် ဖြစ်စေရန် ပြုလုပ်သူက ကြံရွယ်သည်ဟူသောအကြောင်းကြောင့် ပြစ်မှုမမြောက်စေရ၊ သို့တည်းမဟုတ် ထိုသူ၏ ပြုလုပ်မှုသည်ကျရောက်နိုင်သည့်ဘေးအန္တရာယ်ကိုခံယူမည်ဟုသဘောတူသောသူအား၊ ဘေးအန္တရာယ် ဖြစ်စေတန်ရာသည်ကိုပြုသူက သိနိုင်သည်ဟူသော အကြောင်းကြောင့် ပြစ်မှုမမြောက်စေရ။

ဥပမာ။

မောင်ဖြူနှင့် မောင်မဲသည် ပျော်ရွှင်ခြင်းအလို့ငှါ ဓါးသိုင်းကစားရန် သဘောတူကြ၏။ ထိုသူတို့၌ မဖြောင့်မမှန်သော သဘောမရှိဘဲ တရားသဖြင့် ကစားသည်ဖြင်ပါက၊ ကစားစဉ်ကျရောက်မည့် ဘေးအန္တရာယ်ကို ခံယူကြမည်ဟု သဘောတူရာ သက်ရောက်၏။ ထိုသို့ တရားသဖြင့် ကစားကြရာတွင်၊ မောင်ဖြူက မောင်မဲကို နာကျင်စေ၏။ မောင်ဖြူသည် ပြစ်မှု ကျူးလွန်ရာမရောက်။

**သေစေရန် ကြံရွယ်ခြင်း မရှိ၊ တဦး တယောက်သော သူ၏ အကျိုးငှါ၊ ထိုသူ၏ သဘောတူချက်ဖြင့် သဘော ရိုးနှင့် ပြုသည့်ပြုလုပ်မှု။**

၈၈။ ။တဦးတယောက်သောသူ၏ အကျိုးငှါ ပြုရာတွင် ထိုသူက ဘေးအန္တရာယ်ကို ခံယူရန်၊ သို့တည်းမဟုတ် ကျရောက်နိုင်သည့် ဘေးအန္တရာယ်ကို ခံယူရန် အတည့်အလင်းဖြစ်စေ၊ သဘောသက်ရောက်စေခြင်း ဖြင့်ဖြစ်စေ သဘောတူလျှင်၊ သေစေရန်အကြံမရှိဘဲ သဘောရိုး ဖြင့်ပြုသော ပြုလုပ်မှုသည် ထိုသူအား ဘေးအန္တရာယ်ဖြစ်စေ နိုင်သည်ဟူသော အကြောင်းကြောင့်သော်ရင်း၊ ဘေးအန္တရာယ် ဖြစ်စေရန် ပြုလုပ်သူက ကြံရွယ်သည်ဟူသော အကြောင်း ကြောင့်သော်ရင်း၊ ဘေးအန္တရာယ် ဖြစ်စေတန်ရာသည်ကို ပြုလုပ်သူက သိနိုင်သည်ဟူသော အကြောင်းကြောင့်သော်ရင်း ပြစ်မှုမမြောက်စေရ။

ဥပမာ။

ဆရာဝန် ဦးဖြူသည် ခွဲစိတ်ကုသပါက သေတန်ရာသည်ကိုသိလျက်၊ နာကျင်သော ဝေဒနာ ခံစားနေရသော မောင်မဲကို မောင်မဲ၏ သဘောတူချက်ဖြင့် မောင်မဲ၏အကျိုးငှါ အသုံးပြု နေကျဖြစ်သော ခွဲစိတ်ကုသသည့် ကိရိယာ တန်ဆာများဖြင့် ခွဲစိတ်ကုသ၏။ ခွဲစိတ်ကုသစဉ်က မောင်မဲကိုသေစေရန် အကြံမရှိ၊ မောင်မဲဝေဒနာ ပျောက်ကင်းစေရန် ပြုလုပ်ခြင်းဖြစ်ရာ သဘောရိုးဖြင့် ခွဲစိတ်ကုသခြင်းကြောင့် မောင်မဲသေသော်လည်း၊ ဦးဖြူသည် ပြစ်မှုကျူးလွန် ရာမရောက်။

**ကလေး၏၊ သို့တည်း မဟုတ် စိတ်ပေါ့သွပ်သူ၏ အကျိုးငှါ၊ အုပ်ထိန်းသူက ဖြစ်စေ၊ ထိုသူ၏သဘောတူချက်နှင့် ဖြစ်စေ သဘောရိုးဖြင့်ပြုသည့် ပြုလုပ်မှု။**

၇၉။ ။အသက်တဆယ့်နှစ်နှစ် မပြည့်သေးသောသူ၏၊ သို့တည်းမဟုတ် စိတ်ပေါ့သွပ်သူ၏ အကျိုးငှါ၊ အုပ်ထိန်းသူ ကိုယ်တိုင်ကသော်ရင်း၊ ဥပဒေနှင့်အညီ ထိန်းသိမ်းစောင့်ရှောက်ရသော အခြားသူ ကိုယ်တိုင်ကသော်ရင်း၊ ထိုသူတဦးဦး၏ အတည့်အလင်း သဘောတူချက်နှင့်ဖြစ်စေ၊ သဘောတူရာ သက်ရောက်ချက်နှင့်ဖြစ်စေ ပြုလုပ်သောသူကသော်ရင်း၊ သဘောရိုးဖြင့်ပြုသည့် ပြုလုပ်မှုသည်၊ အသက်တဆယ့်နှစ်နှစ် မပြည့်သေးသူအား၊ သို့တည်းမဟုတ် စိတ်ပေါ့သွပ်သူအား ဘေးအန္တရာယ်ဖြစ်စေနိုင်သည်ဟူသော အကြောင်းကြောင့်သော်ရင်း ဖြစ်စေရန် ပြုလုပ်သူက ကြံရွယ်သည်ဟူသော အကြောင်းကြောင့်သော်ရင်း၊ ဘေးအန္တရာယ်ဖြစ်စေတန်ရာသည်ကို ပြုလုပ်သူက သိနိုင်သည်ဟူသော အကြောင်းကြောင့်သော်ရင်း ဖြစ်မှုမမြောက်။ သို့ရာတွင်——

ခြွင်းချက်များ။

ပဌမ။ ။ဤကင်းလွတ်ချက်သည် တမင်သေစေခြင်းနှင့်၊ သို့တည်းမဟုတ် သေစေရန် အားထုတ်ခြင်းနှင့် မသက်ဆိုင်။

ဒုတိယ။ ။သေဘေးကိုဖြစ်စေ၊ အပြင်းအထန် နာကျင်စေမည့် ဘေးကိုဖြစ်စေ တားဆီးရန် အကြောင်းအတွက်သော်ရင်း၊ ပြင်းထန်သော ရောဂါဝေဒနာကိုဖြစ်စေ၊ မစွမ်းမသန်ခြင်းကိုဖြစ်စေ ပျောက်ကင်းအောင် ကုသရန် အကြောင်းအတွက်သော်ရင်း မဟုတ်လျှင်၊ ဤကင်းလွတ်ချက်သည် သေတန်ရာသည်ကို ပြုသူသိသည့်ပြုလုပ်မှုနှင့် မသက်ဆိုင်။

တတိယ။ ။သေဘေးကိုဖြစ်စေ၊အပြင်းအထန် နာကျင်စေမည့် ဘေးကိုဖြစ်စေ တားဆီးရန် အကြောင်းအတွက်သော်ရင်း၊ ပြင်းထန်သော ရောဂါဝေဒနာကိုဖြစ်စေ၊ မစွမ်းမသန်ခြင်းကိုဖြစ်စေ ပျောက်ကင်းအောင် ကုသရန် အကြောင်းအတွက်သော်ရင်း မဟုတ်လျှင်၊ ဤကင်းလွတ်ချက်သည် အပြင်းအထန် နာကျင်စေရန် အလိုအလျောက်ပြုလုပ်မှုနှင့်၊ သို့တည်းမဟုတ် အပြင်းအထန် နာကျင်စေရန် အားထုတ်မှုနှင့် မသက်ဆိုင်။

စတုတ္ထ။ ။ဤကင်းလွတ်ချက်သည် ဖြစ်မှုတခုခုကို ကျူးလွန်ခြင်းနှင့် မသက်ဆိုင်လျှင်၊ ထိုဖြစ်မှုကိုကျူးလွန်ရန် အားပေးကူညီခြင်းနှင့်လည်း မသက်ဆိုင်။

## ဥပမာ။

မောင်ဖြူသည် ကျောက်ကိုထုတ်ယူလျှင် မိမိ၏ကလေးသေတန်ရာသည်ကို သိသော်လည်း၊ ကလေးသေစေရန် အကြံမရှိ၊ ကလေးသဘောမတူဘဲ ကလေး၏အကျိုးငှါ သဘောရိုးနှင့် ခွဲစိတ်ကုဆရာဝန်တယောက်ကို ကျောက်ထုတ်ယူစေရာ၊ ကလေးကိုရောဂါပျောက်ကင်းစေရန် သဘောသားရှိသည်ဖြစ်သောကြောင့် မောင်ဖြူ၏ ပြုလုပ်မှုသည် ဤကင်းလွတ်ချက်အတွင်း ကျရောက်သည်။

ကြောက် ရွံ့၍ ဖြစ်စေ၊ ကြောင်းခြင်းရာ အမှန်မသိ၍ ဖြစ်စေ သဘောတူခြင်း။

၉၀။ ။တဦးတယောက်သောသူသည် မိမိအကျိုးနစ်နာမည်ကို ကြောက်ရွံ့၍ဖြစ်စေ၊ ကြောင်းခြင်းရာအမှန်ကို မသိ၍ဖြစ်စေ သဘောတူလျှင်၊ ၎င်းပြင် ထိုသို့သဘောတူခြင်းသည် ထိုသူအကျိုးနစ်နာမည်ကို ကြောက်ရွံ့သောကြောင့်သော်၎င်း၊ ကြောင်းခြင်းရာ အမှန် မသိသောကြောင့်သော်၎င်း သဘောတူရခြင်း ဖြစ်ကြောင်းကို ပြုလုပ်သူက သိလျှင်၊ သို့တည်းမဟုတ် ယုံကြည်ရန် အကြောင်းရှိလျှင်၊ သို့တည်းမဟုတ်

စိတ် ပေါ့သွပ်သူက၊ သို့တည်းမဟုတ် မူးယစ်သူက သဘောတူခြင်း။

စိတ်ပေါ့သွပ်ခြင်းကြောင့်ဖြစ်စေ၊ မူးယစ်ခြင်းကြောင့်ဖြစ်စေ မိမိသဘောတူမှု၏ သဘောနှင့် အကျိုးအပြစ်ကို မသိနိုင်သောသူက သဘောတူလျှင်၊ သို့တည်းမဟုတ်

ကလေးက သဘောတူခြင်း။

ရှေ့နောက်စကား ကွဲလွဲခြင်းမရှိသည့်အချက်တွင် အသက် တဆယ့်နှစ်နှစ် မပြည့်သေးသော ကလေးကသဘောတူလျှင်၊ ထိုသို့သဘောတူခြင်းမျိုးသည် ဤဥပဒေသတ်ကြီးပါ ပုဒ်မတခုခုကရည်ရွယ်သော သဘောတူခြင်းမျိုးမမြောက်။

ဖြစ်စေမည့် ဘေးအန္တရာယ်ကို ထောက်ထားခြင်း မပြုဘဲ၊ ပြစ်မှုမြောက်သည့် ပြုလုပ်မှုများကို ခြွင်းချန်ခြင်း။

၉၁။ ။ပုဒ်မ ၈၇၊၈၈ နှင့် ၈၉ များပါ ကင်းလွတ်ချက်များသည်၊ သဘောတူသူ ကိုယ်တိုင်ကိုသော်၎င်း၊ ထိုသူကိုယ်စား သဘောတူသူကိုသော်၎င်း ဖြစ်စေနိုင်သည့် ဘေးအန္တရာယ်ကိုဖြစ်စေ၊ ဖြစ်စေရန် ကြံရွယ်သည့် ဘေးအန္တရာယ်ကိုဖြစ်စေ၊ဖြစ်စေတန်ရာသည်ကို သိနိုင်သည့် ဘေးအန္တရာယ်ကိုဖြစ်စေထောက်ထားရန်မလိုဘဲပြစ်မှုသီးခြားမြောက်သည့် ပြုလုပ်မှုများနှင့် မသက်ဆိုင်စေရ။

ဥပမာ။

ကိုယ်ဝန်ကိုပျက်စေရာတွင် (အမိ၏အသက်ကို ကယ်ဆယ်ရန် သဘောရိုးနှင့် ပြုလုပ်ခြင်း မဟုတ်လျှင်) အမိကိုဖြစ်စေနိုင်သည့် ဘေးအန္တရာယ်ကိုသော်၎င်း၊ ဖြစ်စေရန် ကြံရွယ်သည့် ဘေးအန္တရာယ်ကိုသော်၎င်း ထောက်ထားရန်မလို၊ ထိုသို့ကိုယ်ဝန်ပျက်စေခြင်းသည် ပင်လျှင် သီးခြားဖြစ်သော ပြစ်မှုဖြစ်လေသည်။ ထို့ကြောင့် ထိုပြစ်မှုသည် "ဘေးအန္တရာယ် ဖြစ်စေသည်ဟုသော အကြောင်းကြောင့်"ဖြစ်သော ပြစ်မှုမျိုးမဟုတ်၊ထိုသို့ကိုယ်ဝန်ပျက်စေသည်ကို အမိကဖြစ်စေ၊ထိုသူ၏အုပ်ထိန်းသူကဖြစ်စေ သဘောတူစေကာမူ ကိုယ်ဝန်ပျက်စေမှုကိုပြုလုပ်ပိုင်သည်မဟုတ်။

တဦး တယောက် သောသူ၏ အကျိုးငှါ၊ ထိုသူ သဘော တူချက် မရှိဘဲ၊ သဘောရိုးဖြင့်ပြုလုပ်မှု။

၉၂။ ။တဦးတယောက်သောသူ၏ သဘောတူချက်ကိုမရသော်လည်း၊ ထိုသူသည် သဘောတူကြောင်း မပေါ်ပြနိုင်သည့် အခြေသို့ ဆိုက်ရောက်သောအခါတွင်၊သို့တည်းမဟုတ် ထိုသူသည် သဘောတူရန်မစွမ်းနိုင်သည့်အပြင်၊ ထိုသူ၏အကျိုးအတွက်အချိန်မှီ သဘောတူချက် ရယူနိုင်ရန်ထိုသူ၏ အုပ်ထိန်းသူဖြစ်စေ၊ ဥပဒေနှင့်အညီ စောင့်ရှောက်ရသူဖြစ်စေ မရှိသည့်အခါမျိုးတွင် ထိုသူ၏ အကျိုးငှါ

သဘောရိုးဖြင့်ပြုလုပ်သည့် ပြုလုပ်မှုသည် ထိုသူအား ဘေးအန္တရာယ် ဖြစ်စေနိုင်သည်ဟူသော အကြောင်းကြောင့် ပြစ်မှုမမြောက်။ သို့ရာတွင်—

ခြွင်းချက်များ။

ပဌမ။ ။ဤကင်းလွတ်ချက်သည် တမင်သေစေခြင်းနှင့်၊ သို့တည်းမဟုတ် သေစေရန် အားထုတ်ခြင်းနှင့် မသက်ဆိုင်။

ဒုတိယ။ ။သေဘေးကိုဖြစ်စေ၊ အပြင်းအထန် နာကျင်စေမည့်ဘေးကိုဖြစ်စေ တားဆီးရန် အကြောင်းအတွက်သော်၎င်း၊ ပြင်းထန်သော ရောဂါဝေဒနာကို ဖြစ်စေ မစွမ်းမသန်ခြင်းကိုဖြစ်စေ ပျောက်ကင်းအောင် ကုသရန်အကြောင်းအတွက် သော်၎င်း မဟုတ်လျှင်၊ ဤကင်းလွတ်ချက်သည် သေတန်ရာသည်ကို ပြုသူ သိသည့် ပြုလုပ်မှုနှင့်မသက်ဆိုင်။

တတိယ။ ။သေဘေးကိုဖြစ်စေ၊ နာကျင်စေမည့် ဘေးကိုဖြစ်စေ တားဆီးရန်အကြောင်း အတွက် မဟုတ်လျှင်၊ဤကင်းလွတ်ချက်သည် နာကျင်စေရန်အလိုအလျောက် ပြုလုပ်မှုနှင့်၊သို့တည်းမဟုတ် နာကျင်စေရန် အားထုတ်မှုနှင့် မသက်ဆိုင်။

စတုတ္ထ။ ။ပြစ်မှုကခုခုကို ကျူးလွန်ခြင်းနှင့် မသက်ဆိုင်လျှင်၊ ဤကင်းလွတ်ချက်သည် ထိုပြစ်မှုကိုကျူးလွန်ရန် အားပေးကူညီခြင်းနှင့်လည်း မသက်ဆိုင်။

## ဥပမာများ။

(က) မောင်မဲသည် မြင်းပေါ်ကကျ၍မေ့မြောနေ၏။ ခွဲစိတ်ကုဆရာဝန် ဦးဖြူက မောင်မဲ သတိရစေရန် မောင်မဲ၏ဦးခေါင်းခွံကိုပေါက်၍ ကုသသင့်ကြောင်းတွေ့မြင်၏။ မောင်မဲသည် မိမိအတွက် ချင့်ချိန်ရန်သတိမရမီ ဦးဖြူက မောင်မဲသေစေရန် ရည်ရွယ်ခြင်းမရှိဘဲ၊ မောင်မဲ အကျိုးငှါ၊ သဘောရိုးဖြင့် ဦးခေါင်းခွံကိုပေါက်၍ကု၏။ ဦးဖြူသည် ပြစ်မှုကျူးလွန်ရာ မရောက်။

(ခ) မောင်မဲကို ကျားချီသွားရာ၊ မောင်မဲကိုသေနတ်မှန်လျှင် သေတန်ရာသည်ကို သိလျက်၊ မောင်မဲအသက်ဘေးမှ ချမ်းသာရာရစေရန် သဘောရိုးဖြင့် မောင်ဖြူက ကျားကို သေနတ်နှင့်ပစ်သည်။ သို့ပစ်သဖြင့် မောင်မဲမှာ မောင်ဖြူ၏ကျည်ဆံထိ၍ သေလောက်အောင် ဒဏ်ရာရစေကာမူ မောင်ဖြူသည် ပြစ်မှုကျူးလွန်ရာမရောက်။

(ဂ) ခွဲစိတ်ကုဆရာဝန် ဦးဖြူသည် ကလေးတယောက် မတော်တဆ ထိခိုက်ဒဏ်ရာရသည် ကိုမြင်၏။ ချက်ခြင်းခွဲစိတ်မကုသလျှင် ထိုကလေးသေတန်ရာသည်ကိုလည်းသိ၏။ ထိုကလေး အတွက် အုပ်ထိန်းသူတံ အကြောင်းကြားရန်လည်း အချိန်မရှိ၊ကလေးကမခွဲမစိတ်ရန် တောင်း ပန်ပါသော်လည်း၊ ကလေးမသေစေရန် ရည်ရွယ်၍ သဘောရိုးဖြင့် ဦးဖြူက ခွဲစိတ်ကုသဖြင့် ကလေးသေစေကာမူ ဦးဖြူသည် ပြစ်မှုကျူးလွန်ရာ မရောက်။

(ဃ) မီးလောင်နေသော အိမ်တအိမ်တွင် ကလေးတယောက်နှင့်အတူ မောင်ဖြူရှိနေ၏။ အိမ်အောက်တွင် ရှိသူတို့သည် စောင်ကိုဖြန့်၍ခံပေးကြရာ၊ ကလေးကိုပစ်ချလိုက်လျှင် ကလေးသေတန်ရာသည်ကိုသိလျက်၊ မောင်ဖြူက ထိုကလေးကို သေစေရန် ရည်ရွယ်ခြင်းမရှိဘဲ ကလေးအသက်ချမ်းသာရာရစေရန် သဘောရိုးဖြင့် အိမ်အောက်စောင်ဖြန့်ခံရာသို့ ကလေးကို အိမ်ထက်မှပစ်ချလိုက်၍ ကလေးသေစေကာမူ မောင်ဖြူသည် ပြစ်မှုကျူးလွန်ရာ မရောက်။

**ရှင်းလင်းချက်။** ။ငွေကြေးနှင့် သက်ဆိုင်သည့် အကျိုးသည် ပုဒ်မ ၈၈၊ ၈၉ နှင့် ၉၂ တို့တွင်ပါရှိသော အကျိုး၏အဓိပ္ပါယ်၌ သက်ရောက်ခြင်းမရှိ။

**သဘောရိုးဖြင့် အကြောင်းကြားခြင်း။**

၉၃။ ။တဦးတယောက်သောသူ၏ အကျိုးငှါ သဘောရိုးဖြင့် ထိုသူအား အကြောင်းကြားလျှင်၊ ထိုသို့အကြောင်းကြားခြင်းကြောင့် ထိုသူ၌ ဘေးအန္တရာယ်ရောက်သော်လည်း၊ အကြောင်းကြားသူသည် ပြစ်မှုကျူးလွန်ရာ မရောက်။

## ဥပမာ။

ခွဲစိတ်ကု ဆရာဝန် ဦးဖြူက လူနာတယောက်အား အသက်ရှင်နိုင်ခွင့်မရှိဟု သဘောရကြောင်းကို သဘောရိုးဖြင့် အကြောင်းကြားခြင်းကြောင့် လူနာသည် ထိတ်လန့်၍ သေဆုံး၏။ ဤသို့အကြောင်းကြားခြင်းဖြင့် လူနာသေတန်ရာသည်ကို ဦးဖြူသိစေကာမူ ဦးဖြူသည် ပြစ်မှုကျူးလွန်ရာ မရောက်။

**ခြိမ်းခြောက်၍ ခိုင်းစေသောကြောင့် ပြုရသည့် ပြုလုပ်မှု။**

၉၄။ ။လူသတ်မှုနှင့် သေဒဏ်ထိုက်သော နိုင်ငံတော်အစိုးရကို ဆန့်ကျင် ကျူးလွန်သည့် ပြစ်မှုများမှအပ၊ ပြစ်မှုတခုခုကို ပြုရန်ငြင်းဆန်လျှင် တမုဟုတ်ခြင်း သေဘေးဆိုက်မည်ဟု စိုးရိမ်ဘွယ်ရာ ယုတ္တိရှိလောက်အောင် ခြိမ်းခြောက်ခြင်းခံရသဖြင့် ပြုရလျှင်၊ ထိုပြုရသူ၏ ပြုလုပ်မှုသည် ပြစ်မှုမမြောက်၊ သို့ရာတွင် ထိုသူသည် ထိုသို့ခြိမ်းခြောက်ခြင်းခံရသည့်အခြေသို့ မိမိအလိုအလျောက်သော်၎င်း၊ တမုဟုတ်ခြင်း သေဘေးဆိုက်မည်ဟု စိုးရိမ်ဘွယ်ရာ ယုတ္တိမရှိဘဲနှင့်သော်၎င်း ရောက်ရှိခြင်းမဖြစ်ခဲ့စေရ။

**ရှင်းလင်းချက် ၁။** ။မိမိအလိုအလျောက်ဖြစ်စေ၊ ရိုက်ပုတ်မည်ဟု ခြိမ်းခြောက်ခြင်း ခံရသောကြောင့်ဖြစ်စေ၊ ဓါးပြလုဆိုးတို့၏ အကျင့်အကြံများကို သိလျက်နှင့် ဓါးပြလုဆိုးဂိုဏ်းသို့ဝင်သောသူသည်၊ ဥပဒေအရ ပြစ်မှုမြောက်သော ပြုလုပ်မှုကို ဓါးပြလုဆိုးများက ခြိမ်းခြောက်သဖြင့် ပြုလုပ်ရသည်ဟူသော အကြောင်းကြောင့် ဤကင်းလွတ်ချက်ပါ အကျိုးခံစားခွင့်ကို ခံစားထိုက်သည်မဟုတ်။

**ရှင်းလင်းချက် ၂။** ။တဦးတယောက်သောသူအား ဓါးပြလုဆိုးဂိုဏ်းက ဖမ်းဆီး၍၊ ဥပဒေအရ ပြစ်မှုမြောက်သော ပြုလုပ်မှုတခုကိုမပြုလျှင် ချက်ခြင်းသတ်ပစ်မည်ဟု ခြိမ်းခြောက်၍ အတင်းပြုစေသည်။ ဥပမာဆိုသော် ဓါးပြလုဆိုးများက ပန်းဘဲတယောက်ကို ဖမ်းဆီး၍ ကိရိယာ တန်ဆာများကိုယူစေပြီးလျှင်၊ အိမ်ထဲသို့ မိမိတို့ဝင်၍ ဓါးပြတိုက်နိုင်အောင် အိမ်တံခါးကို အတင်းချိုးဖျက်ခိုင်းသည်၊ ထိုသို့ချိုးဖျက်ရသဖြင့် ပန်းဘဲသည် ဤကင်းလွတ်ချက်ပါ အကျိုးခံစားခွင့်ကို ခံစားထိုက်သည်။

ဘေး အန္တရာယ် အနည်းငယ်မျှသာ ဖြစ်စေသည့် ပြုလုပ်မှု။

၉၅။ ။လူသာမန်တို့ အရေးမယူလောက်အောင် သေးနုပ်သောဘေးအန္တရာယ်ဖြစ်လျှင် ထိုဘေးအန္တရာယ်ကို ပြုသောသူသည်၊ သို့တည်းမဟုတ် ထိုဘေးအန္တရာယ်ကိုဖြစ်စေရန် ကြံရွယ်သောသူသည်၊ သို့တည်းမဟုတ် ထိုဘေးအန္တရာယ်ဖြစ်စေတန်ရာသည်ကို သိသောသူသည် ပြစ်မှုမထိုက်သင့်စေရ။

## ကာကွယ်ခုခံပိုင်ခွင့်။

၉၆။ ။ကာကွယ်ခုခံပိုင်ခွင့်အရပြုသော ပြုလုပ်မှုသည် ပြစ်မှုမမြောက်။

ကာကွယ်ခုခံရာတွင်ပြုလုပ်မှု။

၉၇။ ။ပုဒ်မ ၉၉ ပါ ကန့်သတ်ချက်များကို မဆန့်ကျင်ဘဲ မည်သူမဆို—

လူ့ကိုယ်နှင့် ပစ္စည်း များကို ကာကွယ်ခုခံပိုင်ခွင့်။

ပဌမ။ ။လူ့ကိုယ်ကို ထိခိုက် ကျူးလွန်သည့် ပြစ်မှုကို တားဆီးရန်၊ မိမိကိုယ်နှင့် အခြားသူ၏ ကိုယ်ကို ကာကွယ် ခုခံပိုင်ခွင့်ရှိသည်။

ဒုတိယ။ ။ခိုးမှု၊ သို့တည်းမဟုတ် လုယက်မှု၊ သို့တည်းမဟုတ် အကျိုးဖျက်ဆီးမှု၊ သို့တည်းမဟုတ် ရာဇဝတ်ပြစ်ဒဏ်ထိုက်သော ကျော်နင်းမှုကိုသော်ရင်း၊ အဆိုပါ ပြစ်မှုမျိုးကို ကျူးလွန်ရန် အားထုတ်ခြင်းကိုသော်ရင်း တားဆီးရန် မိမိပိုင်ဖြစ်စေ၊ သူတပါးပိုင်ဖြစ်စေ ရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများကို၊ သို့တည်းမဟုတ် မရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများကို ကာကွယ်ခုခံပိုင်ခွင့်ရှိသည်။

စိတ် ပေါ့သွပ်သူ စသည်တို့၏ ပြုလုပ်မှုကို တားဆီးရန် ကာကွယ်ခုခံပိုင်ခွင့်။

၉၈။ ။ပြုလုပ်မှုတခုသည် အသက်ငယ်ခြင်း၊ အမြော်အမြင် အဆင်အခြင် မပြည့်စုံသေးခြင်း၊ စိတ်ပေါ့သွပ်ခြင်း၊ မူးယစ်ခြင်း၊ ကြောင်းခြင်းရာ အမှန်မသိခြင်း တခုခုကြောင့်သာ ထိုပြုလုပ်မှုကို ပြုသူအတွက် ပြစ်ဒဏ်မထိုက်သော်လည်း၊ မည်သူမဆို၊ ထိုပြုလုပ်မှုကို တားဆီးရန် ပြစ်မှုမြောက်သော ပြုလုပ်မှု ဖြစ်ဘိသကဲ့သို့ ကာကွယ်ခုခံပိုင်ခွင့် ရှိသည်။

## ဥပမာများ။

(က) မောင်မဲသည် ရူးသွပ်နေခိုက် မောင်ဖြူကို သတ်မည်ဟုအားထုတ်၏။ မောင်မဲ၌ အပြစ်မရှိ၊ သို့ရာတွင် မောင်မဲမရူးသွပ်လျှင် မောင်ဖြူမှာ ကာကွယ်ခုခံပိုင်ခွင့်ရှိသကဲ့သို့ ဤကိစ္စတွင်လည်း ကာကွယ်ခုခံပိုင်ခွင့်ရှိသည်။

(ခ) မောင်ဖြူသည် ဥပဒေနှင့်အညီ ဝင်ခွင့်ရှိသော အိမ်တအိမ်ထဲသို့ ညဥ့်အခါဝင်ရောက်၏။ မောင်မဲက မောင်ဖြူကို အိမ်ဖေါက်ထွင်းသူဖြစ်မည်ဟု သဘောရိုးနှင့်ထင်၍ မောင်ဖြူအား အန္တရာယ်ပြု၏။ ဤတွင် မောင်မဲမှာ ကြောင်းခြင်းရာ အမှန်ကို မသိခြင်းကြောင့် မောင်ဖြူအား အန္တရာယ်ပြုသော်လည်း၊ ပြစ်မှုကျူးလွန်ရာမရောက်၊ သို့ရာတွင် မောင်မဲသည် ကြောင်းခြင်းရာ အမှန်ကိုသိလျက်နှင့် အန္တရာယ်ပြုဘိသကဲ့သို့၊ မောင်ဖြူမှာ မောင်မဲ၏ အန္တရာယ်ပြုခြင်းကို တားဆီးရန် ကာကွယ်ခုခံပိုင်ခွင့်ရှိသည်။

**ဒုတိယ**။ ။မကာကွယ် မနေခဲ့လျှင်၊ အပြင်းအထန် နာကျင်စေခြင်းအတွက် စိုးရိမ်ဘွယ်ရာဖြစ်လောက်အောင် အကြောင်းရှိသည့် လက်ရောက်မှု။

**တတိယ**။ ။မုဒိမ်းကျင့်ရန် အကြံအစည်နှင့် ကျူးလွန်သည့်လက်ရောက်မှု။

**စတုတ္ထ**။ ။ကာမရာဂ စိတ်ကို ဓမ္မတာအတိုင်းမဟုတ်ဘဲ ဖျောင့်ရဲအောင်ပြုလုပ်ရန်အကြံနှင့် ကျူးလွန်သည့် လက်ရောက်မှု။

**ပဉ္စမ**။ ။လူကိုခိုးယူရန်အကြံနှင့်သော်၎င်း၊ သွေးဆောင်ခေါ်ငင်ရန်အကြံနှင့် သော်၎င်း ကျူးလွန်သည့် လက်ရောက်မှု။

**ဆဋ္ဌမ**။ ။လွတ်မြောက်ရေးအတွက် ပြည်သူ့ဝန်ထမ်းအာဏာပိုင်တို့ထံ တိုင်တန်းနိုင်ခွင့်မရနိုင်ဟုစိုးရိမ်ဘွယ်ရာဖြစ်လောက်အောင်အကြောင်းကို ဖြစ်စေပြီးလျှင်၊ တဦးတယောက်သောသူအား မတရားချုပ်နှောင်ထားရန်အကြံနှင့် ကျူးလွန်သည့် လက်ရောက်မှု။

လူ့ကိုယ်ကို ကာကွယ်ခုခံပိုင်ခွင့် မည်အညှိ အခါတွင် သေစေခြင်းမှ တပါး၊ အခြားဘေးအန္တရာယ်ဖြစ်စေရန် ပြုနိုင်ခြင်း။

၁၀၁။ ။တဆက်တည်းဖြစ်သော အထက်ပုဒ်မတွင် ဖော်ပြထားသော အန္တရာယ်ပြုသူက ပြစ်မှုများအနက် တခုခုကို ကျူးလွန်ခဲ့သည် မဟုတ်လျှင်၊ ထိုအန္တရာယ်ပြုသူ သေသောင် မည်သူမဆို၊ မိမိအလိုအလျောက် လူ့ကိုယ်ကို ကာကွယ် ခုခံပိုင်ခွင့်မရှိ၊ သို့ရာတွင် ပုဒ်မ ၉၉ တွင် ဖော်ပြသည့် ကန့်သတ်ချက်များကို အထောက်အထားပြုကာ၊ အန္တရာယ်ပြုသူကို သေစေခြင်းမှတပါး အခြားဘေးအန္တရာယ်ဖြစ်စေရန် မည်သူမဆို၊ မိမိအလိုအလျောက်ပြု၍၊ လူ့ကိုယ်ကို ကာကွယ် ခုခံ ပိုင်ခွင့် ရှိသည်။

လူ့ကိုယ်ကို ကာကွယ် ခုခံပိုင်ခွင့် စတင် ဖြစ်ပေါ်သည့်အခါနှင့် ဆက်လက် တည်ရှိနေမည့် ကာလအပိုင်းအခြား။

၁၀၂။ ။ပြစ်မှုကျူးလွန်ခြင်း မရှိသေးသော်လည်း ပြစ်မှုကို ကျူးလွန်ရန် အားထုတ်မှုမှသော်၎င်း၊ ခြိမ်းခြောက်မှုမှသော်၎င်း လူ့ကိုယ်ကိုဘေးအန္တရာယ်ဖြစ်စေမှုအတွက် စိုးရိမ်ဘွယ်ရာ အကြောင်းပေါ်ပေါက်လာသည်နှင့် တပြိုင်နက် လူ့ကိုယ်ကို ခုခံပိုင်ခွင့်သည် စတင်ဖြစ်ပေါ်လာသည်။ ထိုပြင် အဆိုပါဘေးအန္တရာယ်အတွက် စိုးရိမ်ဘွယ်ရာအကြောင်း ဆက်လက်တည်ရှိနေသမျှကာလပတ်လုံး လူ့ကိုယ်ကို ကာကွယ်ခုခံပိုင်ခွင့်လည်း ဆက်လက်တည်ရှိလျက်နေသည်။

ပစ္စည်း ကာကွယ် ခုခံပိုင်ခွင့်သည် မည်သည့် အခါတွင် လူကို သေစေရန် ပြုနိုင်ခြင်း။

၁၀၃။ ။အောက်ပေါ်ပြပါ ပြစ်မှုများအနက် ပြစ်မှုတခုခုကို မတော်မမှန်ပြုသူက ကျူးလွန်လျှင်၊ သို့တည်းမဟုတ် ကျူးလွန်ရန် အားထုတ်လျှင်၊ ပုဒ်မ ၉၉ တွင် ဖော်ပြထားသည့် ကန့်သတ်ချက်များကို အထောက်အထားပြုကာ၊ ထိုမတော်မမှန်ပြုသူကို သေစေရန် သော်၎င်း၊ အခြားဘေးအန္တရာယ်ဖြစ်စေရန်သော်၎င်း မည်သူမဆို၊ မိမိအလိုအလျောက်ပြု၍ ပစ္စည်းကိုကာကွယ်ခုခံပိုင်ခွင့်ရှိသည်။

**ပဌမ**။ ။လုယက်မှု။

**ဒုတိယ**။ ။ညဥ့်အခါ အိမ်ဖေါက်ထွင်းမှု။

**တတိယ။** ။လုနေရန်ဖြစ်စေ၊ ဥစ္စာပစ္စည်းထားသိုရန်ဖြစ်စေ အသုံးပြုသည့်တိုက်အိမ်စသည့် အဆောက်အအုံ၊ တဲ၊ ရေယာဉ်တခုခုတွင် ကျူးလွန်သည့် မီးဖြင့် အကျိုးဖျက်ဆီးမှု။

**စတုတ္ထ။** ။မကာကွယ် မခုခံဘဲနေပါက သေဘေးကို၊ သို့တည်းမဟုတ် အပြင်းအထန် နာကျင်ခြင်းခံရမည်ကို စိုးရိမ်ရန် အကြောင်းရှိအောင် ကျူးလွန်သည့် ခိုးမှု၊ သို့တည်းမဟုတ် အကျိုးဖျက်ဆီးမှု၊ သို့တည်းမဟုတ် အိမ်ကျော်နင်းမှု။

**ပစ္စည်း၊ ကာကွယ် ခုခံပိုင်ခွင့်သည် မည်သည့် အခါတွင် သေစေခြင်းမှတပါး၊ အခြားဘေးအန္တရာယ် ဖြစ်စေရန် ပြုနိုင်ခြင်း။**

၁၀၄။ ။တဦးတယောက်သောသူသည်တဆက်တည်းဖြစ်သောအထက်ပုဒ်မတွင်ဖေါ်ပြထားသော ပြစ်မှုမျိုးမဟုတ်သည့်ခိုးမှု၊ အကျိုးဖျက်ဆီးမှု ရာဇဝတ်ပြစ်ဒဏ်ထိုက်သော ကျော်နင်းမှုတခုခုကို ကျူးလွန်လျှင် သို့တည်းမဟုတ် ကျူးလွန်ရန် အားထုတ်လျှင်၊ ထိုသူကို သေစေရန် မည်သူမဆို၊ မိမိအလိုအလျောက်ပြု၍ ပစ္စည်းကို ကာကွယ် ခုခံပိုင်ခွင့်မရှိ၊ သို့ရာတွင် ပုဒ်မ ၉၉ ၌ ဖေါ်ပြသည့်ကန့်သတ်ချက်များကို အထောက်အထား၍ပြုကာ၊ ထိုမတော်မမှန် ပြုသူကို သေစေခြင်းမှတပါး၊ အခြားဘေးအန္တရာယ်ဖြစ် စေရန် မည်သူမဆို၊ မိမိအလိုအလျောက်ပြု၍ ပစ္စည်းကို ကာကွယ် ခုခံပိုင်ခွင့်ရှိသည်။

**ပစ္စည်းကို ကာကွယ်ခုခံ ပိုင်ခွင့်စတင်ဖြစ်ပေါ်သည့် အခါနှင့်ဆက်လက်တည်ရှိ နေမည့် ကာလအပိုင်းအခြား။**

၁၀၅။ ။ပစ္စည်းကို ကာကွယ် ခုခံပိုင်ခွင့်သည်၊ ပစ္စည်းကို ဘေးအန္တရာယ် ဖြစ်စေမည့် စိုးရိမ်ဘွယ်ရာအကြောင်း ဖြစ်ပေါ်လာသည့်အခါမှအစပြုသည်။

ခိုးမှု၌ပစ္စည်းကာကွယ် ခုခံပိုင်ခွင့်သည်၊ပြစ်မှုကျူးလွန်သူက ခိုးရာပါ ပစ္စည်းနှင့်တကွ ထွက်ခွါသွားသည့်တိုင်အောင်၊သို့တည်းမဟုတ် ပြည်သူ့ဝန်ထမ်းအာဏာပိုင်တို့၏ အကူအညီကိုရသည့်တိုင်အောင်၊ သို့တည်းမဟုတ် ပစ္စည်းကို ပြန်ရသည့်တိုင်အောင် ဆက်လက်တည်နေသည်။

လုယက်မှု၌ ပစ္စည်းကာကွယ် ခုခံပိုင်ခွင့်သည်၊ ပြစ်မှုကျူးလွန်သူက တဦးတယောက်သောသူကို သေအောင်သော်၎င်း၊ နာကျင်အောင်သော်၎င်း၊ မတရားတားဆီးရန်သော်၎င်း ပြုနေသမျှ ကာလပတ်လုံး၊ သို့တည်းမဟုတ် ပြုရန် အားထုတ်နေသမျှ ကာလပတ်လုံး၊ သို့တည်းမဟုတ် တမုဟုတ်ခြင်း သေရမည်ဟုသော်၎င်း၊တမုဟုတ်ခြင်းနာကျင်ခြင်းခံရမည်ဟုသော်၎င်း၊ တမုဟုတ်ခြင်းကိုယ်တိုင် အချုပ်အနှောင်ခံရမည်ဟုသော်၎င်း ကြောက်ရွံ့ဘွယ်ရာ ဖြစ်အောင် ကျူးလွန်သူက ပြုနေသမျှ ကာလပတ်လုံး ဆက်လက်တည်နေသည်။

ရာဇဝတ်ပြစ်ဒဏ်ထိုက်သော ကျော်နင်းမှု၌၊ သို့တည်းမဟုတ် အကျိုးဖျက်ဆီးမှု၌ ပစ္စည်းကာကွယ်ခုခံပိုင်ခွင့်သည်၊ ပြစ်မှုကျူးလွန်သူက ရာဇဝတ်ပြစ်ဒဏ်ထိုက်သော ကျော်နင်းမှုကို၊ သို့တည်းမဟုတ် အကျိုးဖျက်ဆီးမှုကို ကျူးလွန်နေသမျှ ကာလပတ်လုံး ဆက်လက် တည်နေသည်။

ညဉ့်အခါ အိမ်ဖေါက်ထွင်းမှုမှ ပစ္စည်းကာကွယ် ခုခံပိုင်ခွင့်သည်၊ ပြစ်မှုကျူးလွန်သူက အိမ်ကိုဖေါက်ထွင်းခြင်းဖြင့် အစပြုသော အိမ်ကျော်နင်းမှု ကျူးလွန်နေသမျှ ကာလပတ်လုံး ဆက်လက်တည်နေသည်။

၁၀၆။ ။သေစေရန် စိုးရိမ်ဘွယ်ရာ အကြောင်းရှိသည့် လက်ရောက်မှုမှ ကာကွယ် ခုခံပိုင်ခွင့်ကို ဆောင်ရွက်ရာတွင်၊ ကာကွယ်ခုခံသူသည် အပြစ်မရှိသူ တဦးတယောက်အား ဘေးအန္တရာယ် မဖြစ်နိုင်စေဘဲ ထိုအခွင့်ကို ဖြစ်မြောက်အောင် မသုံးနိုင်သော အခြေသို့ ရောက်ရှိနေလျှင်၊ ထိုအပြစ်မရှိသူအား ဘေးအန္တရာယ် ဖြစ်နိုင်စေမည့် အကြောင်း ရှိသော်လည်း၊ မိမိ၌ ကာကွယ်ခုခံပိုင်ခွင့်ရှိသည်။

**အပြစ်မရှိသူအား အန္တရာယ်ဖြစ်ကောင်း ဖြစ်နိုင်စေကာမူ၊ သေစေ လောက်သော လက်ရောက်မှုမှ ကာကွယ် ခုခံပိုင်ခွင့်။**

ဥပမာ။

လူတစုသည် မောင်ဖြူကို သတ်ရန် အားထုတ်၍ မောင်ဖြူအား အန္တရာယ်ပြု၏။ မောင်ဖြူသည် ထိုလူစုကို သေနတ်နှင့် မပစ်မခတ်ဘဲ ကာကွယ် ခုခံပိုင်ခွင့်ကို ဖြစ်မြောက်အောင် မသုံးနိုင်သည့် အခြေသို့ ရောက်ရှိနေသည်။ ပစ်ခတ်ပြန်လျှင်လည်း ထိုလူစုနှင့် ရောနှောလျက်ရှိသည့် ကလေးများကို အန္တရာယ် မဖြစ်နိုင်စေဘဲ မပစ်မခတ်နိုင်သော အခြေသို့ ရောက်ရှိနေပြန်သည်။ ထိုအခြေတွင် သေနတ်ပစ်ခတ်ခြင်းကြောင့် ကလေး တယောက်ယောက်ကို ဘေးအန္တရာယ် ဖြစ်စေခဲ့သော်လည်း ကာကွယ်ခုခံသူ မောင်ဖြူသည် ပြစ်မှုကျူးလွန်ရာ မရောက်။

## အခန်း ၅။

## အားပေးကူညီမှု။

၁၀၇။ ။အရာတခုပြုခြင်းကို တဦးတယောက်သောသူက အားပေးကူညီသည် ဆိုသည်မှာ—

**အားပေးကူညီခြင်း။**

ပဌမ။ ။တဦးတယောက်သောသူအား ထိုအရာကို ပြုစေရန် လှုံ့ဆော်ခြင်း၊ သို့တည်းမဟုတ်

ဒုတိယ။ ။ထိုအရာကို ပြုစေရန် အခြားသူတဦးနှင့်ဖြစ်စေ၊ အများနှင့်ဖြစ်စေ ပူးပေါင်းကြံစည်သည့် အတိုင်းလည်းဖြစ်၍၊ ထိုအရာကို ပြုရန်အလို့ငှါလည်းဖြစ်သော ပြုလုပ်မှုတခုသော်၎င်း၊ ဥပဒေနှင့် မညီ ပျက်ကွက်မှုတခုသော်၎င်း ဖြစ်ပွါးလျှင်၊ ထိုသို့ မိမိကပူးပေါင်း ကြံစည်ခြင်း၊ သို့တည်းမဟုတ်

တတိယ။ ။ပြုလုပ်မှုဖြင့်သော်၎င်း၊ ဥပဒေနှင့်မညီ ပျက်ကွက်မှုဖြင့်သော်၎င်း ထိုအရာ ပြုခြင်းကို တမင်ကူပံ့ခြင်းတို့ဖြစ်သည်။

**ရှင်းလင်းချက် ၁။** ။မည်သူမဆို၊ မမှန်သည့်ကြောင်းခြင်းရာတခုကို မမှန်ကြောင်း သိလျက်နှင့် တမင်ပြောဆိုခြင်းဖြင့်ဖြစ်စေ၊ အရေးပါသည့်ကြောင်းခြင်းရာတခုကို ထုတ်ဖေါ်ရန် တာဝန်ရှိလျက် တမင်ထိမ်ချန်ခြင်းဖြင့်ဖြစ်စေ မိမိအလိုအလျောက် သူတပါးအားအရာတခုကိုပြုစေလျှင်၊ သို့တည်းမဟုတ် ထိုသို့ပြုစေရန်အားထုတ်လျှင်၊ သို့တည်းမဟုတ် အရာတခုပြုမှုကို မိမိအလိုအလျောက်ဖြစ်မြောက်စေလျှင်၊ သို့တည်းမဟုတ် ထိုသို့ဖြစ်မြောက်စေရန် အားထုတ်လျှင်၊ ထိုသူသည်ထိုအရာကို ပြုစေရန် လှုံ့ဆော်သည်မည်၏။

## ဥပမာ။

ပြည်သူ့ဝန်ထမ်းမောင်ဖြူသည် မောင်ညိုကို ဖမ်းဆီးရန် တရားရုံးမှ ဝရမ်းအမိန့် ရရှိ၏။ ထိုသို့အမိန့်ရရှိကြောင်းကို မောင်မဲကသိ၏။ မောင်ဝါအဖမ်းခံရလေအောင် မောင်ဝါသည် မောင်ညိုမဟုတ်ကြောင်း သိလျက်နှင့် မောင်ညိုဖြစ်သည်ဟု မောင်ဖြူအား မောင်မဲကတမင် ပြောဆိုသဖြင့် မောင်ဝါအဖမ်းခံရ၏။ ဤအမှုတွင် မောင်မဲသည် လှုံ့ဆော်ခြင်းဖြင့် အားပေးကူညီရာရောက်သည်။

**ရှင်းလင်းချက် ၂။** ။မည်သူမဆို ပြုလုပ်မှုတခုကို မပြုမီဖြစ်စေ၊ ပြုဆဲအခါတွင်ဖြစ်စေ ထိုပြုလုပ်မှု ဖြစ်မြောက်လွယ်ကူစေခြင်းငှါ အရာတခုခုကိုပြု၍ ထိုသို့ပြုခြင်းဖြင့် ပြုလုပ်မှု ဖြစ်မြောက်ရန် လွယ်ကူစေလျှင်၊ ထိုသူသည် ထိုပြုလုပ်မှုကိုပြုရန် ကူပံ့သည်မည်၏။

၁၀၈။ ။တဦးတယောက်သောသူသည် ပြစ်မှုကျူးလွန်ခြင်းကို အားပေး ကူညီလျှင် သို့တည်းမဟုတ် ဥပဒေအရ ပြစ်မှုကျူးလွန်ရာ ရောက်နိုင်သူက၊ အားပေးကူညီသူ၌ရှိသော ကြံရွယ်ချက်မျိုးဖြင့် သော်၎င်း၊ အသိဉာဏ်မျိုးဖြင့်သော်၎င်း ပြုသည်ဖြစ်ပါက ပြစ်မှုမြောက်မည့် ပြုလုပ်မှု ကျူးလွန်ခြင်းကို အားပေးကူညီလျှင်၊ ထိုသူသည် ပြစ်မှုကို အားပေးကူညီသည်မည်၏။

အားပေးကူညီသူ။

**ရှင်းလင်းချက် ၁။** ။ပြုလုပ်မှုတခုကို ပြုလုပ်ရန် ဥပဒေနှင့်မညီ ပျက်ကွက်ခြင်းကိုအားပေးကူညီလျှင်၊ အားပေးကူညီသူသည် မိမိကိုယ်တိုင် ထိုပြုလုပ်မှုကို ပြုရန်တာဝန် မရှိသော်လည်း ပြစ်မှုကျူးလွန်ရာ ရောက်နိုင်သည်။

**ရှင်းလင်းချက် ၂။** ။အားပေးကူညီခြင်းခံရသည့် ပြုလုပ်မှုကို ကျူးလွန်မှသာ ပြစ်မှုမြောက်သည်မဟုတ်။ ထိုပြုလုပ်မှုကို မကျူးလွန်စေကာမူ အားပေးကူညီလျှင် အားပေးကူညီမှုမြောက်သည်၊ သို့တည်းမဟုတ် ပြစ်မှုမြောက်ရန် လိုအပ်သည့် အကျိုးသက်ရောက်စေမှသာ ပြစ်မှုမြောက်သည်မဟုတ်၊ ထိုသို့အကျိုးမသက်ရောက်စေကာမူ အားပေးကူညီလျှင် အားပေးကူညီမှုမြောက်သည်။

## ဥပမာများ။

(က) မောင်ညိုကိုသတ်ရန် မောင်ဖြူက မောင်မဲကို လှုံ့ဆော်၏။ မောင်မဲက မသတ်လိုဟုငြင်း၏။ ထိုအမှုတွင်မောင်ဖြူသည် လူသတ်မှုကျူးလွန်ရန် မောင်မဲကိုလှုံ့ဆော်သည်ဖြစ်သောကြောင့် အားပေးကူညီမှုကို ကျူးလွန်သည်။

(ခ) မောင်ဝါကိုသတ်ရန် မောင်ဖြူက မောင်မဲကိုလှုံ့ဆော်သောကြောင့် မောင်မဲက မောင်ဝါကို ဓါးနှင့်ထိုး၏။ မောင်ဝါသည် ထိခိုက်သည့်ဒဏ်ရာနှင့်မသေ၊ ချမ်းသာရာရသော်လည်း မောင်ဖြူသည် လူသတ်မှုကျူးလွန်စေရန် မောင်မဲကို လှုံ့ဆော်သည်ဖြစ်သောကြောင့် အားပေးကူညီမှုကို ကျူးလွန်သည်။

ရှင်းလင်းချက် ၃။ ။အားပေးကူညီခြင်းခံရသူသည် ဥပဒေအရ ပြစ်မှုကျူးလွန်ရာ ရောက်နိုင်သူ ဖြစ်ရန်မလို၊ သို့တည်းမဟုတ် အားပေးကူညီသူ၏ အပြစ်မကင်းသော ကြံရွယ်ချက်မျိုးသော်၎င်း၊ အသိဉာဏ်မျိုးသော်၎င်း၊တစုံတခုသော အပြစ်မကင်းသည့်ကြံရွယ်ချက်သော်၎င်း၊ အသိဉာဏ်သော်၎င်း ထိုအားပေးကူညီခြင်းခံရသူ၌ရှိရန်မလို။

ဥပမာများ။

(က) ကလေးသူငယ်တယောက်ကိုသော်၎င်း၊ သူရူးတယောက်ကိုသော်၎င်း၊ မောင်ဖြူသည် အပြစ်မကင်းသော ကြံရွယ်ချက်နှင့် ပြစ်မှုတခုကို ကျူးလွန်စေရန် အားပေးကူညီ၏။ ထိုပြစ်မှုမျိုးကို ဥပဒေအရ ပြစ်မှုကျူးလွန်ရာ ရောက်နိုင်သူက မောင်ဖြူ၏ကြံရွယ်ချက်မျိုးနှင့် ပြုလျှင် ပြစ်မှုမြောက်နိုင်ခဲ့သော်၊ အားပေးကူညီခြင်းခံရသူ ကလေးက၊ သို့တည်းမဟုတ် သူရူးက ထိုပြုလုပ်မှုကို ပြုသည်ဖြစ်စေ၊ မပြုသည်ဖြစ်စေ မောင်ဖြူသည် အားပေးကူညီမှုကို ကျူးလွန်သည်။

(ခ) မောင်ဖြူက မောင်မဲကို သတ်ရန်ကြံရွယ်ချက်နှင့် အသက်ခုနစ်နှစ်မပြည့်သေးသူ ကလေးတယောက်အား မောင်မဲကို သေစေသော ပြုလုပ်မှုတခုကို ပြုစေရန် လှုံ့ဆော်၏။ ထိုသို့လှုံ့ဆော်သည့်အတိုင်း ကလေးက မောင်ဖြူမရှိခိုက်တွင် ထိုပြုလုပ်မှုကိုပြု၍ မောင်မဲကို သေစေ၏။ ဤအမှုတွင် ကလေးသည် ဥပဒေအရ ပြစ်မှု ကျူးလွန်ရာရောက်နိုင်သူမဟုတ်သော်လည်း ဥပဒေအရ ပြစ်မှုကိုကျူးလွန်ရာရောက်နိုင်၍ လူသတ်မှုကို ကျူးလွန်ဘိသကဲ့သို့ မောင်ဖြူသည် သေဒဏ်ထိုက်သင့်သည်။

(ဂ) လူနေအိမ်တဆောင်ကို မီးရှို့ရန် မောင်ဖြူကမောင်မဲကို လှုံ့ဆော်၏။ မောင်မဲသည် စိတ်ပေါ့သွပ်ခြင်းကြောင့် ပြုလုပ်မှု၏ သဘောကိုသော်၎င်း၊ မတော်မမှန်သည့်အရာကို၊ သို့တည်းမဟုတ် ဥပဒေနှင့် ဆန့်ကျင်သည့်အရာကို ပြုလျက်ရှိနေသည်ကိုသော်၎င်း မသိနိုင်သည်နှင့် မောင်ဖြူလှုံ့ဆော်သည့်အတိုင်း အိမ်ကိုမီးရှို့၏။ ဤအမှုတွင် မောင်မဲမှာ ပြစ်မှုကျူးလွန်ရာမရောက်သော်လည်း၊ မောင်ဖြူမှာမူကား လူနေအိမ်ကို မီးရှို့သည့်ပြစ်မှုကို အားပေးကူညီသည့်အတွက် အားပေးကူညီမှု ကျူးလွန်သည်ဖြစ်၍ ထိုပြစ်မှုအတွက် ပြဋ္ဌာန်းသည့် ပြစ်ဒဏ်ထိုက်သင့်သည်။

(ဃ) ခိုးမှုကျူးလွန်ရန် ကြံရွယ်၍ မောင်ဖြူက မောင်ညိုပိုင် ပစ္စည်းကို မိမိပိုင်ပစ္စည်း ဖြစ်ကြောင်း မောင်မဲ ယုံကြည်အောင် သွေးဆောင်လျက် ထိုပစ္စည်းကို မောင်ညို၏ လက်ရှိမှ ယူစေရန် မောင်မဲကို လှုံ့ဆော်၏။မောင်မဲသည် ထိုပစ္စည်းကိုမောင်ဖြူပိုင် ပစ္စည်းဟုယုံကြည်သဖြင့် သဘောရိုးနှင့် မောင်ညို၏ လက်ရှိမှယူ၏။ မောင်မဲသည် အခြင်းအရာအမှန်ကို မသိသဖြင့် ပြုမိရာမရိုးမဖြောင့်သောသဘောနှင့် ယူသည်မဟုတ်ခြင်းကြောင့် ခိုးမှုကျူးလွန်ရာမရောက်၊ သို့ရာတွင် မောင်ဖြူမှာကား ခိုးမှုကို အားပေးကူညီသည့် ပြစ်မှုကျူးလွန်ရာ ရောက်သဖြင့် ခိုးမှုကို မောင်မဲ ကျူးလွန်ဘိသကဲ့သို့ မောင်ဖြူသည် ပြစ်ဒဏ်ထိုက်သင့်သည်။

ရှင်းလင်းချက် ၄။ ။ပြစ်မှုတခုကို အားပေးကူညီခြင်းသည် ပြစ်မှုဖြစ်သည့်အတိုင်း ထိုအားပေးကူညီမှုကို အားပေးကူညီခြင်းသည်လည်း ပြစ်မှုဖြစ်သည်။

### ဥပမာ။

မောင်ညိုကို သတ်ရန် မောင်ဝါအားလှုံ့ဆော်ပါဟု မောင်ဖြူကမောင်မဲကို လှုံ့ဆော်၏။ ထိုသို့လှုံ့ဆော်သည့်အတိုင်း မောင်ညိုကိုသတ်ရန် မောင်မဲက မောင်ဝါကို လှုံ့ဆော်သဖြင့် မောင်ဝါက မောင်ညိုကိုသတ်၏။ မောင်မဲသည် မိမိ၏ပြစ်မှုအတွက် လူသတ်မှုပြစ်ဒဏ် ထိုက်သင့်သည့်နည်းတူ မောင်ဖြူသည်လည်း ထိုက်သင့်သည်။

**ရှင်းလင်းချက် ၅။** ။ပူးပေါင်းကြံစည်ခြင်းဖြင့် အားပေးကူညီသော ပြစ်မှုကို ကျူးလွန်ရာတွင် အားပေးကူညီသူသည် ပြစ်မှုကျူးလွန်သူနှင့် ညှိနှိုင်းခြင်း ရှိရန်မလို။ ပူးပေါင်းကြံစည်သည့်အတိုင်း ပြစ်မှုကျူးလွန်ခြင်း ရှိခဲ့သော်၊ ထိုသို့ပူးပေါင်းကြံစည်ရာ၌ ပါဝင်မှုနှင့် လုံလောက်သည်။

### ဥပမာ။

မောင်ညိုကို အဆိပ်ဖြင့်သတ်ရန် မောင်ဖြူနှင့် မောင်မဲတို့ ညှိနှိုင်းကြ၏။ မောင်ဖြူက အဆိပ်ခတ်ရန် ဖြစ်သည်ဟု နှစ်ဦးသဘောတူကြ၏။ ထို့နောက်မောင်မဲက ထိုအကြံကို မောင်ဝါအား ပြန်ပြောရာတွင် မောင်ဖြူ၏အမည်ကို မထုတ်ဖော်ဘဲ တဦးတယောက်သောသူက အဆိပ်ခတ်ရန် ဖြစ်သည်ဟုပြောသည်။ မောင်ဝါကအဆိပ်ကိုရှာပေးရန် သဘောတူ၏။ အဆိပ်ကိုရရှိ၍ အထက်က ပြောဆိုခဲ့ကြသည့်အတိုင်း အသုံးပြုစေရန် မောင်ဝါကမောင်မဲသို့ အဆိပ်ကို ပေးအပ်၏၊ မောင်ဖြူက အဆိပ်ခတ်၍ မောင်ညိုသေဆုံး၏။ မောင်ဖြူနှင့် မောင်ဝါတို့မှာ မောင်ညိုကိုသတ်ရန် အချင်းချင်းညှိနှိုင်းခြင်း မရှိခဲ့သော်လည်း မောင်ဝါသည် ပူးပေါင်းကြံစည်ရာတွင် ပါသည် ဖြစ်သောကြောင့် ဤပုဒ်မတွင် ဖော်ပြထားသောပြစ်မှုကို ကျူးလွန်ရာရောက်၍ လူသတ်မှုအတွက် ပြစ်ဒဏ်ထိုက်သင့်သည်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် ပြင်ပတွင် ပြစ်မှုကျူးလွန် စေရန် ထိုနိုင်ငံတော်အတွင်းတွင် အားပေးကူညီခြင်း။

၁၀၈-က။ ။ပြည်ထောင်စု မြန်မာနိုင်ငံတော် ပြင်ပတွင် ပြုလုပ်မှုကို ကျူးလွန်စေရန် တဦးတယောက်သောသူက ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်းတွင် အားပေးကူညီလျှင်၊ ထိုပြုလုပ်မှုကိုနိုင်ငံတော်အတွင်း ပြုပါက ပြစ်မှုမြောက်ဘိသကဲ့သို့၊ ထိုအားပေးကူညီသူသည် ဤဥပဒေသတ်ကြီးအရ ပြစ်မှုကျူးလွန်စေရန် အားပေးသည်မည်၏။

### ဥပမာ။

ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း နေထိုင်သူ မောင်ဖြူက ဘန်ကောက်မြို့နေ နိုင်ငံခြားသားမောင်မဲကို ထိုမြို့တွင် လူသတ်မှု ကျူးလွန်စေရန် လှုံ့ဆော်၏။ ဤအမှုတွင် မောင်ဖြူသည် လူသတ်မှု ကျူးလွန်စေရန် အားပေးကူညီသည့် ပြစ်မှုထိုက်သင့်သည်။

အားပေး ကူညီမှုအတွက် သီးခြားပြစ်ဒဏ်သတ်မှတ်ချက် မရှိလျှင် ချမှတ်ရမည့်ပြစ်ဒဏ်။

၁၀၉။ ။တဦးတယောက်သောသူ၏ အားပေးကူညီခြင်းကြောင့် ထိုသို့ အားပေးကူညီခြင်းခံရသော ပြုလုပ်မှုတရပ် ဖြစ်မြောက်ခဲ့ရာတွင်၊ အားပေးကူညီသူအား ချမှတ်ရန် ပြစ်ဒဏ်ကို ဤဥပဒေသတ်ကြီးက အဘည့် အလင်း ပြဋ္ဌာန်းခြင်းမရှိလျှင်၊ ကျူးလွန်ခဲ့သော ပြစ်မှုရင်းအတွက်ပြဋ္ဌာန်းသည့်ပြစ်ဒဏ်ကို ချမှတ်ရမည်။

**ရှင်းလင်းချက်။** ။လှုံ့ဆော်ခြင်းကြောင့်ဖြစ်စေ၊ ပူးပေါင်း ကြံစည်ခြင်းကြောင့်ဖြစ်စေ အားပေးကူညီမှု ဖြစ်မြောက်အောင်ကူညီခြင်းကြောင့်ဖြစ်စေပြုလုပ်မှုသော်၎င်း၊ ပြစ်မှုသော်၎င်း

ဖြစ်မြောက်ခဲ့လျှင်၊ ထိုပြုလုပ်မှုသည်၊ သို့တည်းမဟုတ် ထိုပြစ်မှုသည် အားပေးကူညီခြင်းကြောင့် ဖြစ်မြောက်သည် မည်၏။

ဥပမာများ။

(က) ပြည်သူ့ဝန်ထမ်း ဦးမဲသည် ရာထူးအလျောက် အလုပ်ဝတ်တရားများကို ဆောင်ရွက်ရာတွင်၊ ဦးမဲက မိမိအား အခွင့်အရေးပေးရန် မောင်ဖြူက ဦးမဲသို့ လာဘ်ပေးသည်ကို ဦးမဲကလက်ခံ၏။ ဦးမဲမှာ ပုဒ်မ ၁၆၁ တွင် အဓိပ္ပါယ်ဖော်ပြထားသည့် ပြစ်မှုကို အားပေးကူညီရာရောက်သည်။

(ခ) မုသားသက်သေခံရန် မောင်ဖြူက မောင်မဲကို လှုံ့ဆော်၏။ ထိုသို့လှုံ့ဆော်သည့်အတိုင်း မောင်မဲက မုသားသက်သေခံမှုကို ကျူးလွန်၏။ မုသားသက်သေခံရန် အားပေးကူညီမှုကို မောင်ဖြူကျူးလွန်သည်ဖြစ်၍၊ မောင်မဲနှင့် ထပ်တူ ပြစ်ဒဏ်ချမှတ်ခြင်း ခံထိုက်သည်။

(ဂ) မောင်ဖြူနှင့်မောင်မဲတို့သည် မောင်ညိုကို အဆိပ်ဖြင့်သတ်ရန် ပူးပေါင်းကြံစည်ကြ၏။ ထိုသို့ပူးပေါင်းကြံစည်သည့်အတိုင်း မောင်ဖြူက အဆိပ်ကို ရရှိ၍ မောင်ညိုကို အဆိပ်ခတ်ရန် မောင်မဲအား ပေးသဖြင့်၊မောင်မဲက ပူးပေါင်းကြံစည်ခဲ့သည့်အတိုင်း မောင်ဖြူ၏ မျက်ကွယ်တွင် မောင်ညိုကို အဆိပ်ခတ်သောကြောင့် မောင်ညိုသေဆုံး၏။ မောင်မဲမှာ လူသတ်မှုအတွက် ပြစ်ဒဏ်ထိုက်သင့်သည်။ မောင်ဖြူမှာ မောင်မဲနှင့် ပူးပေါင်း ကြံစည်သောကြောင့် ထိုပြစ်မှုကို အား ပေးကူညီသည့်ပြစ်ဒဏ် ထိုက်သင့်၍ လူသတ်မှုအတွက် ပြစ်ဒဏ်ချမှတ်ခြင်းခံထိုက်သည်။

အားပေး ကူညီသူ၏ ကြံရွယ်ချက်နှင့် ကွဲလွဲသော ကြံရွယ်ချက်ဖြင့် အားပေးကူညီခံရသူ ကျူးလွန်သည့် ပြစ်မှုအတွက် အားပေးကူညီသူခံရမည့်ပြစ်ဒဏ်။

၁၁၀။ ။မည်သူမဆို၊ ပြစ်မှုကျူးလွန်ခြင်းကို အားပေးကူညီရာတွင် အားပေးကူညီခြင်းခံရသူက အားပေးကူညီသူ၏ ကြံရွယ်ချက်အတိုင်း၊ သို့တည်းမဟုတ် အသိဉာဏ်အတိုင်း မဟုတ်ဘဲ ကွဲလွဲသော ကြံရွယ်ချက်နှင့်၊ သို့တည်းမဟုတ် အသိဉာဏ်နှင့် ပြုသော်လည်း၊ အားပေးကူညီသူသည် အကယ်၍ အားပေးကူညီသူ၏ ကြံရွယ်ချက်နှင့်၊ သို့တည်းမဟုတ် အသိဉာဏ်နှင့် အားပေးကူညီခြင်း ခံရသူက ပြုခဲ့သော် ကျူးလွန်ခြင်း ဖြစ်နိုင်မည့် ပြစ်မှုအတွက် ပြဋ္ဌာန်းထားသည့် ပြစ်ဒဏ်ချမှတ်ခြင်းကို ခံစေရမည်။

အားပေး ကူညီခြင်း ခံရသည့် ပြုလုပ်မှု မဟုတ်ဘဲ ကွဲလွဲသောပြုလုပ်မှုကို ကျူးလွန်ရာတွင် အားပေးကူညီသူခံရမည့်တာဝန်။

၁၁၁။ ။ပြုလုပ်မှုကို အားပေးကူညီရာတွင်၊ ကွဲလွဲသောပြုလုပ်မှုကို ပြုခဲ့သော် အားပေးကူညီသူသည် ထိုကွဲလွဲသော ပြုလုပ်မှုကို တိုက်ရိုက်အားပေးကူညီဘိသကဲ့သို့ ထပ်တူထပ်မျှ တာဝန်ရှိသည်။

ခြွင်းချက်။

သို့ရာတွင် ထိုကွဲလွဲသောပြုလုပ်မှုသည် အားပေးကူညီခြင်းကြောင့်ဖြစ်ဘွယ်ရာအကြောင်းရှိသောပြုလုပ်မှုလည်းဖြစ်ရမည့်ပြင်၊ လှုံ့ဆော်ခြင်း၏ ပယောဂကြောင့်ဖြစ်စေ၊ အားပေးကူညီခြင်းမြောက်သော ပူးပေါင်းကြံစည်မှု၏ အကူအပံ့နှင့်ဖြစ်စေ၊ ထိုပူးပေါင်း ကြံစည်သည့်အတိုင်းဖြစ်စေ ကျူးလွန်သော ပြုလုပ်မှုလည်းဖြစ်ရမည်။

### ဥပမာများ။

(က) မောင်ဖြူက မောင်ညိုဲ၏ အစာတွင် အဆိပ်ခတ်ရန် ကလေးတယောက်အား လှုံ့ဆော်လျက် အဆိပ်ကိုပေး၏။ ထိုကလေးသည် မောင်ဖြူ လှုံ့ဆော်သည့်အတိုင်း အဆိပ်ခတ်ရာ၌ မှားယွင်း၍ မောင်ညို၏အစာအနီးရှိ မောင်နီ၏အစာတွင်အဆိပ်ခတ်မိ၏။ ဤအမှုတွင် အကယ်၍ ကလေးသည် မောင်ဖြူ၏ လှုံ့ဆော်မှု ပယောဂကြောင့် ဤကဲ့သို့ ပြုရခြင်းဖြစ်၍ ထိုပြုလုပ်မှုသည်လည်း မောင်ဖြူ၏ အားပေးကူညီခြင်းကြောင့် ဖြစ်ဘွယ်ရာ အကြောင်းရှိသည့် အခြေအနေအရကျူးလွန်သောပြုလုပ်မှုဖြစ်လျှင်၊ မောင်ဖြူသည် မောင်နီ၏ အစာတွင် အဆိပ်ခတ်စေရန် ကလေးအား လှုံ့ဆော်ဘိသကဲ့သို့ ထပ်တူထပ်မျှ တာဝန်ရှိသည်။

(ခ) မောင်ညို၏ အိမ်ကိုမီးရှို့ရန် မောင်ဖြူက မောင်မဲကို လှုံ့ဆော်၏။ မောင်မဲက အိမ်ကို မီးရှို့သည်သာမက ထိုအိမ်မှ ပစ္စည်းများကိုပါ ခိုးယူ၏။ မောင်ဖြူသည် အိမ်ကို မီးရှို့ရန် အားပေးကူညီသည့် ပြစ်မှုအတွက်သာလျှင် ပြစ်ဒဏ်ထိုက်သင့်သည်။ ခိုးမှုကို အားပေးကူညီသည့် ပြစ်မှုအတွက် ပြစ်ဒဏ်မထိုက်။ အဘယ်ကြောင့်ဆိုသော် ခိုးမှုသည် သီးခြား ပြုလုပ်မှု ဖြစ်သည့်ပြင်၊ အိမ်မီးရှို့ခြင်းကြောင့်ဖြစ်ဘွယ်ရာ အကြောင်းရှိသည့်ပြုလုပ်မှုမျိုးလည်း မဟုတ်သော ကြောင့်ဖြစ်သည်။

(ဂ) ပစ္စည်းကို လုယက်ရန်အလို့ငှါ လူနေ အိမ်တဆောင်ကို သန်းခေါင်အချိန် ဖေါက်ထွင်းဝင်စေရန် မောင်ဖြူက မောင်မဲနှင့် မောင်နီတို့ကို လှုံ့ဆော်၍၊ ထိုကိစ္စအတွက် လက်နက်များကိုပေး၏။ မောင်မဲနှင့် မောင်နီတို့သည် အိမ်ကို ဖေါက်ထွင်းဝင်ရာ အိမ်သားမောင်ညိုက ခုခံသဖြင့် မောင်ညိုကို သတ်ကြ၏။ ဤလူသတ်မှုသည် မောင်ဖြူ၏ အားပေးကူညီခြင်းကြောင့် ဖြစ်ဘွယ်ရာ အကြောင်းရှိလျှင်၊ မောင်ဖြူသည် လူသတ်မှုအတွက် ပြဋ္ဌာန်းသော ပြစ်ဒဏ် ချမှတ်ခြင်း ခံထိုက်သည်။

အားပေး ကူညီခြင်း ခံရသော ပြုလုပ်မှုနှင့် သီးခြား ပြုသည့် ပြုလုပ်မှုတို့အတွက် အားပေးကူညီသူသည် ထပ်ဆင့်ပြစ်ဒဏ်ခံထိုက်ခြင်း။

၁၁၂။ ။အားပေးကူညီခြင်းခံရသော ပြုလုပ်မှုအပြင်၊ တဆက်တည်းဖြစ်သော အထက်ပုဒ်မအရ အားပေးကူညီသူ၌ တာဝန်ရှိသည့် ပြုလုပ်မှုကိုလည်း ပြုလျှင်၊ ထိုပြင် ထိုပြုလုပ်မှုသည် ပြစ်မှုအသီးအခြား ဖြစ်လျှင်၊ အားပေးကူညီသူသည် ပြစ်မှုအသီးသီးအတွက် ပြစ်ဒဏ်ချမှတ်ခြင်း ခံထိုက်သည်။

### ဥပမာ။

ပြည်သူ့ဝန်ထမ်းတဦးက ပစ္စည်းကို ဝရန်းဖမ်းရာတွင် ပြည်သူ့ဝန်ထမ်း၏ ဝရန်းဖမ်းခြင်းကို အတင်းအကြပ် ခုခံစေရန် မောင်ဖြူက မောင်မဲကို လှုံ့ဆော်၏။ ထို့ကြောင့် ဝရန်းဖမ်းသည်ကို မောင်မဲကခုခံ၏။ ထိုသို့ခုခံရာတွင် မောင်မဲသည် ဝရန်းဖမ်းသူ အရာရှိကို မိမိအလိုအလျောက် အပြင်းအထန် နာကျင်အောင်ပြု၏။ မောင်မဲသည်ပစ္စည်းဝရန်းဖမ်းခြင်းကို ခုခံသည့်ပြစ်မှုအပြင်၊ မိမိအလိုအလျောက် အပြင်းအထန် နာကျင်အောင် ပြုသည့်ပြစ်မှုကိုလည်း ကျူးလွန်သည်ဖြစ်သောကြောင့်၊ ထိုပြစ်မှု နှစ်ရပ်လုံးအတွက် ပြစ်ဒဏ်ချမှတ်ခြင်း ခံထိုက်သည်။ ပစ္စည်းဝရန်းဖမ်းခြင်းကို ခုခံရာတွင် မောင်မဲသည် မိမိအလိုအလျောက်အပြင်းအထန် နာကျင်အောင် ပြုဘန်ရာသည်ကို မောင်ဖြူသိခဲ့လျှင်၊ မောင်ဖြူသည်လည်းထိုပြစ်မှုအသီးသီးအတွက် ပြစ်ဒဏ်ချမှတ်ခြင်း ခံထိုက်သည်။

အားပေး ကူညီသူ ကြံရွယ်သည့် ပြုလုပ်မှုနှင့် ကွဲလွဲသော အားပေး ကူညီခြင်းခံရသည့် ပြုလုပ်မှု ကြောင့်၊ အကျိုးသက်ရောက်မှုအတွက် အားပေး ကူညီသူ ခံရမည့် တာဝန်။

၁၁၃။ ။အားပေးကူညီသူက အကျိုးသက်ရောက်မှု တခုဖြစ်စေရန် ကြံရွယ်လျက်ပြုလုပ်မှုတခုကို အားပေးကူညီရာ၌၊ ထိုပြင် ထိုအားပေးကူညီမှုကြောင့် မိမိ၌ တာဝန်မကင်းဖြစ်သည့်ပြုလုပ်မှုတခုသည် မိမိကြံရွယ်သည့်အတိုင်း မဟုတ်သော အခြား အကျိုးသက်ရောက်မှု တခုကို ဖြစ်စေရာ၌၊ အားပေးကူညီခြင်းခံရသော ပြုလုပ်မှုကြောင့် ထိုအခြားအကျိုးသက်ရောက်မှု ပေါ်ပေါက် တန်ရာသည်ကို အားပေးကူညီသူကသိလျှင်၊ ထိုအားပေးကူညီသူသည် ထိုအခြားအကျိုးသက်ရောက်မှုအတွက်ကြံရွယ်၍ အားပေးကူညီဘိသကဲ့သို့ ထပ်တူထပ်မျှတာဝန်ရှိသည်။

**ဥပမာ။**

မောင်ညိုကို အပြင်းအထန် နာကျင်အောင်ပြုရန် မောင်ဖြူက မောင်မဲကို လှုံ့ဆော်၏။ ထိုသို့လှုံ့ဆော်သည့်အတိုင်း၊ မောင်မဲက မောင်ညိုကို အပြင်းအထန် နာကျင်အောင်ပြုသဖြင့် မောင်ညိုသေ၏။ ဤအမှုတွင်၊ အားပေးကူညီခြင်းကြောင့် အပြင်းအထန်နာကျင်စေရန်ပြုခြင်းသည် သေစေတန်ရာသည်ဟု မောင်ဖြူသိခဲ့လျှင်၊ မောင်ဖြူသည် လူသတ်မှုအတွက် ပြဋ္ဌာန်းသည့် ပြစ်ဒဏ်ချမှတ်ခြင်း ခံထိုက်သည်။

ပြစ်မှု ကျူးလွန် ရာတွင် အားပေး ကူညီသူ ကိုယ်တိုင် ရှိနေခြင်း။

၁၁၄။ ။ပြုလုပ်မှုကို၊ သို့တည်းမဟုတ် ပြစ်မှုကိုကျူးလွန်ရာတွင်မိမိကိုယ်တိုင် မရှိခဲ့လျှင် အားပေးကူညီသူ အဖြစ်ဖြင့်သာ ပြစ်ဒဏ်ချမှတ်ခြင်းခံရမည့်သူသည် အားပေးကူညီမှုကြောင့် မိမိပြစ်ဒဏ် ချမှတ်ခြင်းခံရမည့် ပြုလုပ်မှုကို၊ သို့တည်းမဟုတ် ပြစ်မှုကို တဦးတယောက်သောသူက ကျူးလွန်သောအခါ မိမိကိုယ်တိုင် ရှိနေခဲ့လျှင်၊ ထိုသူသည် ထိုပြုလုပ်မှုကို၊သို့တည်းမဟုတ် ထိုပြစ်မှုကို ကိုယ်တိုင် ကျူးလွန်ဘိသကဲ့သို့ကျူးလွန်သည်ဟု ယူဆခြင်း ခံရမည်။

သေဒဏ်ဖြစ်စေ၊ တသက်တကျွန်းဒဏ်ဖြစ်စေ၊ ထိုက်သင့်သော ပြစ်မှုကို ကျူးလွန်စေရန် အားပေး ကူညီသော်လည်း၊ ထိုပြစ်မှုကို မကျူးလွန်လျှင်၊ အားပေးကူညီမှုအတွက် ပြစ်ဒဏ် ချမှတ်ခြင်း။

ဆိုခဲ့သော အားပေး ကူညီမှုကြောင့် ဘေး အန္တရာယ် ဖြစ်စေလျှင် ပြစ်ဒဏ် ချမှတ်ခြင်း။

၁၁၅။ ။မည်သူမဆို၊ သေဒဏ်ဖြစ်စေ၊ တသက်တကျွန်းဒဏ်ဖြစ်စေ၊ ထိုက်သင့်သော ပြစ်မှုတခုခုကို ကျူးလွန်ရန် အားပေး ကူညီသော်လည်း၊ ထိုပြစ်မှုကို ကျူးလွန်ခြင်းမရှိ။ ထိုအားပေးကူညီမှုအတွက်လည်း ဤဥပဒေသတ်ကြီးအရ ပြစ်ဒဏ်အတည့်အလင်း ပြဋ္ဌာန်းထားခြင်းမရှိလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ထို့ပြင်ဆိုခဲ့သော အားပေးကူညီမှုကြောင့် အားပေးကူညီသူ၌ တာဝန်ရှိသည်လည်း ဖြစ်၍ တဦးတယောက်အား နာကျင်စေမှုလည်းဖြစ်သော ပြုလုပ်မှုကို အားပေးကူညီခြင်းခံရသူက ပြုလျှင်၊ အားပေးကူညီသူကို ဆယ့်လေးနှစ်ထိ ထောင်ဒဏ် တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ဥပမာ။

မောင်ညိုကို သတ်ရန် မောင်ဖြူက မောင်မဲကို လှုံ့ဆော်သော်လည်း၊ မောင်မဲက ထိုပြစ်မှုကို ကျူးလွန်ခြင်းမရှိ။ မောင်မဲသည်မောင်ညိုကို သတ်ခဲ့လျှင်၊ မောင်ဖြူသည်သေဒဏ်ဖြစ်စေ၊ တသက်တကျွန်းဒဏ်ဖြစ်စေ ထိုက်သင့်မည်။ မောင်မဲက လူသတ်မှုကို မကျူးလွန်လျှင်၊ မောင်ဖြူသည် ခုနစ်နှစ်ထိ ထောင်ဒဏ်ပြင် ငွေဒဏ်လည်း ထိုက်သင့်သည်။ အားပေးကူညီခြင်းကြောင့် မောင်ညိုအားနာကျင်စေမှုကို ပြုခဲ့လျှင်၊ မောင်ဖြူသည် ဆယ့်လေးနှစ်ထိ ထောင်ဒဏ်ပြင် ငွေဒဏ်လည်း ထိုက်သင့်မည်။

**ထောင်ဒဏ် ထိုက်သင့်သော ပြစ်မှုကို အားပေးကူညီသော်လည်း၊ ထိုပြစ်မှုကို မကျူးလွန်လျှင်၊ အားပေးကူညီမှုအတွက် ပြစ်ဒဏ် ချမှတ်ခြင်း။**

၁၁၆။ ။မည်သူမဆို၊ ထောင်ဒဏ် ထိုက်သင့်သောပြစ်မှုကို အားပေးကူညီသော်လည်း၊ ထိုပြစ်မှုကို ကျူးလွန်ခြင်းမရှိ။ ထိုအားပေးကူညီမှု အတွက်လည်း ဤဥပဒေသတ်ကြီးအရ ပြစ်ဒဏ်အတည့်အလင်း ပြဋ္ဌာန်းထားခြင်း မရှိလျှင်၊ အားပေးကူညီခြင်းခံရသော ပြစ်မှုအတွက် ပြဋ္ဌာန်းထားသည့်အများဆုံး ထောင်ဒဏ် တမျိုးမျိုး၏ လေးပုံ တပုံထိ ဖြစ်စေ၊ ထိုပြစ်မှုအတွက် ပြဋ္ဌာန်းထားသည့် ငွေဒဏ်ဖြစ်စေ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ထိုသူအား ချမှတ်ရမည်။

**အားပေး ကူညီ သူသည်၊ သို့တည်းမဟုတ် အားပေး ကူညီခြင်းခံရသူသည်၊ ပြစ်မှု ကျူးလွန်ခြင်းက တားမြစ်ရန် တာဝန် ဝတ်တရား ရှိသော ပြည်သူ့ ဝန်ထမ်းဖြစ်လျှင်၊ ထိုအားပေး ကူညီမှု အတွက်ခံရမည့်ပြစ်ဒဏ်။**

အားပေးကူညီသူဖြစ်စေ၊ အားပေး ကူညီခြင်းခံရသူဖြစ်စေ ဆိုခဲ့သည့် ပြစ်မှုမျိုး ကျူးလွန်ခြင်းကို တားမြစ်ရန်တာဝန်ဝတ်တရားရှိသော ပြည်သူ့ ဝန်ထမ်းဖြစ်လျှင်၊ အားပေးကူညီခြင်း ခံရသော ပြစ်မှုအတွက် ပြဋ္ဌာန်းထားသည့် အများဆုံးထောင်ဒဏ်တမျိုးမျိုး၏ ထက်ဝက်ထိဖြစ်စေ၊ ထိုပြစ်မှုအတွက် ပြဋ္ဌာန်းထားသည့် ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ အားပေးကူညီသူအား ချမှတ်ရမည်။

ဥပမာများ။

(က) ပြည်သူ့ဝန်ထမ်း မောင်မဲသည် ရာဇဝတ်အလျောက် အလုပ်ဝတ်တရားများကို ဆောင်ရွက်သည်တွင်၊ အခွင့်အရေး ပေးပါမည့်အကြောင်းဖြင့် မောင်ဖြူက လာဘ်ပေးသည်ကို မောင်မဲက လက်မခံ ငြင်းပယ်သော်လည်း၊ မောင်ဖြူမှာ ဤပုဒ်မအရ ပြစ်ဒဏ်ချမှတ်ခြင်း ခံထိုက်သည်။

(ခ) မှသားသက်သေခံရန် မောင်ဖြူက မောင်မဲကို လှုံ့ဆော်သည်တွင်၊ မောင်မဲက မှသားသက်သေမခံသော်လည်း၊ မောင်ဖြူမှာ ဤပုဒ်မတွင် အဓိပ္ပါယ်ပိုင်းခြား ဖော်ပြပါရှိသော ပြစ်မှုကို ကျူးလွန်ရာရောက်သည်ဖြစ်၍၊ ထိုပြစ်မှုအတွက် ပြစ်ဒဏ်ချမှတ်ခြင်း ခံထိုက်သည်။

(ဂ) လုယက်မှုကို တားမြစ်ရန် တာဝန်ဝတ်တရားရှိသော ရဲအရာရှိ မောင်ဖြူသည် လုယက်မှုကို ကျူးလွန်ရန် အားပေးကူညီရာတွင်၊ လုယက်မှုကို ကျူးလွန်ခြင်းမရှိသော်လည်း၊ မောင်ဖြူမှာ ထိုပြစ်မှုအတွက် ပြဋ္ဌာန်းထားသည့် အများဆုံး ထောင်ဒဏ် တမျိုးမျိုး၏ ထက်ဝက်အပြင် ငွေဒဏ်လည်း ထိုက်သင့်သည်။

(ဿ) လုယက်မှုကို တားမြစ်ရန် တာဝန်ဝတ်တရားရှိသော ရဲအရာရှိ မောင်ဖြူကို လုယက်မှုကျူးလွန်ရန် မောင်မဲက အားပေးကူညီရာတွင်၊ လုယက်မှုကို ကျူးလွန်ခြင်း မရှိသော်လည်း၊ မောင်မဲမှာ ထိုပြစ်မှုအတွက် ပြဋ္ဌာန်းထားသည့် အများဆုံး ထောင်ဒဏ်တမျိုးမျိုး၏ ထက်ဝက်အပြင် ငွေဒဏ်လည်း ထိုက်သင့်သည်။

တဦးတယောက်က အများပြည်သူတို့ကို ဖြစ်စေ၊ ဆယ်ယောက်ထက်ပိုသော သူတို့ကို ဖြစ်စေ၊ ပြစ်မှု ကျူးလွန်စေရန် အားပေး ကူညီခြင်း။

၁၁၇။ ။အများပြည်သူတို့ကိုဖြစ်စေ၊ ဆယ်ယောက်ထက်ပိုသော သူတို့ကိုဖြစ်စေ၊ ဆယ်ယောက်ထက်ပိုသော လူအမျိုးအစား ကိုဖြစ်စေ ပြစ်မှုကျူးလွန်ရန် တဦးတယောက်က အားပေးကူညီလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဥပမာ။

စိတန်းလှည့်လည်ဆဲအတွင်း ဆယ်ယောက်ထက်ပိုသော ဂိုဏ်းဝင် လူတစုက ဆန့်ကျင်ဘက်ဂိုဏ်းဝင် လူဘစုကို စတင် ရန်မူ စိမ့်သော်၊ သတ်မှတ်သောအချိန်တွင် သတ်မှတ်သော အရပ်၌ စုရုံးကြစေရန် လှုံ့ဆော်သောဆွဲစာကို ပြည်သူတို့နှင့်ဆိုင်သော တနေရာတွင် မောင်ဖြူက ဆွဲကပ်ထား၏။ မောင်ဖြူသည် ဤပုဒ်မတွင် အဓိပ္ပါယ် ဖေါ်ပြထားသော ပြစ်မှုကို ကျူးလွန်ရာရောက်သည်။

သေဒဏ်ဖြစ်စေ၊ တသက်တကျွန်းဒဏ် ဖြစ်စေ၊ ထိုက်သင့်သော ပြစ်မှုကို ကျူးလွန်ရန် စီစဉ်ချက်ကို ထိမ်ချန်ခြင်း။

ပြစ်မှု ကျူးလွန် ရှိခဲ့လျှင်၊ ပြစ်မှုကျူးလွန်မရှိခဲ့လျှင်။

၁၁၈။ ။သေဒဏ်ဖြစ်စေ၊ တသက်တကျွန်းဒဏ်ဖြစ်စေ ထိုက်သင့်သော ပြစ်မှုတခုခု ကျူးလွန်ခြင်းကို လွယ်ကူစေရန် ကြံရွယ်၍သော်ငင်း၊ လွယ်ကူအောင် မိမိကဖြစ်စေ တန်ရာသည်ကို သိလျက်နှင့်သော်ငင်း မည်သူမဆိုပြုလုပ်မှုဖြင့် ဖြစ်စေ၊ ဥပဒေနှင့် ဆန့်ကျင်သော ပျက်ကွက်မှုပြုခြင်းဖြင့် ဖြစ်စေ ထိုပြစ်မှုကို ကျူးလွန်ရန် စီစဉ်ချက်ရှိကြောင်းကို မိမိအလိုအလျောက် ထိမ်ချန်လျှင်၊ သို့တည်းမဟုတ် ထိုစီစဉ်ချက်နှင့် စပ်လျဉ်း၍ မမှန်သည်ကို သိလျက်နှင့် မှန်သည့်အနေဖြင့် မိမိအလိုအလျောက် ပြောလျှင်

ထိုသူကို အဆိုပါပြစ်မှု ကျူးလွန်ခြင်းရှိပါက၊ ခုနစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုး ချမှတရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

အဆိုပါ ပြစ်မှုကျူးလွန်ခြင်း မရှိပါက၊ သုံးနှစ်ထိ ထောင်ဒဏ် တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ဥပမာ။

ရွာသစ်ရွာတွင် ဓါးပြတိုက်မည့်အကြောင်းကို မောင်ဖြူသိလျက်နှင့် ရွာသစ်ရွာ၏ တဘက် ညောင်ပင်ရွာတွင် ဓါးပြတိုက်လိမ့်မည်ဟု ရာဇဝတ်တရားသူကြီးသို့ မမှန်သတင်းပေး၏။ ဤတွင် ပြစ်မှုကျူးလွန်ခြင်းကို လွယ်ကူစေရန် ကြံရွယ်ချက်နှင့် ရာဇဝတ်တရားသူကြီးကို အထင်လွဲမှားအောင်ပြု၏။ ထိုနောက် စီစဉ်ချက်အတိုင်း ရွာသစ်ရွာတွင် ဓါးပြတိုက်သည်။ မောင်ဖြူသည် ဤပုဒ်မအရ ပြစ်ဒဏ်ချမှတ်ခြင်း ခံထိုက်သည်။

*ဟားမြစ်ရန် တာဝန် ဝတ်တရားရှိသော ပြည်သူ့ ဝန်ထမ်းက ပြစ်မှုကျူးလွန်ရန် စီစဉ်ချက်ကို ထိမ်ချန်ခြင်း။*

*ပြစ်မှု ကျူးလွန်ခြင်း ရှိခဲ့လျှင်။*

၁၁၉။ ။ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့် ပြစ်မှုတခုကို တားမြစ်ရန် တာဝန်ဝတ်တရားရှိသော ပြည်သူ့ဝန်ထမ်းသည်၊ ထိုပြစ်မှု ကျူးလွန်ခြင်းကို လွယ်ကူစေရန် ကြံရွယ်၍သော်၎င်း၊ လွယ်ကူအောင် မိမိကပြစ်စေတန်ရာသည်ကို သိလျက်နှင့်သော်၎င်း ထိုပြစ်မှုကို ကျူးလွန်ရန် စီစဉ်ချက်ရှိကြောင်းကို မိမိအလိုအလျောက် ပြုလုပ်မှုဖြင့်ဖြစ်စေ၊ ဥပဒေနှင့် ဆန့်ကျင်သော ပျက်ကွက်မှု ပြုခြင်းဖြင့်ဖြစ်စေ ထိမ်ချန်လျှင်၊ သို့တည်းမဟုတ်ထိုစီစဉ်ချက်နှင့် စပ်လျဉ်း၍ မမှန်သည်ကို သိလျက်နှင့် မှန်သည့်အနေဖြင့် မိမိအလိုအလျောက် ပြောလျှင်၊ ထိုပြည်သူ့ဝန်ထမ်းကို—

အဆိုပါပြစ်မှုကျူးလွန်ခြင်းရှိပါက၊ ကျူးလွန်သော ပြစ်မှုအတွက် ပြဋ္ဌာန်းထားသည့် အများဆုံး ထောင်ဒဏ် တမျိုးမျိုး၏ ထက်ဝက်ထိဖြင်စေ၊ ထိုပြစ်မှုအတွက် ပြဋ္ဌာန်းထားသည့် ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

*သေဒဏ် အစရှိသော ပြစ်ဒဏ် ထိုက်သင့်သည့် ပြစ်မှု ဖြစ်လျှင်။*

အဆိုပါပြစ်မှုမျိုးမှာ သေဒဏ်ဖြစ်စေ၊ တသက်တကျွန်းဒဏ်ဖြစ်စေ ထိုက်သင့်သော ပြစ်မှုမျိုးဖြစ်လျှင်၊ ဆယ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုး ချမှတ်ရမည်။

*ပြစ်မှုကျူးလွန်ခြင်းမရှိခဲ့လျှင်။*

အဆိုပါ ပြစ်မှုကျူးလွန်ခြင်းမရှိပါက၊ သက်ဆိုင်ရာပြစ်မှုအတွက်ပြဋ္ဌာန်းထားသည့်အများဆုံး ထောင်ဒဏ်တမျိုးမျိုး၏ လေးပုံတပုံထိ ဖြစ်စေ၊ ထိုပြစ်မှုအတွက် ပြဋ္ဌာန်းထားသည့် ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

**ဥပမာ။**

လုယက်မှု စီစဉ်ချက်နှင့် စပ်လျဉ်း၍ မိမိရရှိသော သတင်းကို တိုင်ကြားရန် ဥပဒေအရ ဝတ်တရားရှိသော ရဲအရာရှိ မောင်ဖြူသည်၊ ပြစ်မှုကျူးလွန်ခြင်းကို လွယ်ကူစေရန် ကြံရွယ်ချက်ဖြင့် မောင်မဲ လုယက်မှုကျူးလွန်ရန် စီစဉ်ချက်ရှိသည်ကို သိလျက်နှင့် တိုင်ကြားရန် ပျက်ကွက်၏။ ထိုသို့ပျက်ကွက်ခြင်းသည် ဥပဒေနှင့် ဆန့်ကျင်သော ပျက်ကွက်မှု ပြုခြင်း ဖြစ်သောကြောင့် မောင်ဖြူသည် ဤပုဒ်မပါ ပြဋ္ဌာန်းချက်နှင့် အညီ ပြစ်ဒဏ်ချမှတ်ခြင်း ခံထိုက်သည်။

*ထောင်ဒဏ် ထိုက်သင့်သော ပြစ်မှုကျူးလွန်ရန် စီစဉ်ချက်ကို ထိမ်ချန်ခြင်း။*

*ပြစ်မှု ကျူးလွန်ခြင်း ရှိခဲ့လျှင်၊ ပြစ်မှု ကျူးလွန်ခြင်းမရှိခဲ့လျှင်။*

၁၂၀။ ။ထောင်ဒဏ်ထိုက်သင့်သော ပြစ်မှုကို ကျူးလွန်ခြင်းကို လွယ်ကူစေရန် ကြံရွယ်၍သော်၎င်း၊ လွယ်ကူအောင် မိမိကဖြစ်စေတန်ရာသည်ကို သိလျက်နှင့်သော်၎င်း မည်သူမဆို၊ ပြုလုပ်မှုဖြင့်ဖြစ်စေ၊ ဥပဒေနှင့် ဆန့်ကျင်သော ပျက်ကွက်မှု ပြုခြင်းဖြင့် ဖြစ်စေ ထိုပြစ်မှု ကျူးလွန်ရန် စီစဉ်ချက်ရှိသည်ကို မိမိအလိုအလျောက် ထိမ်ချန်လျှင်၊ သို့တည်းမဟုတ် စီစဉ်ချက်နှင့် စပ်လျဉ်း၍ မမှန်သည်ကို သိလျက်နှင့် မှန်သည့်အနေဖြင့် မိမိအလိုအလျောက် ပြောလျှင်၊ ထိုသူကို အဆိုပါ ပြစ်မှု ကျူးလွန်ခြင်းရှိပါက၊ ကျူးလွန်သည့် ပြစ်မှုအတွက် ပြဋ္ဌာန်းထားသည့် အများဆုံး ထောင်ဒဏ် တမျိုးမျိုး၏ လေးပုံတပုံထိဖြစ်စေ၊ ပြစ်မှုကျူးလွန်ခြင်းမရှိပါက၊ ရှစ်ပုံ တပုံထိဖြစ်စေ၊ ထိုပြစ်မှုအတွက် ပြဋ္ဌာန်းထားသည့် ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

## အခန်း ၅-က။

## ရာဇဝတ်မကင်းသောပူးပေါင်းကြံစည်မှု။

**ရာဇဝတ်** မကင်းသော ပူးပေါင်းကြံစည်မှု၏အဓိပ္ပါယ်။

၁၂၀-က။ ။လူနှစ်ယောက်က၊ သို့တည်းမဟုတ် နှစ်ယောက်ထက်ပိုသောသူများက (၁) ဥပဒေနှင့် မညီသော ပြုလုပ်မှုကိုသော်၎င်း၊ (၂) ဥပဒေနှင့် မညီသော နည်းဖြင့် ဥပဒေနှင့် မညီ မဟုတ်သော ပြုလုပ်မှုကို သော်၎င်းပြုရန်၊ သို့တည်းမဟုတ် ပြုစေရန် သဘော တူညီလျှင်၊ **ထိုသဘော**တူညီချက်ကို ရာဇဝတ်မကင်းသော ပူးပေါင်းကြံစည်မှုဟု ခေါ်သည်။

**ခြွင်းချက်။** ။သို့ရာတွင် ပြစ်မှုကျူးလွန်ရန် သဘောတူညီချက်မှတပါး၊ သဘောတူညီ**ချက်တခုခုတွင်** ပါဝင်သူ တယောက်ကဖြစ်စေ၊ အများကဖြစ်စေ သဘောတူညီသော်လည်း **သဘောတူညီ**သည့်အတိုင်း ပြုလုပ်မှု တခုခုကို မပြုသမျှ၊ ထိုသဘောတူညီချက်သည် ရာဇဝတ် မကင်း**သော** ပူးပေါင်း ကြံစည်မှုမမြောက်။

**ရှင်းလင်းချက်။** ။ဆိုခဲ့သော ဥပဒေနှင့် မညီသော ပြုလုပ်မှုသည်၊ ဆိုခဲ့သော သဘောတူညီချက်**၏** ရည်ရွယ်ရင်း အချက်ဖြစ်သည် မဖြစ်သည်၊ ထိုရည်ရွယ်ရင်း အချက်နှင့် **အကြောင်းသင့်** ဆက်စပ်နေသည် မနေသည်တို့မှာအရေးပါသောအချက်များ မဟုတ်ပေ။

ရာဇဝတ် မကင်းသော ပူးပေါင်း ကြံစည်မှုအတွက် ပြစ်ဒဏ်။

**၁၂၀-ခ။** ။(၁) မည်သူမဆို၊ သေဒဏ်သော်၎င်း၊ တကျွန်းဒဏ် သော်၎င်း၊ နှစ်နှစ်၊ သို့တည်းမဟုတ် နှစ်နှစ်ထက် ပို၍သော်၎င်း၊ **အလုပ်ကြမ်းနှင့်** ထောင်ဒဏ်သော်၎င်း ထိုက်သင့်သော **ပြစ်မှုတခုခု**ကို ကျူး လွန်ရန် ရာဇဝတ်မကင်းသော ပူးပေါင်းကြံစည်မှုတွင် ပါဝင်သူ ဖြစ်လျှင်၊ ထိုပူးပေါင်း ကြံစည်မှုအတွက် ဤရာဇသတ်ကြီးအရ ပြစ်ဒဏ်အတည့်အလင်း ပြဋ္ဌာန်းထားခြင်း မရှိပါက၊ အဆိုပါ သက်ဆိုင်ရာ ပြစ်မှုကို ကျူးလွန်ရန် အားပေးကူညီဘိသကဲ့သို့ ထိုသူအား ပြစ်ဒဏ်ချမှတ်ရမည်။

(၂) မည်သူမဆို၊ ဆိုခဲ့သည့် ပြစ်ဒဏ်မျိုး ထိုက်သင့်သောပြစ်မှုမှတပါး အခြား ပြစ်ဒဏ် ထိုက်သင့်သော ပြစ်မှုကို ကျူးလွန်ရန် ရာဇဝတ်မကင်းသော ပူးပေါင်း ကြံစည်မှုတွင် ပါဝင်သူ **ဖြစ်**လျှင်၊ ထိုသူကို ခြောက်လထက်မပိုသော ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ် ဖြစ်စေ၊ **ဒဏ်နှစ်ရပ်လုံး** ဖြစ်စေ ချမှတ်ရမည်။

## အခန်း ၆။

## ပြည်ထောင်စု နိုင်ငံတော်အစိုးရကို ဆန့်ကျင်ကျူးလွန်သော ပြစ်မှုများ။

နိုင်ငံတော် သစ္စာ ဖောက်ဖျက် ပုန်ကန်ခြင်း။

၁၂၁။ ။မည်သူမဆို—

(က) ပြည်ထောင်စု နိုင်ငံကိုဖြစ်စေ၊ ပြည်ထောင်စု အဖွဲ့ဝင် တခုခုကိုဖြစ်စေ စစ်မက်ပြိုင်ဆိုင်လျှင်၊ သို့တည်းမဟုတ်

(ခ) ပြည်ထောင်စု နိုင်ငံကိုဖြစ်စေ၊ ပြည်ထောင်စု အဖွဲ့ဝင်တခုခု ကိုဖြစ်စေ စစ်မက်ပြိုင်ဆိုင်ရန် အခြားနိုင်ငံ တခုခုကိုသော်၎င်း၊ လူတဦးဦး ကိုသော်၎င်း ပြည်ထောင်စုအတွင်း၌ဖြစ်စေ၊ အပ၌ဖြစ်စေ ကူညီလျှင်၊ သို့တည်းမဟုတ်

(ဂ) ထိုသို့စစ်မက်ပြိုင်ဆိုင်ရန် ပြည်ထောင်စု နိုင်ငံအတွင်း၌ဖြစ်စေ၊ အပ၌ဖြစ်စေ လူတဦးဦးကို လှုံ့ဆော်လျှင်၊ သို့တည်းမဟုတ် လူတဦးဦးနှင့် ပူးပေါင်းကြံစည်လျှင်၊ သို့တည်းမဟုတ်

(ဃ) ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေဖြင့် တည်ထောင် ခန့်အပ်သော ပြည်ထောင်စုနိုင်ငံ၏ လုပ်ငန်းအဖွဲ့ကိုသော်၎င်း၊ ပြည်ထောင်စု အဖွဲ့ဝင်၏ လုပ်ငန်းအဖွဲ့ကိုသော်၎င်း လက်နက်ဖြင့်ဖြစ်စေ၊ အခြား သောင်းကျန်းသော နည်းလမ်းဖြင့်ဖြစ်စေ ဖြိုဖျက်ရန် အားထုတ်လျှင်၊ သို့တည်းမဟုတ် ဖြိုဖျက်ရန် အခြားနည်းဖြင့် ပြင်ဆင်လျှင်၊ သို့တည်းမဟုတ် ထိုသို့အားထုတ်မှုတွင် ပါဝင်ဆောင်ရွက်လျှင်၊ သို့တည်းမဟုတ် ထိုသို့ အားထုတ်မှုနှင့် ပတ်သက်လျှင်၊ သို့တည်းမဟုတ် ထိုသို့ အားထုတ်မှုကို ပြုရန်ဖြစ်စေ၊ ထိုသို့အားထုတ်မှုတွင်ပါဝင်ဆောင်ရွက်ရန်ဖြစ်စေ၊ ထိုသို့အားထုတ်မှုနှင့်ပတ်သက်ရန်ဖြစ်စေပြည်ထောင်စု နိုင်ငံအတွင်း၌သော်၎င်း၊ အပ၌သော်၎င်း လူတဦးဦးကို လှုံ့ဆော်လျှင်၊ သို့တည်းမဟုတ် တဦးဦးနှင့် ပူးပေါင်း ကြံစည်လျှင်၊

ထိုသူသည် နိုင်ငံတော် သစ္စာဖေါက်ဖျက် ပုန်ကန်မှုကြီးကို ကျူးလွန်သည်။

နိုင်ငံတော် သစ္စာ ဖေါက်ဖျက် ပုန်ကန်မှုကြီး အတွက် ပြစ်ဒဏ်။

၁၂၂။ ။(၁) မည်သူမဆို၊ ပြည်ထောင်စု နိုင်ငံအတွင်းတွင် နိုင်ငံတော် သစ္စာဖေါက်ဖျက် ပုန်ကန်မှုကြီးကို ကျူးလွန်လျှင်၊ သေဒဏ် ဖြစ်စေ၊ တသက်တကျွန်း ပို့ဒဏ်ဖြစ်စေ ချမှတ်ခြင်းခံရမည်။

(၂) ပြည်ထောင်စု နိုင်ငံသားဖြစ်သူသည်၊ သို့တည်းမဟုတ် သာမန်အားဖြင့် ပြည်ထောင်စု နိုင်ငံအတွင်းတွင် နေထိုင်သူသည် ပြည်ထောင်စု နိုင်ငံအပတွင် နိုင်ငံတော် သစ္စာဖေါက်ဖျက် ပုန်ကန်မှုကြီးကို ကျူးလွန်လျှင်၊ သေဒဏ်ဖြစ်စေ၊ တသက်တကျွန်းပို့ဒဏ်ဖြစ်စေ ချမှတ်ခြင်းခံရမည်။

နိုင်ငံတော် သစ္စာ ဖေါက်ဖျက် ပုန်ကန်မှုကြီး ကျူးလွန်သူကို အားပေးခြင်း၊ သို့တည်းမဟုတ် လက်သင့်ခံခြင်း၊ ထို့တည်းမဟုတ် နှစ်သိမ့်စေခြင်း။

၁၂၃။ ။မည်သူမဆို၊ တဦးတယောက်သောသူအား နိုင်ငံတော်သစ္စာဖေါက်ဖျက်ပုန်ကန်မှုကြီး ကျူးလွန်ရာတွင် ပါဝင်သူဖြစ်ကြောင်း သိလျက်နှင့်ဖြစ်စေ၊ ထိုသို့ ပါဝင်သူဖြစ်ကြောင်း ယုံကြည်ရန် အကြောင်းရှိလျက်နှင့်ဖြစ်စေ ထိုသူကို အားပေးလျှင်၊ သို့တည်းမဟုတ် လက်သင့်ခံလျှင်၊ သို့တည်းမဟုတ် နှစ်သိမ့်စေလျှင်၊ တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ အလုပ်ကြမ်းနှင့် ထောင်ဒဏ် ဖြစ်စေ ချမှတ်ခြင်းခံရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ကင်းလွတ်ချက်။ ။ပြစ်မှုကျူးလွန်သူကို လက်သင့်ခံသောသူသည် ထိုပြစ်မှု ကျူးလွန်သူ၏ လင်၊ သို့တည်းမဟုတ် မယားဖြစ်လျှင်၊ ဤပြဋ္ဌာန်းချက်နှင့် မသက်ဆိုင်စေရ။

နိုင်ငံတော် သစ္စာ ဖေါက်ဖျက် ပုန်ကန် မှုကြီးနှင့် စပ်လျဉ်း၍ ထိမ်ချန်ခြင်း။

၁၂၄။ ။နိုင်ငံတော် သစ္စာဖေါက်ဖျက် ပုန်ကန်မှုကြီး ဖြစ်စေမည့် ပြုလုပ်မှု တခုခုကို တဦးတယောက်သောသူက ပြုရန်ကြံရွယ်ကြောင်းကို၊ သို့တည်းမဟုတ် ပြုရန် ပြင်ဆင်ကြောင်းကို၊ သို့တည်းမဟုတ် ပြုဆဲဖြစ်ကြောင်းကို၊ သို့တည်းမဟုတ် ပြုပြီးဖြစ်ကြောင်းကို သိလျက်နှင့် မည်သူမဆို မိမိသိသမျှကို ရာဇဝတ်တရားသူကြီးထံတွင်

* ၁၉၆၁ ခုနှစ်၊ အက်ဥပဒေအမှတ် ၅ အရ၊ အစားထည့်သွင်းသည်။

ဖြစ်စေ၊ ရဲအရာရှိထံတွင်ဖြစ်စေ၊ နိုင်ငံတော် ငြိမ်ဝပ်ပိပြားရန် တာဝန်ဝတ်တရား ဆောင်ရွက်နေသူထံတွင်ဖြစ်စေ၊ ချက်ခြင်း ဖွင့်ဟပြောဆိုခြင်းမပြုလျှင်၊ ထိုသူသည် နိုင်ငံတော် သစ္စာဖောက်ဖျက် ပုန်ကန်မှုကြီး ထိမ်ချန်မှုကို ကျူးလွန်သည်။ ထိုသို့ ကျူးလွန်သော ပြစ်မှုအတွက်၊ ထိုသူအား ခုနစ်နှစ်ထိ အလုပ်ကြမ်းနှင့် ထောင်ဒဏ် ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

အကြည်ညိုပျက်အောင် ပြုခြင်း။

၁၂၄-က။ ။မည်သူမဆို၊ နှုတ်ဖြင့်ဖြစ်စေ၊ စာဖြင့်ဖြစ်စေ၊ အမှတ်အသားဖြင့်ဖြစ်စေ၊ ထင်ရှားသော ပုံသဏ္ဍာန်ဖြင့်ဖြစ်စေ၊ အခြားနည်းဖြင့်ဖြစ်စေ၊ ပြည်ထောင်စုအတွက်၊သို့တည်းမဟုတ် ပြည်ထောင်စု အဖွဲ့ဝင်များအတွက် ဥပဒေအရ တည်ထောင်ထားသော အစိုးရကို မုန်းထားအောင်သော်၎င်း၊ မလေးစားအောင်သော်၎င်းပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့ပြုရန် အားထုတ်လျှင်၊ သို့တည်းမဟုတ် မေတ္တာပျက်အောင် လှုံ့ဆော်လျှင်၊ သို့တည်းမဟုတ် ထိုသို့ လှုံ့ဆော်ရန် အားထုတ်လျှင်၊ ထိုသူကို ငွေဒဏ်နှင့်တကွ တသက်တကျွန်းဒဏ်ဖြစ်စေ၊ ငွေဒဏ်နှင့်တကွ တသက်တကျွန်းအောက်လျော့သည့် တကျွန်းဒဏ်ဖြစ်စေ၊ ငွေဒဏ်နှင့်တကွ သုံးနှစ်ထိထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်သက်သက်ဖြစ်စေ ချမှတ်ရမည်။

ရှင်းလင်းချက် ၁။ ။မေတ္တာပျက်စေခြင်း ဆိုသည့်စကားတွင်၊ သစ္စာမဲ့ခြင်းနှင့် အငြိုးထားသော စိတ်လည်းပါဝင်သည်။

ရှင်းလင်းချက် ၂။ ။မုန်းထားအောင်သော်၎င်း၊ မလေးစားအောင်သော်၎င်း၊ မေတ္တာပျက်အောင်သော်၎င်း ဖြစ်စေရန် လှုံ့ဆော်ခြင်း၊ သို့တည်းမဟုတ် လှုံ့ဆော်ရန် အားထုတ်ခြင်းမရှိဘဲ အစိုးရ၏ ဆောင်ရွက်မှု အစီအစဉ်ကို ဥပဒေနှင့်ညီသော နည်းဖြင့် ပြောင်းလဲပြုပြင်စေရန် ရည်ရွယ်လျက်၊ ထိုဆောင်ရွက်မှုကို သဘောမကျကြောင်း ထုတ်ဖော်ခြင်းသည် ဤပုဒ်မအရ ပြစ်မှုမမြောက်။

ရှင်းလင်းချက် ၃။ ။မုန်းထားအောင်သော်၎င်း၊ မလေးစားအောင်သော်၎င်း၊ မေတ္တာပျက်အောင်သော်၎င်း ဖြစ်စေရန် လှုံ့ဆော်ခြင်း၊ သို့တည်းမဟုတ် လှုံ့ဆော်ရန်ကြံစည်အားထုတ်ခြင်းမရှိဘဲ အစိုးရ၏ စီရင်အုပ်ချုပ်ရေးဆိုင်ရာ ဆောင်ရွက်မှုကို၊ သို့တည်းမဟုတ်အခြားဆောင်ရွက်မှုကိုသဘောမကျကြောင်း ထုတ်ဖော်ခြင်းသည် ဤပုဒ်မအရပြစ်မှုမမြောက်။

ပြည်ထောင်စုနိုင်ငံ၏လုပ်ငန်း အဖွဲ့ကိုဖြစ်စေ၊ ပြည်ထောင်စု အဖွဲ့ဝင်၏ လုပ်ငန်းအဖွဲ့ကိုဖြစ်စေ အနိုင်အထက်ပြုဖျက်စေရန်နှိုးဆော်ခြင်း။

၁၂၄-ခ။ ။မည်သူမဆို—

(က) ပြည်ထောင်စု နိုင်ငံ၏ လုပ်ငန်း အဖွဲ့ကိုသော်၎င်း ပြည်ထောင်စုအဖွဲ့ဝင်၏ လုပ်ငန်းအဖွဲ့ကိုသော်၎င်း အနိုင်အထက်ဖြစ်စေ၊ သောင်းကျန်းသော နည်းဖြင့်ဖြစ်စေ၊ အဆိုပါ လုပ်ငန်းအဖွဲ့ဝင် အရာထမ်း တဦးဦးကို သစ္စာမဲ့သတ်ဖြတ်ခြင်းအားဖြင့်ဖြစ်စေ ဖြိုဖျက်ရန်၊ သို့တည်းမဟုတ်ဖျက်ဆီးရန်တာဝန်ဝတ်တရားရှိအပ်သည်၊ သို့တည်းမဟုတ်လိုလားအပ်သည်၊ သို့တည်းမဟုတ် တောင့်တအပ်သည်၊ သို့တည်းမဟုတ် လျော်ကန် သင့်မြတ်သည်ဟူ၍၊ သိလျက်နှင့် သော်၎င်း၊ တမင်သက်သက်သော်၎င်း နှိုးဆော်လျှင်၊ သို့တည်းမဟုတ် အကြံပေးလျှင်၊ သို့တည်းမဟုတ် သင်ကြားလျှင်၊ သို့တည်းမဟုတ်

---

* ၁၉၅၃ ခုနှစ်၊ အက်ဥပဒေအမှတ် ၆၅ အရထည့်သွင်း၍၊ ၁၉၅၄ ခုနှစ်၊ အက်ဥပဒေအမှတ် ၃၉ အရ၊ ပြင်ဆင်ထားသည်။

(ခ) အဆိုပါ လုပ်ငန်းအဖွဲ့ တခုခုကို အနိုင်အထက် ဖြစ်စေ၊ သောင်းကျန်းသော နည်းဖြင့်ဖြစ်စေ ဖြိုဖျက်စေရန်၊ သို့တည်းမဟုတ် ဖျက်ဆီးစေရန် နှိုးဆော်သော၊ သို့တည်းမဟုတ် အကြံပေးသော၊ သို့တည်းမဟုတ် သင်ကြားသော ရေးသားထားသည့်၊ သို့တည်းမဟုတ် ပုံနှိပ်ထားသည့် အရာတခုခုကို၊ သိလျက်နှင့်သော်၎င်း၊ တမင်သက်သက်သော်၎င်း ပုံနှိပ်လျှင်၊ သို့တည်းမဟုတ် ကျေညာလျှင်၊ သို့တည်းမဟုတ် တည်းဖြတ်လျှင်၊ သို့တည်းမဟုတ် ထုတ်လုပ်လျှင်၊ သို့တည်းမဟုတ် ဖြန့်ချိလျှင်၊ သို့တည်းမဟုတ် ရောင်းလျှင်၊ သို့တည်းမဟုတ် ဝေငှလျှင်၊ သို့တည်းမဟုတ် အများမြင်သာအောင် ပြထားလျှင်၊ သို့တည်း မဟုတ်

(ဂ) အဆိုပါလုပ်ငန်း အဖွဲ့တခုခုကို အနိုင်အထက်ဖြစ်စေ၊ သောင်းကျန်းသော နည်းဖြင့် ဖြစ်စေ ဖြိုဖျက်စေရန်၊ သို့တည်းမဟုတ် ဖျက်ဆီးစေရန် သင်ကြားသော၊ သို့တည်းမဟုတ် နှိုးဆော်သော၊ သို့တည်းမဟုတ် အားပေးသော သူများပါဝင်သည့် အသင်းအဖွဲ့၊ လူစု၊ အစုအဝေး တခုခုကို စည်းရုံးလျှင်၊ သို့တည်းမဟုတ် စည်းရုံးရာတွင် ကူညီလျှင်၊ သို့တည်းမဟုတ်

(ဃ) အဆိုပါအသင်းအဖွဲ့၊ လူစု၊ အစုအဝေးတခုခု၏ ရည်ရွယ်ချက်ကို သိလျက်နှင့် ထိုအသင်းအဖွဲ့၊လူစု၊အစုအဝေးတခုခုတွင်အသင်းဝင်အဖြစ်ပါဝင်လျှင်၊ သို့တည်း မဟုတ် ထိုအသင်းအဖွဲ့၊ လူစု၊ အစုအဝေး တခုခုနှင့် ဆက်သွယ်လျှင်၊

ထိုသူအား သုံးနှစ်အောက်မနည်း ဆယ်နှစ်ထက်မပိုသော ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင်၊ ငွေဒဏ်လည်းချမှတ်နိုင်သည်။

ရှင်းလင်းချက်။ ။ဤပုဒ်မ၏ ကိစ္စအလို့ငှါ "ပြည်ထောင်စု နိုင်ငံ၏ လုပ်ငန်းအဖွဲ့၊ သို့တည်းမဟုတ်ပြည်ထောင်စုအဖွဲ့ဝင်၏ လုပ်ငန်းအဖွဲ့" ဆိုသည့်စကားရပ်မှာ၊ ပြည်ထောင်စု မြန်မာနိုင်ငံဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေ အရ တည်ထောင်ထားသည့် ပြည်ထောင်စု နိုင်ငံ၏ လုပ်ငန်း၊ သို့တည်းမဟုတ် ပြည်ထောင်စု အဖွဲ့ဝင်၏ လုပ်ငန်းအဖွဲ့ကို ဆိုလိုသည်။

၁၂၅။ ။မည်သူမဆို၊ ပြည်ထောင်စုနိုင်ငံတော်အစိုးရနှင့် မဟာမိတ်ဖြစ်သော၊ သို့တည်း မဟုတ် ငြိမ်းချမ်းလျက်ရှိသောအာရှတိုက် နိုင်ငံတခုခုကို စစ်မက်ပြိုင်ဆိုင်လျှင်၊ သို့တည်းမဟုတ် စစ်မက်ပြိုင်ဆိုင်ရန် အားထုတ်လျှင်၊ သို့တည်းမဟုတ် စစ်မက်ပြိုင်ဆိုင်ရန် အားပေးကူညီလျှင်၊ ထိုသူကို ငွေဒဏ်နှင့်တကွ တသက်တကျွန်းဒဏ်ဖြစ်စေ၊ငွေဒဏ်နှင့် တကွ ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်သက်သက်ဖြစ်စေ ချမှတ်ရမည်။

ပြည်ထောင်စု နိုင်ငံတော် အစိုးရ နှင့် မဟာမိတ် ဖြစ်သော အာရှတိုက် နိုင်ငံတခုခုကို စစ်မက်ပြိုင်ဆိုင်ခြင်း။

၁၂၆။ ။မည်သူမဆို၊ ပြည်ထောင်စုနိုင်ငံတော် အစိုးရနှင့် မဟာမိတ်ဖြစ်သော၊သို့တည်း မဟုတ် ငြိမ်းချမ်းလျက်ရှိသောနိုင်ငံနယ်ပယ်များတွင် တိုက်ခိုက် ဖျက်ဆီးလျှင်၊ သို့တည်းမဟုတ် တိုက်ခိုက် ဖျက်ဆီးရန် ပြင်ဆင်လျှင်၊ ထိုသူကိုခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။ ထို့ပြင် တိုက်ခိုက်ဖျက်ဆီးမှု ကျူးလွန်ရာတွင် အသုံးပြုသော ပစ္စည်းကို၊ သို့တည်းမဟုတ်

ပြည်ထောင်စု နိုင်ငံတော် အစိုးရနှင့် ငြိမ်းချမ်းလျက် ရှိသော နိုင်ငံ နယ်ပယ် တွင် တိုက်ခိုက်ဖျက်ဆီးခြင်း။

အသုံးပြုရန် ကြံရွယ်သော ပစ္စည်းကို၊ သို့တည်းမဟုတ် တိုက်ခိုက်ဖျက်ဆီး၍ရသော ပစ္စည်းကို သိမ်းယူခြင်း ခံထိုက်စေရမည်။

ပုဒ်မ ၁၂၅ နှင့် ၁၂၆ တွင် ဖေါ်ပြသည့်အတိုင်း စစ်မက်ပြိုင်ဆိုင် ရာတွင် သော်၎င်း၊ တိုက်ခိုက် ဖျက်ဆီး ရာတွင် သော်၎င်း၊ ရသော ပစ္စည်းကို လက်ခံခြင်း။

၁၂၇။ ။ပုဒ်မ ၁၂၅ နှင့် ၁၂၆ များ၌ ဖေါ်ပြသော ပြစ်မှုကို ကျူးလွန်ရာတွင် ရသော ပစ္စည်းဟု သိလျက်နှင့် ထိုပစ္စည်းကို လက်ခံလျှင်၊ ထိုသူအား ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။ ထို့ပြင် လက်ခံထားသည့် ပစ္စည်းကို သိမ်းယူနိုင်သည်။

နိုင်ငံရေး အကျဉ်းသားကို၊ သို့တည်းမဟုတ် စစ်သုံ့ပန်းကို ပြည်သူ့ ဝန်ထမ်းက မိမိအလိုအလျောက် လွှတ်ပြေးစေခြင်း။

၁၂၈။ ။မည်သူမဆို၊ ပြည်သူ့ ဝန်ထမ်းဖြစ်သည့်အလျောက် နိုင်ငံရေး အကျဉ်းသားကို ဖြစ်စေ၊ စစ်သုံ့ပန်းကိုဖြစ်စေ၊ ထိန်းသိမ်းထားရသည့်တွင်၊ ထို အကျဉ်းသားကို၊ သို့တည်းမဟုတ် ထိုစစ်သုံ့ပန်းကို အကျဉ်းထားရာနေရာမှလွတ်ပြေးစေရန် မိမိအလိုအလျောက် ခွင့်ပြုလျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ပြည်သူ့ ဝန်ထမ်း ပေါ့လျော့ မှုကြောင့် နိုင်ငံရေး အကျဉ်းသားကို၊ သို့တည်းမဟုတ် စစ်သုံ့ပန်းကို လွှတ်ပြေးစေခြင်း။

၁၂၉။ ။မည်သူမဆို၊ ပြည်သူ့ ဝန်ထမ်းဖြစ်သည့်အလျောက် နိုင်ငံရေး အကျဉ်းသားကိုဖြစ်စေ၊ စစ်သုံ့ပန်းကိုဖြစ်စေ ထိန်းသိမ်းထားရသည့်တွင်၊ ထို အကျဉ်းသားကို၊ သို့တည်းမဟုတ် ထိုစစ်သုံ့ပန်းကို ချုပ်ထားရာနေရာမှ ဝတ်တရား ပေါ့လျော့မှုကြောင့် လွတ်ပြေးစေလျှင်၊ ထိုသူကို သုံးနှစ်ထိ အလုပ်မဲ့ ထောင်ဒဏ် ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

နိုင်ငံရေး အကျဉ်းသား၊ သို့တည်းမဟုတ် စစ်သုံ့ပန်း လွတ်ပြေးရာတွင် ကူညီခြင်း၊ ကယ်ခြင်း၊ လက်သင့်ခံခြင်း။

၁၃၀။ ။မည်သူမဆို၊ သိလျက်နှင့်—

(က) နိုင်ငံရေး အကျဉ်းသားဖြစ်စေ၊ စစ်သုံ့ပန်းဖြစ်စေ ဥပဒေအရ ချုပ်ထားရာမှ လွတ်ပြေးရာတွင် ကူညီလျှင်၊ သို့တည်းမဟုတ်

(ခ) ထိုအကျဉ်းသားကိုဖြစ်စေ၊ စစ်သုံ့ပန်းကိုဖြစ်စေ၊ ဥပဒေအရ ချုပ်ထားရာမှ ကယ်လျှင်၊ သို့တည်းမဟုတ် ကယ်ရန် အားထုတ်လျှင်၊ သို့တည်းမဟုတ်

(ဂ) ဥပဒေအရ ချုပ်ထားရာမှ လွတ်ပြေးသော ထိုအကျဉ်းသားကိုဖြစ်စေ၊ ထိုစစ်သုံ့ပန်းကိုဖြစ်စေ လက်သင့်ခံလျှင်၊ သို့တည်းမဟုတ် ဝှက်ထားလျှင်၊ သို့တည်းမဟုတ်

(ဃ) ထိုသို့လွတ်ပြေးသော အကျဉ်းသားကိုဖြစ်စေ၊ စစ်သုံ့ပန်းကို ဖြစ်စေ ပြန်လည်ဖမ်းဆီးရာတွင် ခုခံလျှင်၊ သို့တည်းမဟုတ် ခုခံရန် အားထုတ်လျှင်၊

ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ရှင်းလင်းချက်။ ။ပြည်ထောင်စု မြန်မာနိုင်ငံရှိ သတ်မှတ်ထားသော နယ်နိမိတ်အတွင်း၌ နေပါမည်ဟု ကတိထားရှိသောကြောင့် ထိုနယ်နိမိတ်အတွင်း၌ လွတ်လပ်စွာ နေခွင့်ရသော နိုင်ငံရေး အကျဉ်းသားသည်၊ သို့တည်းမဟုတ် စစ်သုံ့ပန်းသည် ထိုနယ်နိမိတ် ပြင်ပသို့ ထွက်လျှင်၊ ဥပဒေအရ ချုပ်ထားရာမှ လွတ်ပြေးသည်မည်၏။

* * * *

## အခန်း ၆-က။

## ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေနှင့် ပါလီမန်တို့၏အက်ဥပဒေများ၌ ပါရှိသည့် ပြဋ္ဌာန်းချက်အချို့နှင့် စပ်လျဉ်းသောပြစ်မှုများ။

ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံ ဥပဒေ နှင့် ပါလီမန် တို့၏ အက်ဥပဒေများ၌ ပါရှိသည့် ပြဋ္ဌာန်းချက်အချို့ နှင့် စပ်လျဉ်းသော ပြစ်မှုများ။

၁၃၀-က။ ။အပြစ်ဒဏ်ကို၊ သို့တည်းမဟုတ် ပြစ်ဒဏ်ချမှတ်ရန် အခြားနည်းလမ်းကို ဥပဒေဖြင့် ဘတည့်အလင်းပြဋ္ဌာန်းထားခြင်းမရှိသည့် ကိစ္စတွင်၊ မည်သူမဆို၊ ပြည်ထောင်စု မြန်မာနိုင်ငံ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေ၏ ပုဒ်မ ၁၅ ၌ ဖြစ်စေ၊ ၁၇ ၌ဖြစ်စေ၊ ၁၉ ၌ ဖြစ်စေ၊ ၂၀ ၌ဖြစ်စေ၊ ပုဒ်မ ၂၃ ၏ ပုဒ်မခွဲ (၂) နှင့် (၃) များ၌ ဖြစ်စေ၊ ပြည်ထောင်စု မြန်မာနိုင်ငံ၏ ပါလီမန်က ပြဋ္ဌာန်းထားသော အက်ဥပဒေ၌ဖြစ်စေ ပါရှိသော ပြဋ္ဌာန်းချက်က တားမြစ်ထားသော ပြုလုပ်မှုကို တမင်ပြုလုပ်ခြင်းဖြင့်သော်၎င်း၊ အဆိုပါပြဋ္ဌာန်းချက်အရ ပြုလုပ်ရန် လိုအပ်သော ပြုလုပ်မှုကို တမင်ချန်လှပ်ခြင်းဖြင့် သော်၎င်း အဆိုပါ ပြဋ္ဌာန်းချက်ကို လျော်ကန်သင့်မြတ်သော ခွင့်လွှတ်ချက်မရှိဘဲ ဆန့်ကျင်ခြင်းပြုလျှင်၊ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

## အခန်း ၆-ခ။

## အခြားနိုင်ငံများကိုအသရေပျက်စေမှု။

အခြား နိုင်ငံများကို အသရေ ပျက်စေမှု။

၁၃၀-ခ။ ။နှုတ်ဖြင့်ဖြစ်စေ၊ စာဖြင့်ဖြစ်စေ၊ အမှတ်အသားဖြင့်ဖြစ်စေ၊ ထင်ရှားသော ပုံသဏ္ဌာန်ဖြင့်ဖြစ်စေ မည်သူမဆို၊ ပြည်ထောင်စုမြန်မာနိုင်ငံနှင့် နိုင်ငံခြားတို့၏ ငြိမ်းချမ်းစွာမိတ်ဆွေအဖြစ် ဆက်ဆံမှုကိုနှောင့်ယှက်ရန်အကြံဖြင့် နိုင်ငံခြားကိုဖြစ်စေ၊ နိုင်ငံခြား၏ အထွတ်အထိပ် ပုဂ္ဂိုလ်ကိုဖြစ်စေ၊ နိုင်ငံခြား သံအမတ်ကိုဖြစ်စေ၊ နိုင်ငံခြား၏ အခြားထိပ်တန်း ပုဂ္ဂိုလ်များကိုဖြစ်စေ ဂုဏ်နိမ့်ကျစေတတ်သည့်၊ သို့တည်းမဟုတ် ဂုဏ်သိက္ခာ ထိပါးစေတတ်သည့်၊ သို့တည်းမဟုတ် မုန်းထားအောင်သော်၎င်း၊ မလေးစားအောင်သော်၎င်း ဖြစ်စေတတ်သည့် အရာကိုကျေညာလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ပဌမခြွင်းချက်။** ။ပြည်ထောင်စု မြန်မာနိုင်ငံနှင့် နိုင်ငံခြားတို့၏ငြိမ်းချမ်းစွာမိတ်ဆွေ အဖြစ်ဆက်ဆံမှုကို နှောင့်ယှက်ရန် အကြံမရှိဘဲ၊ ပြည်သူအကျိုးနှင့် သက်ဆိုင်သော ကိစ္စနှင့် စပ်လျဉ်း၍ မှျတသော ဝေဖန်ချက်ကို ကျေညာခြင်းသည် ဤပုဒ်မအရ ပြစ်မှုမမြောက်။

**ဒုတိယခြွင်းချက်။** ။မှန်ကန်သည့်အရာကို အများပြည်သူကောင်းကျိုးအတွက်ကျေညာ သင့်သဖြင့် ကျေညာခြင်းသည် ဤပုဒ်မအရပြစ်မှုမမြောက်။ကျေညာချက်သည် အများပြည် သူ၏ကောင်းကျိုးအတွက် ဟုတ်သည် မဟုတ်သည်ဆိုသောအချက်သည် အကြောင်းချင်း ရာ၏ပြဿနာဖြစ်သည်။

## အခန်း ၇။

## ကြည်းတပ်၊ ရေတပ်၊ လေတပ်နှင့်ဆိုင်သောပြစ်မှုများ။

*စစ် ပုန်ကန်မှုကို အားပေး ကူညီခြင်း၊ သို့တည်းမဟုတ် စစ်ဘက်သားအား တာဝန် ဝတ် တရားမှ သွေးဆောင်ရန်အား ထုတ်ခြင်း။*

၁၃၁။ ။ပြည်ထောင်စု နိုင်ငံတော်ကြည်း၊ ရေ၊ လေတပ်တခုခုတွင် ထမ်းရွက်သော တပ်သားကသော်၎င်း၊ အရာရှိကသော်၎င်း စစ်ပုန်ကန်မှုကျူး လွန်ခြင်းကို မည်သူမဆို၊ အားပေးကူညီလျှင်၊ သို့တည်းမဟုတ် ထိုတပ်သား၊ ထိုအရာရှိတဦးဦးအား နိုင်ငံတော်သစ္စာကို ဖေါက် ဖျက်စေခြင်းငှါသော်၎င်း၊ တာဝန်ဝတ်တရား မဆောင်ရွက်စေ ခြင်းငှါသော်၎င်း သွေးဆောင်ရန် အားထုတ်လျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိထောင်ဒဏ် တမျိုးမျိုး ဖြစ်စေချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

* *

*အား ပေး ကူ ညီ ခြင်း ကြောင့်၊ ကျူးလွန်သော ပုန် ကန်မှုကို အားပေးကူညီခြင်း။*

၁၃၂။ ။ပြည်ထောင်စု နိုင်ငံတော် ကြည်း၊ ရေ၊ လေတပ်တခုခုတွင် ထမ်းရွက်သော တပ်သားကသော်၎င်း၊ အရာရှိကသော်၎င်း စစ်ပုန်ကန်မှုကျူး လွန်ခြင်းကို မည်သူမဆို၊ အားပေးကူညီသည်တွင်၊ ထိုသို့အား ပေးကူညီခြင်းကြောင့် စစ်ပုန်ကန်မှုကို ကျူးလွန်လျှင်၊ ထိုအား ပေးကူညီသူကိုသေဒဏ်ဖြစ်စေ၊တသက်တကျွန်းဒဏ်ဖြစ်စေ၊ဆယ် နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

*အထက် အရာရှိ ဝတ်တရား ထမ်းဆောင်ရာတွင် ထိုအရာရှိ အပေါ်၌ လက်ရောက်မှု ကျူး လွန်စေရန် တပ်သားအား၊ အားပေးကူညီခြင်း။*

၁၃၃။ ။ပြည်ထောင်စု နိုင်ငံတော် ကြည်း၊ ရေ၊ လေတပ် တခုခုတွင် ထမ်းရွက်သော တပ်သားကသော်၎င်း၊ အရာရှိကသော်၎င်း တာဝန်ဝတ်တရား ထမ်းဆောင်နေသော အထက်အရာရှိကို လက်ရောက်မှု ကျူး လွန်ရန် မည်သူမဆို၊ အားပေးကူညီလျှင်၊ ထိုအားပေး ကူညီ သူကို သုံးနှစ်ထိထောင်ဒဏ် တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေ ဒဏ်လည်းချမှတ်နိုင်သည်။

*ကျူး လွန် သော လက် ရောက်မှုကို အားပေး ကူညီ ခြင်း။*

၁၃၄။ ။မည်သူမဆို၊ ပြည်ထောင်စု နိုင်ငံတော် ကြည်း၊ ရေ၊ လေတပ် တခုခုတွင် ထမ်းရွက်သောတပ်သားကသော်၎င်း၊အရာရှိကသော်၎င်း တာဝန် ဝတ်တရား ထမ်းဆောင်နေသောအထက်အရာရှိကို လက်ရောက် မှုကို ကျူးလွန်ရန် အားပေးကူညီသည်တွင်၊ ထိုသို့ အားပေး ကူညီခြင်းကြောင့် လက်ရောက်မှုကိုကျူးလွန်လျှင်၊ ထိုအားပေး ကူညီသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

၁၃၅။ ။ပြည်ထောင်စုနိုင်ငံတော် ကြည်း၊ ရေ၊ လေတပ် တခုခုတွင် ထမ်းရွက်သော တပ်သားကသော်၎င်း၊ အရာရှိကသော်၎င်း စစ်ပြေးမှု ကျူးလွန်ခြင်းကို မည်သူမဆို အားပေးကူညီလျှင်၊ ထိုအားပေးကူညီသူကို နှစ်နှစ်ထိထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

တပ်သားအား စစ်ပြေးမှု ကျူးလွန်စေရန် အားပေးကူညီခြင်း။

၁၃၆။ ။အောက်ပါ ကင်းလွတ်ချက်တွင် ပါဝင်သူမှတပါး၊ စစ်ပြေးမှု ကျူးလွန်သော ပြည်ထောင်စု နိုင်ငံတော် ကြည်း၊ ရေ၊ လေတပ် တခုခုတွင် ထမ်းရွက်သည့် တပ်သားသည်၊ သို့တည်းမဟုတ် အရာရှိသည် စစ်ပြေးမှု ကျူးလွန်ခဲ့သည်ကို သိလျက်နှင့်သော်၎င်း၊ ယုံကြည်ရန် အကြောင်းရှိလျက်နှင့်သော်၎င်း မည်သူမဆို၊ အဆိုပါတပ်သားကို၊ သို့တည်းမဟုတ် အရာရှိကို လက်သင့်ခံလျှင်၊ ထိုလက်သင့်ခံသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေချမှတ်ရမည်။

စစ်ပြေးကိုလက်သင့်ခံခြင်း။

**ကင်းလွတ်ချက်။** ။ဤပြဋ္ဌာန်းချက်သည် မယားက လင်ကို လက်သင့်ခံခြင်းနှင့် မသက်ဆိုင်စေရ။

၁၃၇။ ။ပြည်ထောင်စု နိုင်ငံတော် ကြည်း၊ ရေ၊ လေတပ် တခုခုမှ စစ်ပြေးတဦးဦးသည် ကုန်သည်သင်္ဘောပေါ်၌ ပုန်းနေရာတွင်၊ ထိုသို့ ပုန်းနေကြောင်းကို သင်္ဘောမှူးသည်၊ သို့တည်းမဟုတ် သင်္ဘောကို အုပ်ချုပ်သူ အကြီးအကဲသည် မိမိ၏ တာဝန်ဝတ်တရား ပေါ့လျော့ခြင်း မရှိခဲ့သော်၊ သို့တည်းမဟုတ် သင်္ဘောပေါ်တွင်စည်းကမ်း သေဝပ်ရေး ချို့ငဲ့ခြင်းမရှိခဲ့သော် သိနိုင်လောက်သည်ဖြစ်လျှင်၊ ထိုသို့ပုန်းနေကြောင်းကို မသိစေကာမူ၊ ထိုသင်္ဘောမှူးအား၊ သို့တည်းမဟုတ် ထိုသင်္ဘောကို အုပ်ချုပ်သူ အကြီးအကဲအား ငါးရာအထိငွေဒဏ်ချမှတ်နိုင်သည်။

သင်္ဘောမှူး ပေါ့လျော့မှုကြောင့်၊ စစ်ပြေး သည် သင်္ဘော ပေါ်တွင် ပုန်းနေနိုင်ခြင်း။

၁၃၈။ ။ပြည်ထောင်စုနိုင်ငံတော် ကြည်း၊ ရေ၊ လေတပ် တခုခုတွင် ထမ်းရွက်သော တပ်သား၏၊ သို့တည်းမဟုတ် အရာရှိ၏ ပြုလုပ်မှုသည် စည်းကမ်းဖီဆန်မှုပြုရာရောက်ကြောင်းသိလျက်နှင့် ထိုပြုလုပ်မှုကိုအားပေးကူညီသည်ဟုတ်၊ ထိုသို့ အားပေးကူညီခြင်းကြောင့် စည်းကမ်းဖီဆန်မှုကို ကျူးလွန်လျှင်၊ ထိုအားပေးကူညီသူကို ခြောက်လအထိထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

စည်းကမ်းဖီဆန်မှုကိုပြုရန် တပ်သားကို အားပေး ကူညီခြင်း။

၁၃၉။ ။ပြည်ထောင်စုနိုင်ငံ ကြည်းတပ်မတော် အက်ဥပဒေကို၊ သို့တည်းမဟုတ် ပြည်ထောင်စု မြန်မာနိုင်ငံ ဘော်လံတီယာ အရံရေတပ်မတော် (စည်းကမ်း) အက်ဥပဒေကို၊ သို့တည်းမဟုတ် ၁၉၄၇ ခုနှစ်၊ ပြည်ထောင်စု မြန်မာနိုင်ငံ လေတပ်မတော် (စည်းကမ်း) အက်ဥပဒေကို လိုက်နာရသူသည် ဤအခန်း၌ပေါ်ပြထားသော ပြစ်မှုအတွက် ဤရာဇသတ်ကြီးအရ ပြစ်ဒဏ်ချမှတ်ခြင်းမခံရ။

အချို့အက်ဥပဒေများကို လိုက်နာရသူများ။

၁၄၆။ ။ပြည်ထောင်စု မြန်မာနိုင်ငံတော် ကြည်း၊ ရေ၊ လေတပ် တခုခုတွင် ထမ်းရွက်သော တပ်သားမဟုတ်ဘဲလျက်၊ မိမိကိုယ်ကို တပ်သားဟူ၍ ယုံကြည်စေရန် ကြံရွယ်ချက်နှင့် မည်သူမဆို၊ စစ်သား၏ စစ်ဝတ်တန်ဆာနှင့် သဏ္ဌာန်တူသော အဝတ်တန်ဆာကို ဝတ်ဆင်လျှင်၊ သို့တည်းမဟုတ် စစ်အမှတ်အသားနှင့် သဏ္ဌာန်တူသော အမှတ်အသားကို ကိုင်ဆောင်လျှင်၊ ထိုသူကို သုံးလထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငါးရာထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

တပ်သား၏ စစ်ဝတ် တန်ဆာကို ဝတ် ဆင် ခြင်း၊ သို့တည်းမဟုတ် စစ် အမှတ် အသားကိုကိုင်ဆောင်ခြင်း။

## အခန်း ၈။

## နိုင်ငံတော်ငြိမ်ဝပ်ရေးကို ပျက်စေသောပြစ်မှုများ။

၁၄၇။ ။ငါးဦး၊ သို့တည်းမဟုတ် ငါးဦးထက်ပိုသော သူများသည် အောက်ပါတူသော ရည်ရွယ်ချက် တခုခုနှင့်စုဝေးကြလျှင်၊ ထိုအစုအဝေးကို "ဥပဒေနှင့်ဆန့်ကျင်သော အစုအဝေး" ဟုခေါ်သည်။

ဥပဒေနှင့် ဆန့်ကျင်သော အစုအဝေး။

ပဌမ။ ။ရာဇဝတ်ပြစ်ဒဏ်ထိုက်သော အနိုင်အထက်ပြုခြင်းဖြင့်သော်၎င်း၊ ထိုကဲ့သို့သော အနိုင်အထက်ပြုဟန်ပြခြင်းဖြင့်သော်၎င်း ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ တည်ထောင်ခန့်အပ်သော ဥပဒေပြုအဖွဲ့ကိုဖြစ်စေ၊ ပြည်ထောင်စု မြန်မာနိုင်ငံ၏၊ သို့တည်းမဟုတ် ပြည်ထောင်စုအဖွဲ့ဝင်၏ အစိုးရကိုဖြစ်စေ၊ ဥပဒေအရ မိမိ၏အာဏာကို ဆောင်ရွက်နေသော ပြည်သူ့ ဝန်ထမ်းကိုဖြစ်စေ ချောက်လှန့်ရန် ရည်ရွယ်ချက်၊ သို့တည်းမဟုတ်

ဒုတိယ။ ။ဥပဒေအရသော်၎င်း၊ ဥပဒေနှင့်အညီ ထုတ်ဆင့်သည့် အမိန့်ဆင့်ဆိုချက်စာသော ဆောင်ရွက်မှုကိုသော်၎င်း ဆောင်ရွက်ခြင်းကို ခုခံရန် ရည်ရွယ်ချက်၊ သို့တည်းမဟုတ်

တတိယ။ ။အကျိုးဖျက်ဆီးမှုကိုသော်၎င်း၊ ရာဇဝတ် ပြစ်ဒဏ်ထိုက်သော ကျော်နင်းမှုကိုသော်၎င်း၊ အခြားပြစ်မှုများကိုသော်၎င်း၊ ကျူးလွန်ရန် ရည်ရွယ်ချက်၊ သို့တည်းမဟုတ်

စတုတ္ထ။ ။တဦးတယောက်သောသူကို ရာဇဝတ်ပြစ်ဒဏ်ထိုက်သော အနိုင်အထက်ပြုခြင်းဖြင့်သော်၎င်း၊ ထိုကဲ့သို့သော အနိုင်အထက်ပြုဟန်ပြခြင်းဖြင့်သော်၎င်း ပစ္စည်းကိုရယူရန်၊ သို့တည်းမဟုတ် တဦးတယောက်၏ လက်ရှိဖြစ်သော၊ သို့တည်းမဟုတ် ခံစားဆဲဖြစ်သော ဖြတ်သန်းသွားလာမှု အခွင့်အရေးကိုဖြစ်စေ၊ ရေသုံးစွဲမှု အခွင့်အရေးကိုဖြစ်စေ၊ အကောင်အထည်မရှိသောအခြားအခွင့်အရေးကိုဖြစ်စေ လက်လွှတ်စေရန်၊ သို့တည်းမဟုတ် ခံစားခွင့်ရှိသော အခွင့်အရေးကိုဖြစ်စေ၊ ခံစားခွင့် ရှိသည်ဟုထင်မှတ်သော အခွင့်အရေးကိုဖြစ်စေ သုံးစွဲရန်ရည်ရွယ်ချက်၊ သို့တည်းမဟုတ်

ပဉ္စမ။ ။ရာဇဝတ်ပြစ်ဒဏ်ထိုက်သော အနိုင်အထက် ပြုခြင်းဖြင့်သော်၎င်း၊ ထိုကဲ့သို့သော အနိုင်အထက် ပြုဟန်ပြခြင်းဖြင့်သော်၎င်း တဦးတယောက်သောသူအား ဥပဒေအရ ပြုရန်တာဝန်မရှိသော အလုပ်ကို အတင်းအကြပ်ပြုစေရန်၊ သို့တည်းမဟုတ် ဥပဒေအရ ကိုယ်ပိုင်သောအမှုကို ပြုခြင်းမှ အတင်းအကြပ်ပျက်ကွက်စေရန် ရည်ရွယ်ချက်။

**ရှုန်းလင်းချက်။** ။အစုအဝေးတခုသည် စုဝေးစက ဥပဒေနှင့်ဆန့်ကျင်သော အစုအဝေး မဟုတ်သော်လည်း၊ နောက်ပိုင်းတွင် မတရားအစုအဝေးဖြစ်လာနိုင်သည်။

ဥပဒေနှင့် ဆန့်ကျင်သော အစု အဝေး၌ပါဝင်သူ ဖြစ်ခြင်း။

၁၄၂။ ။မည်သူမဆို၊ ဥပဒေနှင့်ဆန့်ကျင်သော အစုအဝေးဖြစ်မြောက်စေသည့်ကြောင်း ချင်းရာများကို သိပါလျက်နှင့်၊ ထိုအစုအဝေးတွင် တမင်ပါဝင်လျှင်၊ သို့တည်းမဟုတ် ဆက်လက် ပါဝင်နေလျှင်၊ ထိုသူသည် ဥပဒေနှင့် ဆန့်ကျင်သောအစုအဝေးတွင် ပါဝင်သူမည်၏။

ပြစ်ဒဏ်။

၁၄၃။ ။မည်သူမဆို၊ ဥပဒေနှင့်ဆန့်ကျင်သော အစုအဝေးတခုတွင် ပါဝင်သူဖြစ်လျှင်၊ ထိုသူကို ခြောက်လထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ် ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဥပဒေနှင့် ဆန့်ကျင်သော အစု အဝေးတွင် သေစေလောက်သော လက်နက်ကို စွဲကိုင်ကာ ပါဝင်ခြင်း။

၁၄၄။ ။မည်သူမဆို၊ သေစေလောက်သောလက်နက်ကို၊ သို့တည်းမဟုတ် ရန်မူသော လက်နက်အဖြစ်ဖြင့် အသုံးပြုခဲ့သော် သေစေတန်ရာသော အရာဝတ္ထုကို ကိုင်စွဲလျက်၊ ဥပဒေနှင့်ဆန့်ကျင်သော အစုအဝေး၌ ပါဝင်သူဖြစ်လျှင်၊ ထိုသူကို နှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုး ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

လူစုခွဲရန် အမိန့် ပေးပြီးကြောင်း သိပါလျက်၊ဥပဒေနှင့်ဆန့်ကျင်သောအစုအဝေး၌ပါဝင်ခြင်း၊ သို့တည်းမဟုတ် ဆက်လက်ပါဝင်နေခြင်း။

၁၄၅။ ။မည်သူမဆို၊ ဥပဒေနှင့် ဆန့်ကျင်သော အစုအဝေးကို လူစုခွဲရန် ဥပဒေ ပြဋ္ဌာန်းသည့် နည်းလမ်းအတိုင်း အမိန့်ပေးပြီးကြောင်း သိပါလျက် ထိုအစုအဝေးတွင် ပါဝင်သူဖြစ်လျှင်၊ သို့တည်းမဟုတ် ဆက်လက်ပါဝင်နေသူဖြစ်လျှင်၊ ထိုသူကို နှစ်နှစ်ထိထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ရှုန်းရင်းဆန်ခတ်မှု။

၁၄၆။ ။ဥပဒေနှင့်ဆန့်ကျင်သော အစုအဝေးကသော်၎င်း၊ ထိုအစုအဝေးတွင်ပါဝင်သူတဦးဦးကသော်၎င်း တူသောရည်ရွယ်ချက်အတိုင်း ဆောင်ရွက်ရာ၌၊ အနိုင်အထက်ပြုလုပ်လျှင်၊ သို့တည်းမဟုတ် သောင်းကျန်းလျှင်၊ ထိုအစုအဝေးတွင် ပါဝင်သူတိုင်းသည် ရှုန်းရင်းဆန်ခတ်မှုကိုကျူးလွန်သည်။

ရှုန်းရင်းဆန်ခတ်မှုအတွက် ပြစ်ဒဏ်။

၁၄၇။ ။မည်သူမဆို၊ ရှုန်းရင်းဆန်ခတ်မှု ကျူးလွန်လျှင်၊ ထိုသူကို နှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

သေစေလောက်သော လက်နက်ကို စွဲကိုင်လျက် ရှုန်းရင်းဆန်ခတ်မှုပြုခြင်း။

၁၄၈။ ။မည်သူမဆို၊ သေစေလောက်သော လက်နက်ကို၊ သို့တည်းမဟုတ် ရန်မူသောလက်နက်အဖြစ်ဖြင့်အသုံးပြုလျှင် သေစေတန်ရာသောအရာဝတ္ထုကိုစွဲကိုင်လျက်၊ ရှုန်းရင်းဆန်ခတ်မှု ကျူးလွန်လျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေချမှတ်ရမည်။

**ဥပဒေနှင့် ဆန့်ကျင်သော အစုအဝေးတွင် ပါဝင်သူတိုင်းသည်၊ တူသောရည်ရွယ်ချက်အတိုင်း ဆောင် ရွက် ရာ၌ ကျူးလွန်သော ပြစ်မှုအတွက် အပြစ်ရှိခြင်း။**

၁၄၉။ ။ဥပဒေနှင့်ဆန့်ကျင်သော အစုအဝေးတွင် ပါဝင်သူတဦးဦးက ထိုအစုအဝေး၏ တူသောရည်ရွယ်ချက်အတိုင်းဆောင်ရွက်ရာ၌ ပြစ်မှုတခုကိုကျူးလွန်လျှင်၊ သို့တည်းမဟုတ် ထိုသို့တူသော ရည်ရွယ်ချက်အတိုင်း ဆောင်ရွက်ရာ၌ ကျူးလွန်တန်ရာသည်ဟု ထိုအစုအဝေး၌ ပါဝင်သူများက သိသောပြစ်မှုကို ကျူးလွန်လျှင်၊ထိုပြစ်မှုကိုကျူးလွန်စဉ်က ထိုအစုအဝေး၌ပါဝင်သော သူတိုင်းသည် ထိုပြစ်မှုအတွက် အပြစ်ရှိသည်။

**ဥပဒေနှင့် ဆန့်ကျင်သော အစုအဝေးတွင် ပါဝင်စေရန် လူကို ငှါးရမ်းခြင်း၊ သို့တည်း မဟုတ် ငှါးရမ်းခြင်းကို အလိုတူရာရောက်ခြင်း။**

၁၅၀။ ။မည်သူမဆို၊ ဥပဒေနှင့်ဆန့်ကျင်သော အစုအဝေးတွင် ပါဝင်စေရန် လူတဦးတယောက်ကိုငှါးရမ်းလျှင်၊ သို့တည်းမဟုတ် ရယူလျှင်၊ သို့တည်းမဟုတ် စေခိုင်းလျှင်၊ သို့တည်းမဟုတ် ထိုသို့ငှါးရမ်းခြင်း၊ ရယူခြင်း၊ စေခိုင်းခြင်းတခုခုကို အားပေးအားမြှောက်ပြုလျှင်၊ သို့တည်းမဟုတ် အလိုတူရာရောက်လျှင်၊ ထိုသူသည် ဥပဒေနှင့် ဆန့်ကျင်သောအစုအဝေးတွင် ပါဝင်သအဖြစ်ဖြင့် ပြစ်ဒဏ်ချမှတ်ခြင်းခံထိုက်စေရမည်။ ထို့ပြင် ထိုသို့ငှါးရမ်းခြင်းကြောင့်ဖြစ်စေ၊ ရယူခြင်းကြောင့်ဖြစ်စေ၊ စေခိုင်းခြင်းကြောင့်ဖြစ်စေ၊ ငှါးရမ်းခြင်း၊သို့တည်းမဟုတ် ရယူခြင်း၊ သို့တည်းမဟုတ် စေခိုင်းခြင်းခံရသူက ထိုအစုအဝေး၌ ပါဝင်သအဖြစ်ဖြင့် ကျူးလွန်သော ပြစ်မှုအတွက် အဆိုပါ ငှါးရမ်းခြင်း၊ ရယူခြင်း၊ စေခိုင်းခြင်းတခုခုပြုသသည် အစုအဝေးတွင် ပါဝင်သူဖြစ်ဘိသကဲ့သို့သော်၎င်း၊ ပြစ်မှုကို ကိုယ်တိုင်ကျူးလွန်ဘိသကဲ့သို့သော်၎င်း ပြစ်ဒဏ်ချမှတ်ခြင်း ခံထိုက်စေ ရမည်။

**ငါးဦး၊ သို့တည်းမဟုတ် ငါးဦးထက်ပိုသော သူများ၏ အစုအဝေးကို၊ လူစုခွဲရန် အမိန့် ထုတ်ဆင့်ပြီးနောက်၊ ထိုအစုအဝေးတွင် သိလျက်နှင့် ပါဝင်ခြင်း၊ သို့တည်းမဟုတ် ဆက်လက်ပါဝင်နေခြင်း။**

၁၅၁။ ။ငါးဦး၊ သို့တည်းမဟုတ် ငါးဦးထက်ပိုသော သူများ၏ အစုအဝေး တခုခုကို လူစုခွဲရန် ဥပဒေနှင့်အညီ အမိန့် ထုတ်ဆင့်ပြီးနောက်၊ ထိုအစုအဝေးက ငြိမ်ဝပ်ရေးကို နှောင့်ယှက်တန်ရာသည်ကို သိလျက်နှင့် မည်သူမဆို၊ ထိုအစုအဝေးတွင် ပါဝင်လျှင်၊ သို့တည်းမဟုတ် ဆက်လက်ပါဝင်နေလျှင်၊ ထိုသူကို ခြောက်လထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ရှင်းလင်းချက်။** ။အစုအဝေးသည် ပုဒ်မ ၁၄၁ ပါပြဋ္ဌာန်းချက်အရ ဥပဒေနှင့် ဆန့်ကျင်သော အစုအဝေးဖြစ်လျှင်၊ အထက်ပါ ပြစ်မှုကျူးလွန်သူသည် ပုဒ်မ ၁၄၅ အရ ပြစ်ဒဏ်ချမှတ်ခြင်း ခံထိုက်စေရမည်။

**ရုန်းရင်း ဆန်ခတ် စသည်တို့ကို နှိမ်နင်းနေသော ပြည်သူ့ဝန်ထမ်းကို လက်ရောက်မှုပြုခြင်း၊ သို့တည်းမဟုတ် ဟန့်တားခြင်း။**

၁၅၂။ ။ပြည်သူ့ဝန်ထမ်း အဖြစ်ဖြင့် တာဝန်ဝတ်တရား ဆောင်ရွက်နေစဉ် ဥပဒေနှင့်ဆန့်ကျင်သော အစုအဝေးကို လူစုခွဲရန် ကြိုးပမ်းနေသော၊ သို့တည်းမဟုတ် ရုန်းရင်းဆန်ခတ်မှုကိုဖြစ်စေ၊ သတ်ပုတ် နှောင့်ယှက်မှုကိုဖြစ်စေ နှိမ်နင်းရန် ကြိုးပမ်းနေသော ပြည်သူ့ဝန်ထမ်းကို မည်သူမဆို၊ လက်ရောက်မှုပြုလျှင်၊ သို့တည်းမဟုတ် လက်ရောက်မှုပြုရန် ခြိမ်းခြောက်လျှင်၊ သို့တည်းမဟုတ် ဟန့်တားလျှင်၊ သို့တည်းမဟုတ် ဟန့်တားရန် အားထုတ်လျှင်၊ သို့

တည်းမဟုတ် ထိုပြည်သူ့ဝန်ထမ်းကို ရာဇဝတ်မကင်းသော အနိုင်အထက်မှုပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့ပြုရန်အားထုတ်လျှင်၊ သို့တည်းမဟုတ် ထိုသို့ပြုရန် ခြိမ်းခြောက်လျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ရှန်းရင်း ဆန်ခတ်မှုဖြစ်စေရန် ကြံရွယ်၍ ရမ်းကားလိုသောသဘောဖြင့် ရန်စခြင်း။**

၁၅၃။ ။ရန်စခြင်းဖြင့်ရှန်းရင်းဆန်ခတ်မှုကို ကျူးလွန်ရန် ကြံရွယ်၍သော်၎င်း၊ ထိုသို့ရန်စခြင်းဖြင့် ထိုပြစ်မှုကိုကျူးလွန် တန်ရာသည်ကို သိလျက်နှင့်သော်၎င်း မည်သူမဆို၊ ဘေးသင့်စေလိုသော သဘောဖြင့်ဖြစ်စေ၊ ရမ်းကားလိုသော သဘောဖြင့်ဖြစ်စေ ဥပဒေနှင့် မညီသော အရာတခုကို ပြုခြင်းအားဖြင့် တဦးတယောက်သောသူကို ရန်စလျှင်၊ ထိုသို့ရန်စခြင်းကြောင့် ရှန်းရင်းဆန်ခတ်မှုကို ကျူးလွန်ခဲ့သော်၊ ထိုသူကို

**ရှန်းရင်းဆန်ခတ်မှုကိုကျူး လွန်ခဲ့သော်။**

တနှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ရှန်းရင်းဆန်ခတ်မှုကို မကျူးလွန်ခဲ့သော်၊ ထိုသူကို ခြောက်လထိ ထောင်ဒဏ်တမျိုးမျိုး

**မကျူးလွန်ခဲ့သော်။**

ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**အမျိုးအစား တခုနှင့် တခု ရန်ငြိုး ထားစေရန် အားပေး အားမြှောက်ပြုခြင်း။**

၁၅၃-က။ ။မည်သူမဆို၊ နှုတ်ဖြင့်ဖြစ်စေ၊ စာဖြင့်ဖြစ်စေ၊ အမှတ်အသားဖြင့် ဖြစ်စေ၊ ထင်ရှားသော ပုံသဏ္ဌာန်ဖြင့်ဖြစ်စေ၊ အခြားနည်းဖြင့်ဖြစ်စေ၊ ပြည်ထောင်စု မြန်မာနိုင်ငံတွင် နေထိုင်သူ အမျိုးအစားတခုနှင့် တခု ရန်ငြိုးစိတ်ထားအောင်သော်၎င်း၊မုန်းတီးစိတ်ထားအောင်သော်၎င်း အားပေးအားမြှောက်ပြုလျှင်၊သို့တည်းမဟုတ် ထိုသို့ အားပေးအားမြှောက်ပြုရန် အားထုတ်လျှင်၊ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ရှင်းလင်းချက်။ ။ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင်နေထိုင်သူ အမျိုးအစားတခုနှင့် တခု ရန်ငြိုးစိတ်ထားခြင်းကိုဖြစ်စေ၊ မုန်းတီးစိတ်ထားခြင်းကိုဖြစ်စေဖြစ်ပေါ်စေသော၊ သို့တည်းမဟုတ် ဖြစ်ပေါ်စေတတ်သော အကြောင်းများကို ဖယ်ရှားရန်အလို့ငှါ မသမာသော ကြံရွယ်ချက် မရှိသည့်ပြင် ရိုးဖြောင့်သောသဘောဖြင့် ထိုအကြောင်းများကို ထုတ်ပေါ်ခြင်းသည် ဤပုဒ်မအရ ပြစ်မှုမမြောက်။

**ဥပဒေနှင့် ဆန့်ကျင်သော အစုအဝေး စုဝေးရာ မြေကို ပိုင်သူ၊ သို့တည်းမဟုတ် လက်ရှိ အသုံးပြုနေသူ။**

၁၅၄။ ။မြေရာတခုတွင် ဥပဒေနှင့်ဆန့်ကျင်သော စုဝေးမှုကိုဖြစ်စေ၊ရှန်းရင်း ဆန်ခတ်မှုကိုဖြစ်စေ၊ ကျူးလွန်သောအခါ၊ထိုမြေကိုပိုင်သူကသော်၎င်း၊ ထိုမြေကို လက်ရှိအသုံးပြုနေသူကသော်၎င်း၊ ထိုမြေ၌အကျိုးခံစားခွင့်ရှိသူကသော်၎င်း၊ ထိုမြေ၌ အကျိုးခံစားခွင့်ရှိထိုက်ကြောင်း ပြောဆိုသူကသော်၎င်း၊ ထိုသူတဦးဦး၏ ကိုယ်စားလှယ်ကသော်၎င်း၊ ထိုသူတဦးဦး၏ မန်နေဂျာကသော်၎င်း—

(က) ထိုပြစ်မှု ကျူးလွန်နေကြောင်းကိုဖြစ်စေ၊ ကျူးလွန်ပြီးကြောင်းကို ဖြစ်စေ သိလျက်နှင့်၊ သို့တည်းမဟုတ် ကျူးလွန်တန်ရာသည်ကိုယုံကြည်ရန်အကြောင်း ရှိလျက်နှင့် ထိုအကြောင်းကို မိမိတတ်စွမ်းသမျှ လျင်မြန်နိုင်သမျှ လျင်မြန်စွာ အနီးဆုံးရဲဌာနသို့ အကြီးအကဲအရာရှိထံ မတိုင်ကြားလျှင်၊

(ခ) ထိုပြင် ထိုပြစ်မှုကျူးလွန်အံ့ဆဲဆဲဖြစ်ကြောင်းယုံကြည်ရန် အကြောင်းရှိလျက်နှင့် တားဆီးရန် ဥပဒေနှင့်ညီသော နည်းအမျိုးမျိုးကို မိမိတတ်စွမ်းသမျှ အသုံးမပြုလျှင်၊

(ဂ) ထိုပြင် ကျူးလွန်သောအခါတွင်လည်း ရှုန်းရင်းဆန်ခတ်ဖြစ်ခြင်းကို ဖြစ်စေ၊ ဥပဒေနှင့် ဆန့်ကျင်သော ထိုအစုအဝေးကိုဖြစ်စေ လူစုခွဲရန်သော်၎င်း၊နှိမ်နင်းရန်သော်၎င်း ဥပဒေနှင့်ညီသော နည်းအမျိုးမျိုးကိုမိမိတတ်စွမ်းသမျှအသုံးမပြုလျှင်၊

အဆိုပါ မြေပိုင်သူကို၊ သို့တည်းမဟုတ် မြေကိုလက်ရှိ အသုံးပြုနေသူကို၊ သို့တည်းမဟုတ်မြေ၌ အကျိုးခံစားခွင့်ရှိသူကို၊ သို့တည်းမဟုတ် မြေ၌ဆိုင်ရာ ဆိုင်ခွင့်ရှိကြောင်း၊ ပြောဆိုသူကို တထောင်ထက်မပိုသော ငွေဒဏ်ချမှတ်ရမည်။

တဦး တယောက် သော သူ၏အကျိုးငှါ၊ ရှုန်းရင်းဆန်ခတ်မှု ကျူးလွန်သည့် အဘွက်၊ ထိုသူ၏ တာဝန်။

၁၅၅။ ။ရှုန်းရင်းဆန်ခတ်ဖြစ်ပွါးရာ မြေကိုပိုင်သူ၏၊သို့တည်းမဟုတ် ထိုမြေကို လက်ရှိအသုံးပြုနေသူ၏၊ သို့တည်းမဟုတ် ထိုမြေ၌သော်၎င်း၊ ရှုန်းရင်းဆန်ခတ်ဖြစ်စေသော အငြင်းပွါးမှုဆိုင်ရာအကြောင်း ပစ္စည်း၌သော်၎င်း အကျိုးခံစားခွင့်ရှိထိုက်ကြောင်း ပြောဆိုသူ၏၊ သို့တည်းမဟုတ် ထိုရှုန်းရင်းဆန်ခတ်မှုမှအကျိုးကိုလက်ခံခြင်းသော်၎င်း၊ ရယူခြင်းသော်၎င်း ပြုသူ၏အကျိုးငှါဖြစ်စေ၊ ထိုသူတဦးဦး အတွက်ဖြစ်စေ ရှုန်းရင်းဆန်ခတ်မှုကို ကျူးလွန်သောအခါ၊ ထိုသူတဦးဦးကသော်၎င်း၊ထိုသူတဦးဦး၏ ကိုယ်စားလှယ်ကသော်၎င်း၊ ထိုသူတဦးဦး၏ မန်နေဂျာကသော်၎င်း ထိုရှုန်းရင်းဆန်ခတ်မှုကျူးလွန်တန်ရာသည်ကိုဖြစ်စေ၊ ထိုရှုန်းရင်းဆန်ခတ်မှုကို ကျူးလွန်သောဥပဒေနှင့် ဆန့်ကျင်သည့် အစုအဝေးစုဝေးတန်ရာသည်ကိုဖြစ်စေ ယုံကြည်ရန်အကြောင်းရှိလျက်နှင့် ထိုအစုအဝေးကို မစုဝေးဖြစ်အောင်သော်၎င်း၊ ထိုရှုန်းရင်းဆန်ခတ်မှုကို မဖြစ်အောင်သော်၎င်း တားဆီးရန်၊ထိုပြင်ထိုအစုအဝေးကိုဖြစ်စေ၊ထိုရှုန်းရင်းဆန်ခတ်ဖြစ်ခြင်းကိုဖြစ်စေနှိမ်နင်းရန်နှင့် လူစုခွဲရန်၊ ဥပဒေနှင့်ညီသော နည်းအမျိုးမျိုးကို မိမိတတ်စွမ်းသမျှအသုံးမပြုလျှင်၊ထိုမြေပိုင်သူကို၊ သို့တည်းမဟုတ် ထိုမြေကိုလက်ရှိအသုံးပြုနေသူကို၊ သို့တည်းမဟုတ်ထိုမြေ၌သော်၎င်း၊ ရှုန်းရင်းဆန်ခတ်ဖြစ်စေသော အငြင်းပွါးမှုဆိုင်ရာ အကြောင်းပစ္စည်း၌သော်၎င်း အကျိုးခံစားခွင့်ရှိထိုက်ကြောင်း ပြောဆိုသူကို၊ သို့တည်းမဟုတ် ထိုရှုန်းရင်းဆန်ခတ်မှုမှ အကျိုးကို လက်ခံခြင်းဖြစ်စေ၊ ရယူခြင်းဖြစ်စေ ပြုသူကို ငွေဒဏ်ချမှတ်ရမည်။

ပိုင်သူ၏၊ သို့တည်း မဟုတ် လက်ရှိ အသုံးပြုနေသူ၏ အကျိုးငှါ၊ ရှုန်းရင်း ဆန်ခတ်မှု ကျူးလွန်သည့် အတွက် ကိုယ်စားလှယ်၏တာဝန်။

၁၅၆။ ။ရှုန်းရင်းဆန်ခတ်ဖြစ်ပွါးရာ မြေကိုပိုင်သူ၏၊သို့တည်းမဟုတ် ထိုမြေကို လက်ရှိအသုံးပြုနေသူ၏၊ သို့တည်းမဟုတ် ထိုမြေ၌သော်၎င်း၊ ရှုန်းရင်းဆန်ခတ်ဖြစ်စေသော အငြင်းပွါးမှုဆိုင်ရာ အကြောင်းပစ္စည်း၌သော်၎င်း အကျိုးခံစားခွင့်ရှိထိုက်ကြောင်း ပြောဆိုသူ၏၊ သို့တည်းမဟုတ် ထိုရှုန်းရင်းဆန်ခတ်မှုမှအကျိုးကိုလက်ခံခြင်းသော်၎င်း၊ ရယူခြင်းသော်၎င်း ပြုသူ၏ အကျိုးငှါဖြစ်စေ၊ ထိုသူတဦးဦး အတွက်ဖြစ်စေ ရှုန်းရင်းဆန်ခတ်မှုကို ကျူးလွန်သောအခါ၊ ထိုသူတဦးဦး၏ ကိုယ်စားလှယ်က သော်၎င်း၊ ထိုသူတဦးဦး၏ မန်နေဂျာကသော်၎င်း ထိုရှုန်းရင်းဆန်ခတ်မှုကျူးလွန်တန်ရာသည်ကိုဖြစ်စေ၊ ထိုရှုန်းရင်းဆန်ခတ်မှုကိုကျူးလွန်သော

ဥပဒေနှင့်ဆန့်ကျင်သည့် အစုအဝေး စုဝေးတန်ရာသည်ကို ဖြစ်စေယုံကြည်ရန် အကြောင်းရှိလျက်နှင့်ထိုအစုအဝေးကိုမစုဝေးဖြစ်အောင်သော်၎င်း၊ထိုရှုန်းရင်းဆန်ခတ်မှုကို မဖြစ်အောင်သော်၎င်း တားဆီးရန်၊ ထို့ပြင် ထိုအစုအဝေးကိုဖြစ်စေ၊ထိုရှုန်းရင်းဆန်ခတ်ဖြစ်ခြင်းကို ဖြစ်စေ နှိမ်နင်းရန်နှင့် လူစုခွဲရန် ဥပဒေနှင့်ညီသော နည်းအမျိုးမျိုးကို မိမိတတ်စွမ်းသမျှ အသုံးမပြုလျှင်၊ ထိုကိုယ်စားလှယ်ကို၊ သို့တည်းမဟုတ် ထိုမန်နေဂျာကိုငွေဒဏ်ချမှတ်ရမည်။

**ဥပဒေနှင့် ဆန့်ကျင်သော အစုအဝေးအတွက် ငှါးရမ်းခြင်းခံရသူကို လက်သင့်ခံခြင်း။**

၁၅၇။ ။ဥပဒေနှင့် ဆန့်ကျင်သောအစုအဝေးတွင်ပါဝင်ရန်၊သို့တည်းမဟုတ် အစုအဝေးဝင်ဖြစ်ရန် ငှါးရမ်းခြင်းခံရသော၊ သို့တည်းမဟုတ် ရယူခြင်းခံရသော၊ သို့တည်းမဟုတ် စေခိုင်းခြင်းခံရသော၊ သို့တည်းမဟုတ် ငှါးရမ်းခြင်းဖြစ်စေ၊ ရယူခြင်းဖြစ်စေ၊ စေခိုင်းခြင်းဖြစ်စေ ခံရမည့်ဆဲဆဲဖြစ်သော သူများ ဖြစ်ကြောင်းသိလျက်နှင့် မည်သူမဆို၊ မိမိလက်ရှိအသုံးပြုနေသော၊ သို့တည်းမဟုတ် ထိန်းသိမ်းနေသော၊ သို့တည်းမဟုတ် အုပ်ချုပ်နေသော အိမ်၌ဖြစ်စေ၊ ဥယျာဉ်၌ဖြစ်စေ ထိုသူများကိုလက်သင့်ခံလျှင်၊ သို့တည်းမဟုတ် လက်ခံလျှင်၊ သို့တည်းမဟုတ် စုဝေးစေလျှင်၊ထိုသူကို ခြောက်လထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ဥပဒေ နှင့် ဆန့်ကျင်သော အစုအဝေး၌၊ သို့တည်း မဟုတ် ရုန်းရင်းဆန်ခတ်ပြုမှု၌ ပါဝင်စေရန်သော်၎င်း၊ လက်နက်ဆောင်လျက် သွားရန်သော်၎င်း၊ အငှါးခံခြင်း။**

၁၅၈။ ။မည်သူမဆို၊ ပုဒ်မ ၁၄၁ တွင်သီးခြားဖေါ်ပြထားသောပြုလုပ်မှု တခုခုကိုပြုရန်ဖြစ်စေ၊ ပြုရာတွင် ကူညီရန်ဖြစ်စေ ရယူခြင်းသော်၎င်း၊ ငှါးရမ်းခြင်းသော်၎င်း ခံလျှင်၊ သို့တည်းမဟုတ် ငှါးရမ်းခံရခြင်းအတွက်သော်၎င်း၊ ရယူခံရခြင်း အတွက် သော်၎င်း ကမ်းလှမ်းလျှင်၊ သို့တည်းမဟုတ်၊ အားထုတ်လျှင်၊ ထိုသူကိုခြောက်လထိထောင်ဒဏ်တမျိုးမျိုး ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

ထို့ပြင် အထက်ဆိုခဲ့သည့်အတိုင်း ရယူခြင်းကိုသော်၎င်း၊ငှါးရမ်းခြင်းကိုသော်၎င်း ခံသူက၊ သေစေလောက်သော လက်နက်တခုခုကိုဖြစ်စေ၊ရန်မူသော လက်နက်အဖြင့်ဖြင့် အသုံးပြုလျှင် သေစေတန်ရာသော အရာဝတ္ထုတခုခုကိုဖြစ်စေ ဆောင်လျက်သွားလျှင်၊ သို့တည်းမဟုတ် ထိုသို့ဆောင်လျက်သွားရန် ကမ်းလှမ်းလျှင်၊ သို့တည်းမဟုတ် ထိုသို့ ဆောင်လျက်သွားရန် တာဝန်ယူလျှင်၊ထိုသူကိုနှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေချမှတ်ရမည်။

**သတ်ပုတ်နှောင့်ယှက်မှု။**

၁၅၉။ ။နှစ်ဦး၊ သို့တည်းမဟုတ်နှစ်ဦးထက်ပိုသောသူများသည် ပြည်သူတို့နှင့်ဆိုင်သောနေရာတွင် သတ်ပုတ်ခြင်းဖြင့် ငြိမ်ဝပ်ရေးကို နှောင့်ယှက်လျှင်၊ ထိုသူတို့သည်၊ " သတ်ပုတ်နှောင့်ယှက်မှု " ကို ကျူးလွန်သည်မည်၏။

**သတ်ပုတ် နှောင့် ယှက်မှု ကျူးလွန်ခြင်း အတွက် ပြစ်ဒဏ်။**

၁၆၀။ ။မည်သူမဆို၊ သတ်ပုတ် နှောင့် ယှက်မှုကို ကျူးလွန်လျှင်၊ ထိုသူကို တလထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ တရာထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

## အခန်း ၉။

## ပြည်သူ့ဝန်ထမ်းတို့ ကျူးလွန်သော၊ သို့တည်းမဟုတ် ပြည်သူ့ဝန်ထမ်းတို့နှင့် သက်ဆိုင်သော ပြစ်မှုများ။

ပြည်သူ့ဝန်ထမ်းက၊ ရာထူးဆိုင်ရာ ပြုလုပ်မှု တခုခုအတွက်၊ ဥပဒေနှင့် ညီသော အခကြေးငွေမှတပါး၊ အခြားတံစိုးကိုယူခြင်း။

၁၆၁။ ။ပြည်သူ့ဝန်ထမ်းဖြစ်သူ တဦးဦးကသော်၎င်း၊ ပြည်သူ့ဝန်ထမ်းဖြစ်မည် ကို မြော်လင့်သူတဦးဦးကသော်၎င်း—

(က) ရာထူးဆိုင်ရာ ပြုလုပ်မှုတခုခုကိုပြုရန်၊ သို့တည်းမဟုတ် ထိုသို့ ပြုခြင်းမှရှောင်ရန်၊သို့တည်းမဟုတ်

(ခ) မိမိ၏ရာထူးအလျောက် အလုပ်ပတ်တရား ဆောင်ရွက်ရာတွင်လူတဦးတယောက်အားမျက်နှာလိုက်ရန်၊ သို့တည်းမဟုတ် နှိမ်ရန်၊ သို့တည်းမဟုတ်

မျက်နှာလိုက်ခြင်းမှုဖြစ်စေ၊ နှိမ်ခြင်းမှု ဖြစ်စေရှောင်ရန်၊ သို့တည်းမဟုတ်

(ဂ) ဥပဒေပြုအဖွဲ့ထံတွင်ဖြစ်စေ၊ အစိုးရထံတွင်ဖြစ်စေ၊ပြည်သူ့ဝန်ထမ်း တဦးဦးထံတွင်ဖြစ်စေ လူတဦးတယောက်အတွက် ကောင်းကျိုးကိုသော်၎င်း၊မကောင်းကျိုးကိုသော်၎င်းပြုရန်၊ သို့တည်းမဟုတ်ထိုသို့ပြုခြင်းကို အားထုတ်ရန် ဥပဒေနှင့်ညီသော အခကြေးငွေမှတပါးအခြား တံစိုးကိုရည်ရွယ်ချက်အဖြစ်ဖြင့်ဖြစ်စေ၊ ဆုလာဘ်အဖြစ်ဖြင့်ဖြစ်စေ မိမိအတွက်သော်၎င်း၊ သူတပါးအတွက်သော်၎င်း၊ လူတဦးတယောက်ထံမှ လက်ခံလျှင်၊ သို့တည်းမဟုတ်ရယူလျှင်၊ သို့တည်းမဟုတ် လက်ခံရန် သဘောတူလျှင်၊သို့တည်းမဟုတ် ရယူရန် အားထုတ်လျှင်၊

ထိုသူကို သုံးနှစ်ထိ‌ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေချမှတ်ရမည်။

**ရှင်းလင်းချက်များ။** ။"ပြည်သူ့ဝန်ထမ်းဖြစ်မည်ကိုမြော်လင့်သူ"။ တဦးတယောက်သောသူသည် ရာထူးတခုခုရမည်ဟု မြော်လင့်ရန်မရှိဘဲ တပါးသူတို့အား ရာထူးရတော့မည်ဖြစ်ကြောင်း ထိုသို့ရရှိကာလ ထိုသူတို့၏ လိုအင်ကိစ္စကို ဆောင်ရွက်ပေးမည် ဖြစ်ကြောင်း ယုံကြည်အောင် လှည့်ဖြား၍ တံစိုးကိုရယူလျှင်၊ ထိုသူသည် လိမ်လည်မှုကို ကျူးလွန်ရာရောက်နိုင်သည်။ သို့ရာတွင် ဤပုဒ်မ၌ပေါ်ပြထားသော ပြစ်မှုကိုကျူးလွန်ရာ မရောက်။

"တံစိုး"။ ငွေကြေးကိုသာ၊ သို့တည်းမဟုတ် ငွေကြေးနှင့် တန်ဘိုးခန့်မှန်းနိုင်သောအရာကိုသာ ဆိုလိုသည်မဟုတ်။

"ဥပဒေနှင့်ညီသော အခကြေးငွေ"။ ပြည်သူ့ဝန်ထမ်းတဦးက ဥပဒေနှင့်အညီတောင်းခံနိုင်သော အခကြေးငွေကိုသာ ဆိုလိုသည်မဟုတ်၊ ခံယူရန် အစိုးရကခွင့်ပြုသောအခကြေးငွေအရပ်ရပ်ကိုလည်း အပါအဝင်ပြု၍ ဆိုလိုသည်။

"ဆောင်ရွက်ခြင်းအတွက် ရည်ရွယ်ချက်၊ သို့တည်းမဟုတ် ဆုလာဘ်"။ တဦးတယောက်သောသူသည် ပြုရန်မိမိမကြံရွယ်သည့်ကိစ္စအတွက် မိမိအားပြုစေရန် ရည်ရွယ်ချက်အဖြစ်ဖြင့်ပေးသော တံစိုးကိုခံယူလျှင်၊ သို့တည်းမဟုတ်ကိစ္စတခုခုကို မိမိမပြုခဲ့သော်လည်း၊ ထိုကိစ္စ

အတွက် ဆုလာဘ်အဖြစ်ဖြင့်၊ တံစိုးကိုခံယူလျှင်၊ ထိုသူသည် အထက်ပါစကား၏ သဘော အဓိပ္ပါယ်တွင် သက်ဝင်ကျရောက်သည်။

**ဥပမာများ။**

(က) ရာဇဝတ်တရားသူကြီး ဦးဖြူသည် ဘဏ်တိုက်စိုး မောင်မဲကိုအနိုင်ပေး၍အမှုတမှုကို စီရင်ဆုံးဖြတ်လိုက်သည့်အတွက်၊ ဆုလာဘ်အဖြစ်ဖြင့် မောင်မဲ၏ ဘဏ်တိုက်တွင်မိမိ၏ညီအား အလုပ်တခုကိုရရှိစေရာ၊ ဦးဖြူသည် ဤပုဒ်မတွင် ဖေါ်ပြထားသော ပြစ်မှုကိုကျူးလွန်ရာ ရောက်သည်။

(ခ) • • • •

(ဂ) အစိုးရထံမှ မောင်မဲ ဘွဲ့တံဆိပ်ရသည်ကို၊ ပြည်သူ့ဝန်ထမ်း ဦးဖြူက အစိုးရထံ မိမိက အကျိုးဆောင်ပေးသောကြောင့်သာ မောင်မဲ ဤကဲ့သို့ ဘွဲ့တံဆိပ်ချီးမြှင့်ခြင်းခံရကြောင်းကို မောင်မဲထံမှဆုလာဘ်အဖြစ်ဖြင့် ငွေကြေးရအောင် မဟုတ်မမှန်ပြောဆိုသွေးဆောင်၏။ ဦးဖြူသည် ဤပုဒ်မတွင်ဖေါ်ပြထားသော ပြစ်မှုကိုကျူးလွန်ရာ ရောက်သည်။

**ပြည်သူ့ဝန်ထမ်းကို တရားမဲ့သော၊ သို့တည်းမဟုတ်ဥပဒေနှင့် မညီသောနည်းဖြင့် သွေးဆောင်ရန် တံစိုးယူခြင်း။**

၁၆၂။ ။မည်သူမဆို၊ ပြည်သူ့ဝန်ထမ်း တဦးဦးအား၊ (က) ရာထူးဆိုင်ရာ ပြုလုပ်မှုတခုကို ပြုစေရန်၊ သို့တည်းမဟုတ် ထိုသို့ပြုခြင်းမှ ရှောင်စေရန်၊ သို့တည်းမဟုတ် (ခ) ထိုပြည်သူ့ဝန်ထမ်း ရာထူးအလျောက် အလုပ်ဝတ်တရားကိုဆောင်ရွက်ရာတွင်၊ လူတဦးတယောက်အား မျက်နှာလိုက်စေရန်၊ သို့တည်းမဟုတ်နှိမ်စေရန်၊ သို့တည်းမဟုတ် (ဂ) ဥပဒေပြု အဖွဲ့ထံတွင်ဖြစ်စေ၊ အစိုးရထံတွင်ဖြစ်စေ၊ ပြည်သူ့ဝန်ထမ်း တဦးဦးထံတွင်ဖြစ်စေ လူတဦးတယောက်အတွက် ကောင်းကျိုးကိုသော်၎င်း၊ မကောင်းကျိုးကိုသော်၎င်း ပြုစေရန်၊ သို့တည်းမဟုတ် ထိုသို့ပြုခြင်းကို အားထုတ်စေရန် တရားမဲ့သော၊ သို့တည်းမဟုတ် ဥပဒေနှင့်မညီသော နည်းလမ်းဖြင့်သွေးဆောင်သည့်အတွက် တံစိုးကို ရည်ရွယ်ချက်အဖြစ်ဖြင့်ဖြစ်စေ၊ ဆုလာဘ်အဖြစ်ဖြင့်ဖြစ်စေ မိမိအတွက်သော်၎င်း၊ သူတပါးအတွက်သော်၎င်း လူတဦးတယောက်ထံမှ လက်ခံလျှင်၊ သို့တည်းမဟုတ် ရယူလျှင်၊ သို့တည်းမဟုတ် လက်ခံရန်သဘောတူလျှင်၊ သို့တည်းမဟုတ် ရယူရန်အားထုတ်လျှင် ထိုသူကို သုံးနှစ်ထိထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ပြည်သူ့ဝန်ထမ်းအပေါ်၌ မိမိ၏ဩဇာကို အသုံးပြုသည့်အတွက်၊ တံစိုးယူခြင်း။**

၁၆၃။ ။မည်သူမဆို၊ ပြည်သူ့ဝန်ထမ်း တဦးဦးအား၊ (က) ရာထူးဆိုင်ရာ ပြုလုပ်မှုတခုကိုပြုစေရန်၊ သို့တည်းမဟုတ် ထိုသို့ပြုခြင်းမှ ရှောင်စေရန်၊ သို့တည်းမဟုတ် (ခ) ထိုပြည်သူ့ဝန်ထမ်း၏ ရာထူးအလျောက် အလုပ်ဝတ်တရားကို ဆောင်ရွက်ရာတွင် လူတဦး တယောက်အား မျက်နှာလိုက်စေရန်၊ သို့တည်းမဟုတ် နှိမ်စေရန်၊ သို့တည်းမဟုတ် (ဂ) ဥပဒေပြုအဖွဲ့ထံတွင်ဖြစ်စေ၊ အစိုးရထံတွင်ဖြစ်စေ၊ ပြည်သူ့ဝန်ထမ်းတဦးဦးထံတွင်ဖြစ်စေ လူတဦးတယောက်အတွက်ကောင်းကျိုးကိုသော်၎င်း၊မကောင်းကျိုးကိုသော်၎င်းပြုစေရန်၊ သို့တည်းမဟုတ်ထိုသို့ပြုခြင်းကို အားထုတ်စေရန်ဩဇာတိက္ကမကိုသုံး၍သွေးဆောင်သည့် အတွက် တံစိုးကို ရည်ရွယ်ချက်အဖြစ်ဖြင့်ဖြစ်စေ၊ ဆုလာဘ်အဖြစ်ဖြင့်ဖြစ်စေ မိမိအတွက်သော်၎င်း၊ သူတပါးအတွက်သော်၎င်း လူတဦးတယောက်ထံမှ လက်ခံလျှင်၊ သို့တည်းမဟုတ် ရယူလျှင်၊

သို့တည်းမဟုတ် လက်ခံရန်သဘောတူလျှင်၊ သို့တည်းမဟုတ် ရယူရန်အားထုတ်လျှင် ထိုသူကို သုံးနှစ်အထိ အလုပ်မဲ့ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဥပမာ။

တရားသူကြီးရှေ့တွင် အမှုတခုကို လျှောက်လဲပြောဆိုသည့်အတွက် အခကြေးငွေ ရရှိသူ ရှေ့နေ၊ အစိုးရထံ အကျိုးအကြောင်းပေါ်ပြ၍ အသနားလွှာ စီစဉ်ပြုပြင်ပေးသည့်အတွက် အခကြေးငွေရရှိသူ၊ ရာဇဝတ်ပြစ်ဒဏ်သင့်သူ တဦးကိုယ်စား ထိုသူအပေါ်၌ ပြစ်ဒဏ်စီရင်ခြင်းသည် မတရားကြောင်းအစိုးရထံ၌တင်ပြသည့်အတွက် အခကြေးငွေရရှိသူ၊ ထိုသူတို့သည် မိမိတို့၏ ဩဇာကိုအသုံးမပြုသဖြင့်၊ သို့တည်းမဟုတ် ထိုသို့အသုံးပြုကြောင်းကို ထုတ်ပေါ်ပြောဆိုခြင်းမပြုသဖြင့်၊ ထိုသူများသည် ဤပုဒ်မသဘောတွင် သက်ရောက်ပါဝင်ခြင်းမရှိ။

ပုဒ်မ ၁၆၂၊ ၁၆၃ များတွင် ပေါ်ပြထားသော ပြစ်မှုများကို ကျူးလွန်ရာ၌ ပြည်သူ့ဝန်ထမ်းက အားပေး ကူညီသည့်အတွက်ပြစ်ဒဏ်။

၁၆၄။ ။ပြည်သူ့ဝန်ထမ်း တဦးနှင့်စပ်လျဉ်း၍၊ တဆက်တည်းဖြစ်သော အထက်ပုဒ်မနှစ်ခုတွင် ပေါ်ပြထားသည့် ပြစ်မှုတခုခုကို ကျူးလွန်ရာ၌ ထိုပြည်သူ့ဝန်ထမ်း ဖြစ်သူက ထိုပြစ်မှုကို အားပေးကူညီလျှင် ထိုပြည်သူ့ဝန်ထမ်းကို သုံးနှစ်ထိထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဥပမာ။

ပြည်သူ့ဝန်ထမ်း ဦးဖြူ၏ မယား မမဲသည် တဦး တယောက်သောသူအား ရာထူးပေးစေရန် ဦးဖြူအား ပြောဆိုတောင်းပန်သည့်အတွက် ထိုသူ့ထံမှ လက်ဆောင်တခုခုကို ရရှိ၏။ ဦးဖြူသည် မမဲကို အားပေးကူညီ၏။ ဤအမှုတွင် မမဲသည် တနှစ်ထိ ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ခြင်းခံထိုက်သည်။ ဦးဖြူသည် သုံးနှစ်ထိ ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ခြင်းခံထိုက်သည်။

ပြည်သူ့ ဝန်ထမ်း သည်၊ မိမိဆောင်ရွက်သည့် မှုခင်းကိစ္စနှင့်၊ သို့တည်း မဟုတ် လုပ်ငန်းနှင့် သက်ဆိုင်သူတို့ထံမှ၊ အဘိုးစားနားမပေးဘဲ အဘိုးတန် ပစ္စည်းကို ရယူခြင်း။

၁၆၅။ ။ပြည်သူ့ဝန်ထမ်းဖြစ်သူ တဦးဦးက၊ (က) မိမိဆောင်ရွက်သော၊ သို့တည်းမဟုတ် ဆောင်ရွက်အံ့ဖြစ်သော မှုခင်းကိစ္စနှင့်ဖြစ်စေ၊ လုပ်ငန်းနှင့်ဖြစ်စေ သက်ဆိုင်သူဖြစ်ခဲ့ကြောင်း၊ သို့တည်းမဟုတ် ဖြစ်ကြောင်း၊ သို့တည်းမဟုတ် ဖြစ်တန်ရာကြောင်း မိမိသိသော သူထံမှဖြစ်စေ၊ (ခ) မိမိ၏ ရာထူးဆိုင်ရာ အလုပ်ဝတ်တရားနှင့်၊ သို့တည်းမဟုတ် မိမိ၏အထက်အရာရှိ ပြည်သူ့ဝန်ထမ်း၏ ရာထူးဆိုင်ရာ အလုပ်ဝတ်တရားနှင့် အဆက်အသွယ်ရှိသော သူထံမှဖြစ်စေ၊ (ဂ) အဆိုပါသက်ဆိုင်ရာ ပုဂ္ဂိုလ်၌ အကျိုးလိုလားခြင်းရှိကြောင်း၊ သို့တည်းမဟုတ် ထိုပုဂ္ဂိုလ်နှင့် ဆွေမျိုးတော်စပ်ကြောင်း၊မိမိသိသော သူထံမှဖြစ်စေ အဘိုးစားနားမပေးဘဲ၊ သို့တည်းမဟုတ် မလုံလောက်ဟု မိမိသိသောအဘိုးစားနားကိုပေးလျက်မိမိအတွက်ဖြစ်စေ၊ သူတပါးအတွက်ဖြစ်စေ၊ အဘိုးတန်ပစ္စည်းကို လက်ခံလျှင်၊သို့တည်းမဟုတ်ရယူလျှင်၊ သို့တည်းမဟုတ် လက်ခံရန်သဘောတူလျှင်၊ သို့တည်းမဟုတ် ရယူရန်အားထုတ်လျှင် ထိုသူကို နှစ်နှစ်ထိအလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဥပမာများ။

(က) ကော်လိတ်တော်အရာရှိ ဦးဖြူ သည် မိမိရုံး၌ မောင်မဲ၏ မြေခွန်တော်မှု မပြီး မပြတ်မီအတွင်း၊ သဘောရိုးဖြင့် ငှါးပါက တလလျှင် အိမ်လခငွေ နှစ်ရာ ပေးရမည့်အိမ်ကို မောင်မဲထံမှ တလလျှင်အိမ်လခ ငွေငါးဆယ်နှင့် သဘောတူ ငှါးရမ်း၏။ ဤအမှုတွင် ဦးဖြူသည် ထိုက်တန်လုံလောက်သော အဘိုးစားနားမပေးဘဲ မောင်မဲထံမှ အဘိုးတန်ပစ္စည်း ကို ရယူသည်မည်၏။

(ခ) တရားသူကြီး ဦးဖြူသည် မိမိရုံးတွင် မောင်မဲ၏အမှု မပြီးမပြတ်မီအတွင်း၊ အစိုးရငွေပေး ကတိစာချုပ်များကို သတ်မှတ်ထားသော တန်ဘိုးထက် ပိုသောဈေးဖြင့် အရောင်းအဝယ် ဖြစ်နေစဉ်အခါ၊ မောင်မဲထံမှ ထိုသတ်မှတ်ထားသော တန်ဘိုးအောက် လျော့၍ဝယ်ယူ၏။ ဤအမှုတွင် ဦးဖြူသည် လုံလောက်သော အဘိုးစားနား မပေးဘဲ မောင်မဲထံမှ အဘိုးတန်ပစ္စည်းကို ရယူသည်မည်၏။

(ဂ) မောင်မဲ၏ညီကို မုသားသက်သေခံမှုဖြင့် ရာဇဝတ်တရားသူကြီး ဦးဖြူထံသို့ ဖမ်းဆီး၍ပို့၏။ ထိုအခါက ဘဏ်အစုရှယ်ယာများကို သတ်မှတ်ထားသောတန်ဘိုး အောက် လျော့သောဈေးဖြင့် အရောင်းအဝယ်ဖြစ်နေစဉ်၊ ဦးဖြူက သူ၏အစုရှယ်ယာများကို မောင်မဲ သို့ သတ်မှတ်ထားသော တန်ဘိုးထက်ပို၍ ရောင်းချ၏။ ဦးဖြူရသောငွေသည် လုံလောက် သော အဘိုးစားနားမပေးဘဲ ရရှိသော အဘိုးတန်ပစ္စည်းမည်၏။

ပြည်သူ့ ဝန်ထမ်းက တဦး တယောက်သောသူကို နစ်နာ စေရန် ကြံရွယ်၍၊ ဥပဒေကို ဖီဆန်ခြင်း။

၁၆၆။ ။ပြည်သူ့ဝန်ထမ်း ဖြစ်သူသည် ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့် လိုက်နာဆောင် ရွက်ရမည့် ဥပဒေ ညွှန်ကြားချက်ကို ဖီဆန်ခြင်းဖြင့်၊ တဦး တယောက်သောသူအား နစ်နာစေရန် အကြံနှင့်သော်၎င်း၊ နစ်နာစေတန်ရာသည်ကို သိလျက်နှင့်သော်၎င်း ထိုဥပဒေ ညွှန်ကြားချက်ကိုသိလျက်နှင့် ဖီဆန်လျှင်၊ ထိုသူကို တနှစ်ထိအလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေချမှတ် ရမည်။

ဥပမာ။

တရားရုံးက မောင်မဲသို့ အနိုင်ချပေးလိုက်သော ဒီကရီကို အတည်ဖြစ်အောင် ဇာရီပြု ရာတွင် ပစ္စည်းကို သိမ်းယူရမည့် ဥပဒေညွှန်ကြားချက်ကို လိုက်နာဆောင်ရွက်ရသူ အရာရှိ ဦးဖြူသည် မောင်မဲအား နစ်နာစေတန်ရာသည်ကို သိလျက်နှင့် ဥပဒေညွှန်ကြားချက်ကို ဖီဆန်၏။ ဦးဖြူသည် ဤပုဒ်မတွင် အဓိပ္ပါယ်ဖေါ်ပြထားသောပြစ်မှုကို ကျူးလွန်သည်မည် ၏။

ပြည်သူ့ဝန်ထမ်းက နစ်နာ စေရန် ကြံရွယ်၍ မမှန် သော စာတမ်းအမှတ်အသား ကိုပြုခြင်း။

၁၆၇။ ။ပြည်သူ့ဝန်ထမ်း တဦးလည်းဖြစ်၍၊ ပြည်သူ့ဝန်ထမ်းဖြစ်သည့်အတိုင်း စာ တမ်း အမှတ်အသားကို ပြုရန်ဖြစ်စေ၊ ဘာသာပြန်ရန်ဖြစ်စေ တာဝန် လွှဲအပ်ခြင်း ခံရသူလည်းဖြစ်သော ပုဂ္ဂိုလ်သည် တဦး တယောက်သောသူအား နစ်နာစေရန် ကြံရွယ်၍သော်၎င်း၊ နစ်နာစေတန်ရာသည်ကိုသိလျက်နှင့်သော်၎င်း ထိုစာတမ်း အမှတ် အသားကို မမှန်ဟု မိမိကသိသော၊ သို့တည်းမဟုတ် ယုံကြည်

ခံသာနည်းလမ်းဖြင့်ပြုလျှင်၊ သို့တည်းမဟုတ် ဘာသာပြန်လျှင် ထိုသူကိုသုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ပြည်သူ့ ဝန်ထမ်း သည် ဥပဒေ နှင့် ဆန့်ကျင်လျက်၊ စီးပွါးရေး လုပ်ငန်းကို လုပ်ကိုင်ခြင်း။

၁၆၈။ ။ပြည်သူ့ဝန်ထမ်း တဦးလည်းဖြစ်၍၊ ပြည်သူ့ဝန်ထမ်း ဖြစ်သည့်အတိုင်း စီးပွါးရေးလုပ်ငန်းကိုမလုပ်ကိုင်ရန် ဥပဒေ၏ ပိတ်ပင်တားမြစ်ခြင်းကိုခံရသူလည်းဖြစ်သော ပုဂ္ဂိုလ်သည် စီးပွါးရေးလုပ်ငန်းကို လုပ်ကိုင်လျှင်၊ ထိုသူကို တနှစ်ထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ပြည်သူ့ ဝန်ထမ်းသည် ဥပဒေနှင့် ဆန့်ကျင်လျက်၊ ပစ္စည်းကိုဝယ်ခြင်း၊ သို့တည်းမဟုတ် လေလံဆွဲခြင်း။

၁၆၉။ ။ပြည်သူ့ဝန်ထမ်းတဦးလည်းဖြစ်၍၊ ပြည်သူ့ဝန်ထမ်းဖြစ်သည့်အတိုင်း ပစ္စည်းတခုခုဝယ်ခြင်းကိုဖြစ်စေ၊ လေလံဆွဲခြင်းကိုဖြစ်စေ မပြုရန် ဥပဒေ၏ ပိတ်ပင်တားမြစ်ခြင်းကို ခံရသူလည်းဖြစ်သော ပုဂ္ဂိုလ်သည် မိမိ၏အမည်ဖြင့်သော်၎င်း၊ တပါးသူ၏အမည်ဖြင့်သော်၎င်း၊ အခြားသူနှင့် ပူးတွဲ၍သော်၎င်း၊ အခြားသူနှင့် အစုစပ်ပါဝင်၍သော်၎င်း ထိုပစ္စည်းကိုဝယ်လျှင်၊ သို့တည်းမဟုတ် လေလံဆွဲလျှင် ထိုသူကို နှစ်နှစ်ထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။ ထို့ပြင် ထိုဝယ်ပြီးဖြစ်သော ပစ္စည်းကို ဘဏ္ဍာတော်အဖြစ် သိမ်းယူရမည်။

ပြည်သူ့ ဝန် ထမ်း ယောင်ဆောင်ခြင်း။

၁၇၀။ ။မည်သူမဆို၊ ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့် ရာထူးတခုခု၌ မိမိမထမ်းမရွက်ကြောင်းသိလျက်နှင့် ထိုရာထူး၌ ထမ်းရွက်ဟန်ဆောင်ပြီးလျှင်၊ သို့တည်းမဟုတ် ရာထူးတခုခု၌ ထမ်းရွက်နေသော သူယောင်ဆောင်ပြီးလျှင် ပြည်သူ့ဝန်ထမ်း အယောင်ဆောင်အနေနှင့် ထိုရာထူးနှင့် စပ်လျဉ်း၍ ပြုလုပ်မှုတခုကိုပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့ပြုရန် အားထုတ်လျှင် ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ပြည်သူ့ ဝန်ထမ်းတို့ ဝတ်ဆင် ကိုင်ဆောင်သော အဝတ်တန်ဆာတို့ကို၊ သို့တည်းမဟုတ် အမှတ်အသားများကို လိမ်လည်လှည့်ဖြား လိုသော ကြံရွယ်ချက်နှင့် ဝတ်ဆင်ကိုင်ဆောင်ခြင်း။

၁၇၁။ ။ပြည်သူ့ဝန်ထမ်းအမျိုးအစား တခုခုတွင် ပါဝင်သူမဟုတ်ဘဲလျက်၊ ထိုပြည်သူ့ဝန်ထမ်းအမျိုးအစားတခုခုတွင် ပါဝင်သူဖြစ်ကြောင်း သူတပါးယုံကြည်စေရန် ကြံရွယ်ချက်နှင့်ဖြစ်စေ၊ သူတပါးယုံကြည်စေတန်ရာသည်ကို သိလျက်နှင့်ဖြစ်စေ မည်သူမဆို၊ ထိုပြည်သူ့ဝန်ထမ်းအမျိုးအစားတို့ ဝတ်ဆင် ကိုင်ဆောင်သော အဝတ်တန်ဆာနှင့်၊ သို့တည်းမဟုတ် အမှတ်အသားနှင့် သဏ္ဍာန်တူသော အဝတ်တန်ဆာကို၊ သို့တည်းမဟုတ် အမှတ်အသားကို ဝတ်ဆင်လျှင်၊ သို့တည်းမဟုတ် ကိုင်ဆောင်လျှင် ထိုသူကို သုံးလထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ နှစ်ရာထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

# အခန်း ၉-က။

## ရွေးကောက်ပွဲဆိုင်ရာပြစ်မှုများ။

၁၇၁-က။ ။ဤအခန်းပါ ကိစ္စများအလို့ငှါ—

အရွေးခံသူ၊ ရွေးကောက်မှု အခွင့်အရေး၊ အဓိပ္ပါယ်ဖော်ပြချက်။

(က) "အရွေးခံသူ" ဆိုသည်မှာ၊ ရွေးကောက်ပွဲအတွက်အရွေးခံသူ အဖြစ်ဖြင့်အမည်တင်သွင်းခြင်း ခံရသူကိုဆိုလိုသည်။ ထိုစကားရပ်၌၊ ရွေးကောက်ပွဲကျင်းပရန်စီစဉ်နေခိုက်တွင်၊ အရွေးခံသူအဖြစ်ဖြင့် ပါဝင်မည်ဟု ထုတ်ဖော်ပြောဆိုသောသူလည်း ပါဝင်သည်။ သို့ရာတွင် ထိုသူသည်ထိုသို့ ထုတ်ဖော်ပြောဆိုပြီးနောက် ရွေးကောက်ပွဲအတွက် အရွေးခံသူအဖြစ် အမည်တင်သွင်းခြင်း ခံရသူဖြစ်ရမည်။

(ခ) "ရွေးကောက်မှု အခွင့်အရေး" ဆိုသည်မှာ၊ ရွေးကောက်ပွဲတွင် အရွေးခံသူအဖြစ်ဖြင့် ပါဝင်ယှဉ်ပြိုင်နိုင်သော အခွင့်အရေး၊ သို့တည်းမဟုတ် မပါဝင်မယှဉ်ပြိုင်ဘဲ နေနိုင်သော အခွင့်အရေး၊ သို့တည်းမဟုတ် အရွေးခံသူအဖြစ်မှ နုတ်သိမ်းနိုင်သော အခွင့်အရေး၊ သို့တည်းမဟုတ် ရွေးကောက်ပွဲတွင် မဲပေးနိုင်သော အခွင့်အရေး၊ သို့တည်းမဟုတ် မဲမပေးဘဲ နေနိုင်သော အခွင့်အရေးကို ဆိုလိုသည်။

၁၇၁-ခ။ ။(၁) မည်သူမဆို —

လာဘ်ပေးယူမှု။

(က) ရွေးကောက်မှု အခွင့်အရေးကို သုံးစွဲစေရန် တဦးတယောက်ကိုသော်၎င်း၊ အခြားသူကိုသော်၎င်း သွေးဆောင်လိုသော ရည်ရွယ်ချက်ဖြစ်ဖြင့်စေ၊ ထိုအခွင့်အရေးကို သုံးစွဲခဲ့သည့်အတွက် ဆုလာဘ်ပေးလိုသော ရည်ရွယ်ချက်ဖြင့်ဖြစ်စေ ထိုသူအား တံစိုးပေးလျှင်၊ သို့တည်းမဟုတ်

(ခ) ထိုအခွင့်အရေးကို သုံးစွဲသည့်အတွက် ဆုလာဘ်အဖြစ်ဖြင့်၊ သို့တည်းမဟုတ် ထိုအခွင့်အရေးကို သုံးစွဲစေရန် အခြားသူတဦးကို သွေးဆောင်သည့်အတွက်၊ သို့တည်းမဟုတ် သွေးဆောင်ရန် အားထုတ်သည့်အတွက်၊ မိမိအဘို့ဖြစ်စေ၊ အခြားသူအဘို့ဖြစ်စေ တံစိုးကို လက်ခံလျှင်၊ ထိုသူသည် လာဘ်ပေးယူမှု ကျူးလွန်သည်။

သို့ရာတွင် ပြည်သူ့ဆိုင်ရာဝါဒကို ကြေညာခြင်းသည်၊ သို့တည်းမဟုတ် ပြည်သူ့ဆိုင်ရာလမ်းစဉ်ကို ကတိပြုခြင်းသည် ဤပုဒ်မအရ ပြစ်မှုကျူးလွန်ရာမရောက်။

(၂) တံစိုးပေးရန်ကမ်းလှမ်းလျှင်၊ သို့တည်းမဟုတ် သဘောတူလျှင်၊ သို့တည်းမဟုတ် တံစိုးကို သူတပါးရယူရန် ကမ်းလှမ်းလျှင်၊ သို့တည်းမဟုတ် အားထုတ်လျှင် ထိုသူသည် တံစိုးပေးသည်မည်၏။

(၃) တံစိုးကို ရယူလျှင်၊ သို့တည်းမဟုတ် လက်ခံရန် သဘောတူလျှင်၊ သို့တည်းမဟုတ် ရယူရန်အားထုတ်လျှင်၊ ထိုသူသည် တံစိုးကိုလက်ခံသည်မည်၏။ ပြုရန်မိမိမကြံရွယ်သော ကိစ္စအတွက် ပြုစေရန် ရည်ရွယ်ချက်အဖြစ်ဖြင့်ပေးသော တံစိုးကို လက်ခံလျှင်၊ သို့တည်းမဟုတ် ကိစ္စတခုကို မိမိမပြုခဲ့သော်လည်း ထိုကိစ္စအတွက် ဆုလာဘ်အဖြစ်ဖြင့် တံစိုးကို လက်ခံလျှင် ထိုသူသည် တံစိုးကို ဆုလာဘ်အဖြစ်ဖြင့် လက်ခံသည်မည်၏။

ရွေးကောက်ပွဲ၌ မလျော်သြဇာသုံးခြင်း။

၁၇၁-ဂ။ ။(၁) မည်သူမဆို၊ ရွေးကောက်ပွဲ တခုခု၌ ရွေးကောက်မှု အခွင့်အရေး လွတ်လပ်စွာ သုံးစွဲခြင်းကို မိမိအလိုအလျောက် နှောင့်ယှက်လျှင်၊ သို့တည်းမဟုတ် နှောင့်ယှက်ရန် မိမိအလိုအလျောက် အားထုတ်လျှင် ရွေးကောက်ပွဲ၌ မလျော်သြဇာသုံးမှုကို ကျူးလွန်သည်။

(၂) ပုဒ်မခွဲ (၁) ပါ ပြဋ္ဌာန်းချက်များ၏ ယေဘုယျသဘောကို မထိခိုက်စေဘဲ မည်သူမဆို—

(က) အရွေးခံသူကိုသော်၎င်း၊ မဲဆန္ဒရှင်ကိုသော်၎င်း၊ အရွေးခံသူကဖြစ်စေ၊ မဲဆန္ဒရှင်ကဖြစ်စေ အကျိုးလိုလားသော သူကိုသော်၎င်း တနည်းနည်းဖြင့် နစ်နာစေမည်ဟု ခြိမ်းခြောက်လျှင်၊ သို့တည်းမဟုတ်

(ခ) အရွေးခံသူကိုသော်၎င်း၊ မဲဆန္ဒရှင်ကိုသော်၎င်း၊ အရွေးခံသူကဖြစ်စေ၊ မဲဆန္ဒရှင်ကဖြစ်စေ အကျိုးလိုလားသော သူကိုသော်၎င်း သက်ဆိုင်ရာဘာသာအယူဝါဒအရ အပြစ်ရောက်စေမည်ဟု ယုံကြည်အောင် ထိုအရွေးခံသူကိုဖြစ်စေ၊ ထိုမဲဆန္ဒရှင်ကိုဖြစ်စေ သွေးဆောင်လျှင်၊ သို့တည်းမဟုတ် ထိုသို့သွေးဆောင်ရန် အားထုတ်လျှင်

ထိုသူသည် ပုဒ်မခွဲ (၁) ၏အဓိပ္ပါယ်အရ ထိုအရွေးခံသူ၏၊ သို့တည်းမဟုတ် ထိုမဲဆန္ဒရှင်၏ ရွေးကောက်မှု အခွင့်အရေး လွတ်လပ်စွာသုံးစွဲခြင်းကို နှောင့်ယှက်သည်ဟု မှတ်ယူရမည်။

(၃) ပြည်သူ့ ဆိုင်ရာဝါဒကို ကြေညာခြင်းသည်၊ သို့တည်းမဟုတ် ပြည်သူ့ ဆိုင်ရာ လမ်းစဉ်ကို ကတိပြုခြင်းသည်၊ သို့တည်းမဟုတ် ရွေးကောက်မှု အခွင့်အရေးကို နှောင့်ယှက်ရန် မကြံရွယ်ဘဲ တရားဝင်အခွင့်အရေး သုံးစွဲခြင်းသက်သက်သည် ဤပုဒ်မ၏ အဓိပ္ပါယ်အရ နှောင့်ယှက်ခြင်းဖြစ်သည်ဟု မမှတ်ယူရ။

ရွေးကောက်ပွဲတွင် သူတပါးအယောင်ဆောင်ခြင်း။

၁၇၁-ဃ။ ။ရွေးကောက်ပွဲတွင် ရှင်သူတဦးဦး၏ အမည်နှင့်ဖြစ်စေ၊ သေသူ တဦးဦး၏ အမည်နှင့်ဖြစ်စေ၊ ကြံစည်ဖန်တီးသော အမည်နှင့်ဖြစ်စေ မည်သူမဆို၊ မဲဆန္ဒအမှတ်အသားကို တောင်းဆိုလျှင်၊ သို့တည်းမဟုတ် မဲပေးလျှင်၊ သို့တည်းမဟုတ် ရွေးကောက်ပွဲ၌ မဲတကြိမ်ပေးပြီးဖြစ်လျက်၊ ထိုရွေးကောက်ပွဲ၌ပင် မဲဆန္ဒအမှတ်အသားကို မိမိအမည်နှင့်တောင်းဆိုလျှင်၊ ထိုပြင် ဆိုခဲ့သော နည်းလမ်းတခုခုဖြင့် အခြားသူ မဲပေးခြင်းကို အားပေးကူညီလျှင်၊ သို့တည်းမဟုတ် ထိုသို့ မဲပေးခြင်းကို ဖြစ်မြောက်စေလျှင်၊ သို့တည်းမဟုတ် ဖြစ်မြောက်စေရန် အားထုတ်လျှင် ထိုသူသည် ရွေးကောက်ပွဲတွင် သူတပါးအယောင်ဆောင်မှုကို ကျူးလွန်သည်။

**လာဘ်ပေးယူမှုအတွက် ပြစ်ဒဏ်။**

၁၇၁-င။ ။မည်သူမဆို၊ လာဘ်ပေးယူမှုကို ကျူးလွန်လျှင်၊ ထိုသူကိုတနှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ခြွင်းချက်။** ။သို့ရာတွင်၊ ပြုစုခြင်းဖြင့် လာဘ်ပေးယူမှုကို ကျူးလွန်လျှင်၊ ငွေဒဏ်သက်သက်သာ ချမှတ်ရမည်။

**ရှင်းလင်းချက်။** ။"ပြုစုခြင်း" ဆိုသည်မှာ အစား၊ အသောက်၊ ဖျော်ဖြေမှု၊ ရိက္ခာတခုခုဖြင့် တံစိုးအပေးအယူပြုသော လာဘ်ပေးယူမှုမျိုးကို ဆိုလိုသည်။

**ရွေးကောက်ပွဲ၌ မလျော်သြဇာသုံးမှုအတွက်၊ သို့တည်းမဟုတ် သူတပါး အယောင်ဆောင်မှု အတွက် ပြစ်ဒဏ်။**

၁၇၁-စ။ ။မည်သူမဆို၊ ရွေးကောက်ပွဲတွင် မလျော် သြဇာသုံးမှုကို၊ သို့တည်းမဟုတ် သူတပါးအယောင်ဆောင်မှုကိုကျူးလွန်လျှင်၊ ထိုသူကို တနှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ခြွင်းချက်။** ။သို့ရာတွင် ပါလီမန်ဆိုင်ရာ လွှတ်တော်တရပ်ရပ်နှင့် စပ်လျဉ်း၍၊ သူတပါးအယောင်ဆောင်မှု ကျူးလွန်လျှင်၊ ထိုသူအား နှစ်နှစ်ထိ အလုပ်ကြမ်းနှင့်ထောင်ဒဏ်ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**ရွေးကောက်ပွဲနှင့် စပ်လျဉ်း၍ မဟုတ်မမှန် ဖော်ပြခြင်း။**

၁၇၁-ဆ။ ။ရွေးကောက်ပွဲ၏ မဲရအခြေအနေကို ထိခိုက်စေရန် အကြံဖြင့် အရွေးခံရသူ၏ စာရိတ္တနှင့်ဖြစ်စေ၊ အပြုအမူနှင့်ဖြစ်စေ စပ်လျဉ်း၍ မမှန်သည်လည်းဖြစ်သည့်ပြင် မမှန်ကြောင်း မိမိသိသည်လည်းဖြစ်သော၊ သို့တည်းမဟုတ် ယုံကြည်သည်လည်းဖြစ်သော၊ သို့တည်းမဟုတ် မှန်သည်ဟု မိမိယုံကြည်ခြင်း မရှိသည်လည်း ဖြစ်သော ကြောင်းခြင်းရာ ဖော်ပြချက် သဘောသို့ သက်ရောက်သည့် ဖော်ပြချက်ကို မည်သူမဆို ပြုလျှင်၊ သို့တည်းမဟုတ် ကျေညာလျှင် ထိုသူကို ငွေဒဏ်ချမှတ်ရမည်။

**ရွေးကောက်ပွဲနှင့် စပ်လျဉ်း၍ ဥပဒေနှင့် မညီသော ပေးခြင်း။**

၁၇၁-ဇ။ ။အရွေးခံသူတဦး၏ ယေဘုယျခွင့်ပြုစာကိုဖြစ်စေ၊ အထူးခွင့်ပြုစာကိုဖြစ်စေ မရရှိဘဲ ထိုသူအရွေးခံရခြင်းကို အားပေးရန်၊ သို့တည်းမဟုတ် ဖြစ်မြောက်စေရန်အလို့ငှါ ပြည်သူတို့နှင့်ဆိုင်သောအစည်းအဝေးတရပ်ရပ် ကျင်းပပြုလုပ်သည့်အတွက်သော်၎င်း၊ ကျေညာသည့်အတွက်သော်၎င်း၊ ဖြန့်ချိစာပို့သည့်အတွက်သော်၎င်း၊ ပုံနှိပ်ထုတ်ဝေသည့်အတွက်သော်၎င်း၊ အခြားတနည်းနည်းဖြင့်သော်၎င်း မည်သူမဆို၊ စရိတ်ကျခံလျှင်၊ သို့တည်းမဟုတ် စရိတ်ကျခံရန် အခွင့်ပြုလျှင်၊ ထိုသူကိုငါးရာထိငွေဒဏ် ချမှတ်ရမည်။

ခြွင်းချက်။ ။သို့ရာတွင်၊ တဦးဦးယောက်သောသူသည်အခွင့်ပြုစာ မရရှိဘဲ ငွေတဆယ် ထက်မပိုသော စရိတ်ကို ကျခံပြီးနောက်၊ ထိုစရိတ်များကို ကျခံသည့်နေ့မှ ဆယ်ရက်အတွင်း အရွေးခံသူ၏ စာဖြင့် ရေးသားသည့် သဘောတူညီချက်ကို ရရှိလျှင်၊ ထိုသူသည် ထိုအရွေးခံ သူ၏ ခွင့်ပြုစာဖြင့် ထိုစရိတ်များကို ကျခံသည်ဟု မှတ်ယူရမည်။

ရွေးကောက်ပွဲ ဆိုင်ရာ ငွေစာရင်း ထားရှိရန် ပျက်ကွက်ခြင်း။

၁၇၁-ဈ။ ။တည်ဆဲဥပဒေတရပ်ရပ်အရဖြစ်စေ၊ ဥပဒေကဲ့သို့ပင် အာဏာရှိသော နည်းဥပဒေတရပ်ရပ် အရဖြစ်စေ၊ ရွေးကောက်ပွဲတခုခု၌သော်၎င်း၊ ရွေးကောက်ပွဲတခုနှင့် စပ်လျဉ်း၍ သော်၎င်း ကုန်ကျသော စရိတ်ကို ငွေစာရင်းပြုလုပ်ထားရှိရန် တာဝန်ရှိလျက်နှင့် ထိုငွေစာရင်းကို ပြုလုပ်ထားရှိရန် မည်သူမဆို၊ ပျက်ကွက်လျှင်၊ ထိုသူကို ငါးရာထိ ငွေဒဏ်ချမှတ်ရမည်။

မဲပြားမဲလက်မှတ် တခုခုကို ဥပဒေနှင့် ဆန့်ကျင်၍ လက်ရှိ ထားခြင်း။

၁၇၁-ည။ ။မည်သူမဆို၊ မိမိကိုယ်တိုင်က သက်သေထင်ရှားပြရန်တာဝန်ရှိသော ဥပဒေနှင့်အညီ အပြစ်တွင်ကင်းလွတ်ခွင့်မရှိဘဲ [ × × × ]* ရွေးကောက်ပွဲအတွက် မဲပေးရာဖြစ်သော မဲရုံအတွင်း၌၊ မိမိ၏ မဲကို ဥပဒေနှင့် အညီပေးရန် အလိုငှါမှတပါး မဲပြားတခုကို၊ သို့တည်းမဟုတ် မဲလက်မှတ်တခုကို၊ သို့တည်းမဟုတ် အရောင်တူ အဘုပြုထားသော မဲပြားမဲလက်မှတ်တခုကိုဖြစ်စေ၊ အများကိုဖြစ်စေလက်ရှိထားလျှင်၊ သို့တည်းမဟုတ် ဆက်လက်ထားရှိလျှင်၊ သို့တည်းမဟုတ် အဆိုပါမဲရုံအပြင်ဘက်၌ မဲပြားတခုကို၊ သို့တည်းမဟုတ် မဲလက်မှတ်တခုကို၊ သို့တည်းမဟုတ် အရောင်တူအတုပြုထားသော မဲပြားလက်မှတ်တခုကိုဖြစ်စေ၊ အများကိုဖြစ်စေ လက်ရှိထားလျှင်၊ ထိုသူအားနှစ်နှစ်ထိ အလုပ်ကြမ်းနှင့် ထောင်ဒဏ် ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

## အခန်း ၁၀။

## ပြည်သူ့ဝန်ထမ်းများ၏ ဥပဒေရအာဏာကို မထီလေးစားပြုခြင်း။

သမ္မာန်စာ၊သို့တည်းမဟုတ် အခြား အမိန့်ဆင့်စာ ချအပ် ခြင်းကိုတိမ်းရှောင်ခြင်း။

၁၇၂။ ။ပြည်သူ့ဝန်ထမ်းတဦးက ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့် ဥပဒေနှင့်အညီ ထုတ်ဆင့်ပိုင်သည့်အတိုင်း ထုတ်ဆင့်သော သမ္မာန်စာဖြစ်စေ၊ နို့တစ်စာဖြစ်စေ၊ အမိန့်စာဖြစ်စေ ချအပ်သည်ကို မည်သူမဆို၊ တိမ်းရှောင်လျှင်၊ ထိုသူကို တလထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ ငါးရာထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

သို့တည်းမဟုတ် သမ္မာန်စာမှာဖြစ်စေ၊ နို့တစ်စာမှာဖြစ်စေ၊အမိန့်စာမှာဖြစ်စေ တရားရုံးသို့ ကိုယ်တိုင်သော်၎င်း၊ ကိုယ်စားလှယ်ကိုသော်၎င်း တက်ရောက်စေရန်၊ သို့တည်းမဟုတ် ဒေတမ်းအမှတ်အသားတခုခုကို တင်ပြစေရန် ပါရှိလျှင်၊ ထိုသူကို ခြောက်လထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

---

* ၁၉၅၇ ခုနှစ်၊ အက်ဥပဒေအမှတ် ၃၈ အရ ပယ်ဖျက်သည်။

၁၇၃။ ။မည်သူမဆို မိမိသို့သော်၎င်း၊အခြားသူတဦးတယောက်သို့သော်၎င်း ပြည်သူ့ဝန်ထမ်းတဦးက ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့်ဥပဒေနှင့်အညီထုတ်ဆင့်ပိုင်သည့်အတိုင်း ထုတ်ဆင့်သည့် သမ္မာန်စာဖြစ်စေ၊ နို့တစ်စာဖြစ်စေ၊ အမိန့်စာဖြစ်စေ ချအပ်သည်ကို တနည်းနည်းဖြင့် တမင်တားဆီးလျှင်၊ သို့တည်းမဟုတ် တနေရာရာတွင် ထိုသမ္မာန်စာဖြစ်စေ၊ ထိုနို့တစ်စာဖြစ်စေ၊ ထိုအမိန့်စာဖြစ်စေ ဥပဒေနှင့်အညီ ဆွဲကပ်သည်ကို တမင်တားဆီးလျှင်၊ သို့တည်းမဟုတ် ထိုသမ္မာန်စာကိုဖြစ်စေ၊ ထိုနို့တစ်စာကိုဖြစ်စေ၊ ထိုအမိန့်စာကိုဖြစ်စေ ဥပဒေနှင့်အညီဆွဲကပ်ရာနေရာတခုခုမှ တမင်ခွါပစ်လျှင်၊ သို့တည်းမဟုတ် ဥပဒေနှင့်အညီ ထုတ်ပြန်ကျေညာရန်ဆင့်ဆိုပိုင်သူဖြစ်သောပြည်သူ့ဝန်ထမ်းတဦး၏ အမိန့်အရ ဥပဒေနှင့်အညီ ထုတ်ပြန်ကျေညာသည်ကို တမင်တားဆီးလျှင် ထိုသူကို တလထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ ငါးရာထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

သမ္မာန်စာ၊ သို့တည်း မဟုတ် အခြား အမိန့်ဆင့်စာ ချအပ်သည်ကို ဖြစ်စေ၊ ကျေညာသည်ကို ဖြစ်စေ တားဆီးခြင်း။

သို့ဘည်းမဟုတ် သမ္မာန်စာမှာဖြစ်စေ၊ နို့တစ်စာမှာဖြစ်စေ၊အမိန့်စာမှာဖြစ်စေ၊ကျေညာစာမှာဖြစ်စေ တရားရုံးသို့ ကိုယ်တိုင်သော်၎င်း၊ကိုယ်စားလှယ်ကိုသော်၎င်း တက်ရောက်စေရန်၊ သို့တည်းမဟုတ် စာတမ်းအမှတ်အသားတခုခုကို တင်ပြစေရန်ပါရှိလျှင်၊ ထိုသူကိုခြောက်လထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

၁၇၄။ ။ပြည်သူ့ဝန်ထမ်းတဦးက ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့် ဥပဒေနှင့်အညီထုတ်ဆင့်ပိုင်သည့်အတိုင်း ချိန်းဆိုသောကာလတွင်၊ ချိန်းဆိုသောနေရာသို့ တဦးတယောက်သောသူအား ကိုယ်တိုင်သော်၎င်း၊ ကိုယ်စားလှယ်ကိုသော်၎င်း တက်ရောက်စေရန် သမ္မာန်စာဖြစ်စေ၊ နို့တစ်စာဖြစ်စေ၊ အမိန့်စာဖြစ်စေ၊ ကျေညာစာဖြစ်စေ ထုတ်ဆင့်သည်ကို ထိုသူသည် ဥပဒေအရလိုက်နာရန်ဖြစ်ပါလျက်နှင့် ချိန်းဆိုသောကာလတွင် ချိန်းဆိုသောအရပ်သို့ မတက်ရောက်ဘဲတမင်ပျက်ကွက်လျှင်၊ သို့တည်းမဟုတ် တက်ရောက်ရန် တာဝန်ရှိသည့်နေရာမှ ဥပဒေအရထွက်ခွါသွားခွင့် ရသောအချိန်မတိုင်မီထွက်ခွါသွားလျှင် ထိုသူကို တလထိအလုပ်မဲ့ထောင်ဒဏ်ဖြစ်စေ၊ငါးရာထိငွေဒဏ်ဖြစ်စေ၊ဒဏ်နှစ်ရပ်လုံးဖြစ်စေချမှတ်ရမည်။

ပြည်သူ့ ဝန်ထမ်း ထုတ်ဆင့်သော အမိန့်ကို ဆန့်ကျင်၍၊ မတက်ရောက်ဘဲနေခြင်း။

သို့တည်းမဟုတ် သမ္မာန်စာမှာဖြစ်စေ၊ နို့တစ်စာမှာဖြစ်စေ၊အမိန့်စာမှာဖြစ်စေ၊ ကျေညာစာမှာဖြစ်စေ တရားရုံးသို့ ကိုယ်တိုင်သော်၎င်း၊ ကိုယ်စားလှယ်ကိုသော်၎င်း တက်ရောက်စေရန်ပါရှိလျှင်၊ ထိုသူကို ခြောက်လထိအလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

၁၇၅။ ။ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့် ထိုပြည်သူ့ဝန်ထမ်းသို့ စာတမ်းအမှတ် အသားတခုခုတင်ပြရန်သော်၎င်း၊ ပေးအပ်ရန်သော်၎င်း ဥပဒေအရ တာဝန်ရှိသောသူသည် ထိုစာတမ်းအမှတ်အသားကိုမတင်ပြဘဲ၊ သို့တည်းမဟုတ် မပေးအပ်ဘဲ တမင်ပျက်ကွက်လျှင်၊ ထိုသူကို တလထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ ငါးရာထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေချမှတ်ရမည်။

ပြည်သူ့ ဝန်ထမ်းသို့ စာတမ်း အမှတ်အသား တင်ပြရန ဥပဒေ နှင့် အညီ တာဝန်ရှိသူက တင်မပြဘဲ ပျက်ကွက်ခြင်း။

သို့တည်းမဟုတ် စာတမ်းအမှတ်အသားကိုတရားရုံးသို့တင်ပြရန်ဖြစ်လျှင်၊ သို့တည်းမဟုတ် ပေးအပ်ရန်ဖြစ်လျှင်၊ ထိုသူကို ခြောက်လထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

မြည်သူ့ ဝန်ထမ်းသို့ တိုင်ကြားရန်၊ သို့တည်းမဟုတ် သတင်းပေးရန် ဥပဒေအရ တာဝန်ရှိသူက မတိုင်ကြားဘဲ၊ သို့တည်း မဟုတ် သတင်း မပေးဘဲပျက်ကွက်ခြင်း။

၁၇၆။ ။ပြည်သူ့ ဝန်ထမ်းအဖြစ်ဖြင့် ထိုပြည်သူ့ ဝန်ထမ်းသို့အကြောင်းအရာ တခုခုနှင့် စပ်လျဉ်း၍ တိုင်ကြားရန်ဖြစ်စေ၊ သတင်းပေးရန်ဖြစ်စေ ဥပဒေအရတာဝန်ရှိသူသည် ဥပဒေအရလိုအပ်သောနည်းလမ်းအတိုင်း ထိုသို့လိုအပ်သောကာလတွင်ထိုအကြောင်းအရာနှင့်စပ်လျဉ်း၍ မတိုင်ကြားဘဲ၊ သို့တည်းမဟုတ်သတင်းမပေးဘဲတမင်ပျက်ကွက်လျှင်၊ ထိုသူကို တလထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ ငါးရာထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

သို့တည်းမဟုတ် ပေးရန်လိုအပ်သော တိုင်ကြားချက်သည်၊သို့တည်းမဟုတ် သတင်းပေးချက်သည် ပြစ်မှုကျူးလွန်ခြင်းနှင့် သက်ဆိုင်လျှင်၊ သို့တည်းမဟုတ် ပြစ်မှုကျူးလွန်ခြင်းကို တားဆီးရန် အလို့ငှါသော်၎င်း၊ ပြစ်မှုကျူးလွန်သူကို ဖမ်းဆီးရန်အလို့ငှါသော်၎င်း ဖြစ်လျှင် ထိုသူကို ခြောက်လထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

မမှန်သတင်းပေးခြင်း။

၁၇၇။ ။ပြည်သူ့ ဝန်ထမ်းအဖြစ်ဖြင့် ထိုပြည်သူ့ ဝန်ထမ်းသို့အကြောင်းအရာတခုခုနှင့် စပ်လျဉ်း၍၊ ဥပဒေအရ သတင်းပေးရန်တာဝန်ရှိသူသည် ထိုအကြောင်းအရာနှင့် စပ်လျဉ်း၍ မမှန်ဟုမိမိသိသောသတင်းကိုဖြစ်စေ၊ မမှန်ဟု မိမိယုံကြည်ရန်အကြောင်းရှိသောသတင်းကိုဖြစ်စေမှန်သောသတင်းအဖြစ်ဖြင့် သတင်းပေးလျှင်၊ ထိုသူကို ခြောက်လထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

သို့တည်းမဟုတ် ဥပဒေအရပေးရန် လိုအပ်သော သတင်းသည် ပြစ်မှု ကျူးလွန်ခြင်းနှင့် သက်ဆိုင်လျှင်၊ သို့တည်းမဟုတ် ပြစ်မှုကျူးလွန်ခြင်းကို တားဆီးရန် အလို့ငှါသော်၎င်း၊ ပြစ်မှုကျူးလွန်သူကို ဖမ်းဆီးရန် အလို့ငှါ သော်၎င်းဖြစ်လျှင် ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ဥပမာ။**

မြေရှင်မောင်ဖြူသည် မိမိ၏ မြေနယ်နိမိတ်အတွင်းတွင် လူသတ်မှု ကျူးလွန်ကြောင်း သိလျက်နှင့်၊ သေသူသည် မြွေကိုက်ခံရသဖြင့်သေသည်ဟု သက်ဆိုင်ရာ ဓာတ္တဝတ်တရားသူကြီးအား တမင်မမှန်သတင်းပေး၏။ မောင်ဖြူသည် ဤပုဒ်မတွင်ဖော်ပြထားသည့် ပြစ်မှုကို ကျူးလွန်၏။

**ရှင်းလင်းချက်။** ။ပြည်ထောင်စု မြန်မာနိုင်ငံ၏ ပြည်ပတွင်ပြုသော ပြုလုပ်မှုသည် ပြည်ထောင်စု မြန်မာနိုင်ငံအတွင်း၌ ကျူးလွန်ခဲ့သော ပုဒ်မ ၃၀၂၊ ၃၀၄၊ ၃၈၂၊ ၃၉၂၊ ၃၉၃၊ ၃၉၄၊ ၃၉၅၊ ၃၉၆၊ ၃၉၇၊ ၃၉၈၊ ၃၉၉၊ ၄၀၂၊ ၄၃၅၊ ၄၃၆၊ ၄၄၉၊ ၄၅၀၊ ၄၅၇၊ ၄၅၈၊ ၄၅၉၊ ၄၆၀ တခုခုအရ ပြစ်ဒဏ်ခံရမည့် ပြုလုပ်မှုမျိုးဖြစ်လျှင်၊ထိုပြုလုပ်မှုသည် ဤပုဒ်မနှင့် ပုဒ်မ ၁၇၆

ပါ "ပြစ်မှု" ဆိုသောစကားခွ်အကျုံးဝင်သည်။ ထို့ပြင် "ပြစ်မှုကျူးလွန်သူ" ဆိုသောစကားတွင်၊ ဆိုခဲ့သော ပြုလုပ်မှုတခုခုကို ကျူးလွန်ကြောင်း စွပ်စွဲခြင်းခံရသူလည်း အကျုံးဝင်သည်။

ကျမ်းသစ္စာ၊ သို့တည်း မဟုတ် ကတိ သစ္စာ ပြုစေရန် ပြည်သူ့ ဝန်ထမ်းက နည်းလမ်းတကျ ခိုင်းသည်ကို ငြင်းပယ်ခြင်း။

၁၇၈။ ။အမှန်ထွက်ဆိုပါမည်ဟု ကျမ်းသစ္စာဖြစ်စေ၊ ကတိသစ္စာဖြစ်စေ ပြုစေရန် ဥပဒေအရ ခိုင်းပိုင်သော ပြည်သူ့ဝန်ထမ်းက ခိုင်းသည်ကို ငြင်းပယ်လျှင်၊ ထိုငြင်းပယ်သူကို ခြောက်လထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

မေးပိုင်သည့် ပြည်သူ့ ဝန်ထမ်းက မေးသည်ကို ဖြေဆိုရန် ငြင်းပယ်ခြင်း။

၁၇၉။ ။အကြောင်းအရာ တခုခုနှင့် စပ်လျဉ်း၍ ပြည်သူ့ဝန်ထမ်းအား အမှန်ကို ထွက်ဆိုရန် ဥပဒေအရ တာဝန်ရှိသော သူသည် ထိုပြည်သူ့ဝန်ထမ်းက မိမိ၏ ဥပဒေရအာဏာကိုသုံးစွဲလျက်၊ ထိုအကြောင်းအရာနှင့် စပ်လျဉ်း၍ မေးသော မေးခွန်းကို ဖြေဆိုရန် ငြင်းပယ်လျှင်၊ ထိုသူကို ခြောက်လထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ထွက်ဆိုချက်ကို လက်မှတ် ထိုးရန် ငြင်းပယ်ခြင်း။

၁၈၀။ ။တဦးတယောက်သောသူအား သူ၏ ထွက်ဆိုချက်ကို လက်မှတ်ရေးထိုးစေရန် ဥပဒေအရ ခိုင်းပိုင်သော ပြည်သူ့ဝန်ထမ်းကခိုင်းသည်ကို ငြင်းပယ်လျှင်၊ ထိုငြင်းပယ်သူကို သုံးလထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ ငါးရာထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ကျမ်းသစ္စာ ဖြစ်စေ၊ ကတိ သစ္စာ ဖြစ်စေ ပြု၍ မမှန် ထွက်ဆိုခြင်း။

၁၈၁။ ။အကြောင်းအရာ တခုခုနှင့် စပ်လျဉ်း၍ ကျမ်းသစ္စာ၊ သို့တည်းမဟုတ် ကတိသစ္စာအပြုခိုင်းရန် ဥပဒေအရ အာဏာရရှိသော ပြည်သူ့ဝန်ထမ်းထံ၌ဖြစ်စေ၊ ထိုကဲ့သို့သော အခြားပုဂ္ဂိုလ်ထံ၌ဖြစ်စေ အမှန်ကို ထွက်ဆိုပါမည်ဟု ကျမ်းသစ္စာကို၊ သို့တည်းမဟုတ် ကတိသစ္စာကို ဥပဒေ အရပြုပြီးသောသူသည် ထိုအကြောင်းအရာနှင့် စပ်လျဉ်း၍ အဆိုပါ ပြည်သူ့ဝန်ထမ်းထံ၌ဖြစ်စေ၊ အဆိုပါ အခြားပုဂ္ဂိုလ်ထံ၌ဖြစ်စေ မမှန်သည်လည်းဖြစ်သည့်ပြင်၊ မမှန်ကြောင်း မိမိသိသည်လည်းဖြစ်သော၊ သို့တည်းမဟုတ် ယုံကြည်သည်လည်းဖြစ်သော၊ သို့တည်းမဟုတ် မှန်သည်ဟု မိမိယုံကြည်ခြင်းမရှိသည်လည်းဖြစ်သော ထွက်ဆိုခြင်းကိုပြုလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ် တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

အခြားသူတဦးတယောက် နစ်နာ စေခြင်းငှါ၊ ပြည်သူ့ဝန်ထမ်းအား ဥပဒေရ အာဏာကိုအသုံးပြုစေရန် ကြံရွယ်၍ မမှန်သတင်းပေးခြင်း။

၁၈၂။ ။မည်သူမဆို၊ (က) သတင်းတခုနှင့် စပ်လျဉ်း၍ ကြောင်းခြင်းရာ အမှန်ကို အကယ်၍ သိခဲ့လျှင် ပြည်သူ့ဝန်ထမ်းက ပြုထိုက်သည်မဟုတ်သော အမှုကို ပြည်သူ့ဝန်ထမ်းအား ပြုစေရန်၊ သို့တည်းမဟုတ် ပျက်ကွက်ထိုက်သည် မဟုတ်သော ပျက်ကွက်မှုကို ပြုစေရန်၊ သို့တည်းမဟုတ်

(ခ) လူတဦးတယောက်ကို နစ်နာစေခြင်းငှါ၊ သို့တည်းမဟုတ် စိတ်ငြိုငြင် စေခြင်းငှါ ပြည်သူ့ဝန်ထမ်းအား သူ၏ ဥပဒေရ အာဏာကို အသုံးပြုစေရန် ကြံရွယ်၍ သော်၎င်း၊ ပြုစေတန်ရာသည်ကို သိလျက်နှင့်သော်၎င်း ထိုပြည်သူ့ဝန်ထမ်းသို့ မမှန်ကြောင်း မိမိသိသော၊ သို့တည်းမဟုတ် မိမိယုံကြည်သော သတင်းကို ပေးလျှင်၊ ထိုသူကို ခြောက်လထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဥပမာများ။

(က) မောင်ဖြူသည် ရာဇဝတ်တရားသူကြီး၏ လက်အောက်ခံ ရဲအမှုထမ်း မောင်မဲ အလုပ်ပြုတ်စေရန် ထိုရဲအမှုထမ်း မောင်မဲ အလုပ်ဝတ်တရား ပေါ့လျော့ ပျက်ကွက်ကြောင်း သတင်းကိုသော်၎င်း၊ အကျင့် သိက္ခာ ပျက်ပြားကြောင်း သတင်းကိုသော်၎င်း ထိုသတင်း မမှန်ဟု သိလျက်နှင့်၊ သို့တည်းမဟုတ် ထိုသတင်းအရ မောင်မဲကို အဆိုပါ ရာဇဝတ် တရားသူကြီးက အလုပ်မှ ထုတ်ပစ်တန်ရာသည်ကို သိလျက်နှင့် ရာဇဝတ် တရားသူကြီးအား သတင်းပေးလျှင်၊ မောင်ဖြူသည် ဤပုဒ်မအရ ပြစ်မှု ကျူးလွန်ရာ ရောက်သည်။

(ခ) မောင်မဲ စိတ်ငြိုငြင်စေရန် ဥပဒေဖြင့် တားမြစ်ထားသော ဆားကို ထိုမောင်မဲ လျှို့ဝှက်သိုလှောင်ထားကြောင်း သတင်းကို၊ ထိုသတင်းမမှန်ဟု သိလျက်နှင့်၊ထို့ပြင် ထိုသတင်းကြောင့် မောင်မဲ၏ အိမ်ဥပစာကို ရှာဖွေစေတန်ရာသည်ကိုလည်း သိလျက်နှင့် မောင်ဖြူသည် ပြည်သူ့ဝန်ထမ်းသို့ သတင်းပေးလျှင်၊ မောင်ဖြူသည် ဤပုဒ်မအရ ပြစ်မှု ကျူးလွန်ရာ ရောက်သည်။

(ဂ) ရွာတရွာအနီးတွင် မိမိသည် လက်ရောက်ကျူးလွန်ခြင်း၊ လုယက်ခြင်း ခံရသည်ဟု မောင်ဖြူက ရဲအမှုထမ်းသို့ မမှန်သတင်းပေး၏။ မောင်ဖြူသည် မိမိအား မည်သူ ကျူးလွန်ကြောင်း ထုတ်ဖော်ခြင်းမပြု။ သို့ရာတွင် ထိုသို့ သတင်းပေးခြင်းကြောင့် ထိုရဲအမှုထမ်းသည် ထိုရွာတွင် စုံစမ်းခြင်း ရှာဖွေခြင်း ပြုသဖြင့် ရွာသားအားလုံးသော်၎င်း၊ အချို့သော်၎င်း စိတ်ငြိုငြင်တန်ရာသည်ကိုသိ၏။ မောင်ဖြူသည် ဤပုဒ်မအရ ပြစ်မှုကျူးလွန်ရာရောက်သည်။

ပြည်သူ့ဝန်ထမ်း၏ ဥပဒေရ အာဏာဖြင့် ပစ္စည်း သိမ်းယူခြင်းကို ခုခံခြင်း။

၁၈၃။ ။ပြည်သူ့ဝန်ထမ်း ဖြစ်ကြောင်း သိလျက်နှင့်၊ သို့တည်းမဟုတ် ယုံကြည်ရန် အကြောင်းရှိလျက်နှင့် ထိုပြည်သူ့ဝန်ထမ်း၏ ဥပဒေရ အာဏာဖြင့် ပစ္စည်း သိမ်းယူခြင်းကို မည်သူမဆို၊ ခုခံလျှင်၊ ထိုသူကို ခြောက်လထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ပြည်သူ့ဝန်ထမ်း၏ ဥပဒေရ အာဏာဖြင့် ပစ္စည်းရောင်းခြင်းကိုဟန့်တားခြင်း။

၁၈၄။ ။ပြည်သူ့ဝန်ထမ်း၏ ဥပဒေရ အာဏာဖြင့် ပစ္စည်းရောင်းခြင်းကို မည်သူမဆို တမင်ဟန့်တားလျှင်၊ ထိုသူကို တလထိ ထောင်ဒဏ် တမျိုးမျိုး ဖြစ်စေ၊ ငါးရာထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ပြည်သူ့ဝန်ထမ်း၏ဥပဒေရ အာဏာဖြင့် ရောင်းသောပစ္စည်းကို ဥပဒေနှင့် အညီမဟုတ်ဘဲ ဝယ်ခြင်း၊ သို့တည်းမဟုတ် လေလံဆွဲခြင်း။

၁၈၅။ ။ပြည်သူ့ဝန်ထမ်း၏ ဥပဒေရ အာဏာဖြင့် ပစ္စည်းတခုခုကို ရောင်းရာတွင်၊ မည်သူမဆို၊ မိမိသော်၎င်း၊ အခြားသူသော်၎င်း ဥပဒေအရ ဝယ်နိုင်ခွင့် မရှိကြောင်း သိလျက်နှင့် မိမိအတွက် ဖြစ်စေ၊ ထိုသူအတွက်ဖြစ်စေ ထိုပစ္စည်းကို ဝယ်ခြင်းသော်၎င်း၊ လေလံဆွဲခြင်းသော်၎င်းပြုလျှင်၊ သို့တည်းမဟုတ် လေလံဆွဲသဖြင့် မိမိ အပေါ် သို့ကျရောက်မည့် တာဝန်ကို ဆောင်ရွက်ရန် မကြံရွယ်ဘဲလျက် ထိုပစ္စည်းကို လေလံဆွဲလျှင် ထိုသူကို တလထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ နှစ်ရာထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ပြည်သူ့ ဝန်ထမ်း တဦး ပြည်သူဆိုင်ရာ အလုပ် ဝတ်တရား ဆောင်ရွက် နေသည်ကို ဟန့်တားခြင်း။

၁၈၆။ ။မည်သူမဆို၊ ပြည်သူ့ဝန်ထမ်းတဦး ပြည်သူဆိုင်ရာ အလုပ်ဝတ်တရား ဆောင်ရွက်နေသည်ကို မိမိအလိုအလျောက်ဟန့်တားလျှင်၊ ထိုသူကို သုံးလထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငါးရာထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ပြည်သူ့ ဝန်ထမ်းကို ကူညီရန် ဥပဒေအရ တာဝန်ရှိသူက ကူညီရန် ပျက်ကွက်ခြင်း။

၁၈၇။ ။ပြည်သူ့ဝန်ထမ်းတဦး ပြည်သူ့ဆိုင်ရာ တာဝန်ဝတ်တရား ဆောင်ရွက်နေသည်ကို ကူညီရန် ဥပဒေအရ တာဝန်ရှိသောသူသည် ယင်းသို့ကူညီရန် တမင်ပျက်ကွက်မှုပြုလျှင်၊ ထိုသူကို တလထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ နှစ်ရာထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ထို့ပြင် တရားရုံးမှ ဥပဒေနှင့်အညီ ထုတ်ဆင့်သော အမိန့်ဆင့်စာကို အတည်ပြုရန် အလို့ငှါဖြစ်စေ၊ ပြစ်မှုတခုခု ကျူးလွန်ခြင်းကို တားဆီးရန် အလို့ငှါဖြစ်စေ၊ ရန်းရင်းဆန်ခတ်မှုကိုသော်၎င်း၊ သတ်ပုတ်နှောက်ယှက်မှုကိုသော်၎င်း၊ နှိမ်နင်းရန်အလို့ငှါဖြစ်စေ၊ ပြစ်မှုတခုခုနှင့် စွဲဆိုခံရသူကိုသော်၎င်း၊ ပြစ်မှုကျူးလွန်ထင်ရှားသူကိုသော်၎င်း၊ ဥပဒေအရချုပ်ထားခြင်းမှ ထွက်ပြေးသူကိုသော်၎င်း ဖမ်းဆီးရန်အလို့ငှါဖြစ်စေ ဥပဒေအရ အကူအညီတောင်းဆိုပိုင်ခွင့်ရှိသော ပြည်သူ့ဝန်ထမ်းက အကူအညီတောင်းဆိုသည်ကို အကူအညီတမင်မပေးဘဲနေလျှင်၊ ထိုသို့အကူအညီ မပေးသောသူကို ခြောက်လထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ ငါးရာထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ပြည်သူ့ဝန်ထမ်းက နည်းလမ်းတကျ ထုတ်ပြန် ကြေညာသော အမိန့်ကို ဖီဆန်ခြင်း။

၁၈၈။ ။ပြုလုပ်မှု တခုခုကို ပြုခြင်းမှ ရှောင်ကြဉ်ရမည်ဟုသော်၎င်း၊ မိမိလက်ရှိ ပစ္စည်းနှင့်၊ သို့တည်းမဟုတ် မိမိစီမံခန့်ခွဲရသော ပစ္စည်းနှင့် စပ်လျဉ်း၍ အမိန့်အတိုင်း တခုခု ပြုလုပ်ထားရမည်ဟု သော်၎င်း၊ ဥပဒေနှင့်အညီ ထုတ်ပြန်ကြေညာရန် အာဏာရရှိသော ပြည်သူ့ ဝန်ထမ်းက ထုတ်ပြန်ကြေညာသော အမိန့်ကို သိလျက်နှင့် မည်သူမဆို၊ ထိုအမိန့်ကို ဖီဆန်လျှင်၊ ထိုသူအား အကယ်၍ ထိုသို့ဖီဆန်ခြင်းသည် ဥပဒေနှင့် အညီ စေခိုင်းခြင်း ခံရသော သူကို (က) ဟန့်တားခြင်းသော်၎င်း၊ စိတ်ရှုပ်ထွေးစေခြင်းသော်၎င်း၊ နစ်နာစေခြင်းသော်၎င်း ဖြစ်စေသော်၊ သို့တည်း

**မ**ဟုတ်ဖြစ်စေတတ်သော်၊ သို့တည်းမဟုတ် (ခ) ဟန့်တားခြင်းသော်၎င်း၊ **စိတ်ပြိုပြင်စေခြင်း**သော်၎င်း၊ နှစ်နာစေခြင်းသော်၎င်း ဖြစ်မည့် **အန္တရာယ်ကိုဖြစ်စေ**သော်၊ သို့တည်းမဟုတ်ဖြစ်စေတတ်သော် တလထိအလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ **နှစ်ရာထိ** ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ထိုပြင် အကယ်၍ ထိုသို့ဖီဆန်ခြင်းသည် လူ့အသက်ကိုသော်၎င်း၊ ကျန်းမာရေးကိုသော်၎င်း၊ လုံခြုံရေးကိုသော်၎င်း ဘေးဖြစ်စေသော်၊ သို့တည်းမဟုတ် ဘေးဖြစ် စေတတ်သော်၊ သို့တည်းမဟုတ် ရုန်းရင်းဆန်ခတ်မှုကိုသော်၎င်း၊ သတ်ပုတ် နှောက်ယှက် မှုကိုသော်၎င်း ဖြစ်စေသော်၊ သို့တည်းမဟုတ် ဖြစ်စေတတ်သော် ခြောက်လထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

**ရှင်းလင်းချက်။** ။ပြစ်မှုကျူးလွန်သူက ဘေးအန္တရာယ်ပြုရန် ကြံရွယ် ခြင်းသည်၊ သို့တည်းမဟုတ် ဘေးအန္တရာယ်ဖြစ်စေတန်ရာသည့် ဖီဆန်ခြင်းကို ကြံဆခြင်းသည် လိုရင်းမဟုတ်။ ပြစ်မှုကျူးလွန်သူက မိမိဖီဆန်သောအမိန့်ကိုသိ၍ ထိုသို့ဖီဆန်ခြင်းသည် ဘေးအန္တရာယ်ဖြစ်စေသည်ကိုသော်၎င်း၊ ဖြစ်စေတန်ရာသည်ကိုသော်၎င်း သိလျှင်၊ လုံလောက်သည်။

ဥပမာ။

ကိုးကွယ်ရာ ဘာသာနှင့်ဆိုင်သော စီတန်း လှည့်လည်ခြင်းကို လမ်းတလမ်းတွင် မပြုရဟု အမိန့်ထုတ်ပြန် ကျေညာရန် ဥပဒေနှင့် အညီ အာဏာရှိသော ပြည်သူ့ဝန်ထမ်းက အမိန့်တရပ်ကို ထုတ်ပြန်ကျေညာ၏။ မောင်ဖြူသည် သိလျက်နှင့် ထိုအမိန့်ကို ဖီဆန်၏။ ထိုသို့ဖီဆန်သဖြင့်၊ ရုန်းရင်းဆန်ခတ် ဖြစ်ပွားရန် အန္တရာယ်ဖြစ်စေ၏။ မောင်ဖြူသည် ဤပုဒ်မတွင် ဖော်ပြထားသော ပြစ်မှုကို ကျူးလွန်ရာရောက်သည်။

၁၈၉။ ။ပြည်သူ့ဝန်ထမ်း တဦး၏ ပြည်သူ့ဆိုင်ရာအလုပ်ဝတ်တရားဆောင်ရွက်ခြင်းနှင့် စပ်လျဉ်းသော ပြုလုပ်မှုတခုကို ထိုပြည်သူ့ဝန်ထမ်းအားပြုစေခြင်းအတွက်သော်၎င်း၊ ပြုခြင်းမှ ရှောင်စေခြင်း အတွက်သော်၎င်း၊ ပြုရန်ရှိသည်ကိုဆိုင်းငံ့ထားစေခြင်းအတွက်သော်၎င်း ထိုပြည်သူ့ဝန်ထမ်းအား သွေးဆောင်ရန် အလို့ငှါ ထိုပြည်သူ့ဝန်ထမ်းကိုဖြစ်စေ၊ ထိုပြည်သူ့ဝန်ထမ်းက အကျိုးလိုလားနေသည်ဟု မိမိယုံကြည်နေသောသူကိုဖြစ်စေ နစ်နာစေမည်ဟု မည်သူမဆို ခြိမ်းခြောက်လျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ပြည်သူ့ ဝန်ထမ်းကို နစ်နာစေ မည်ဟု ခြိမ်းခြောက်ခြင်း။

၁၉၀။ ။နစ်နာစေခြင်းမှ ဥပဒေအရ ကာကွယ်စောင့်ရှောက်ခြင်း ပေးပိုင်ခွင့်ရှိသော၊ သို့တည်းမဟုတ် ပေးစေပိုင်ခွင့်ရှိသော ပြည်သူ့ဝန်ထမ်းထံတွင် ကာကွယ်စောင့်ရှောက်မှုအတွက် ဥပဒေနှင့်အညီ တောင်းဆိုခြင်းမှ ရှောင်ကြဉ်စေရန်သော်၎င်း၊ ရပ်စဲစေရန် သော်၎င်း တဦးတယောက်သောသူအား သွေးဆောင်ရန် အလို့ငှါ ထိုသူအား နစ်နာစေမည်ဟု မည်သူမဆို၊ ခြိမ်းခြောက်လျှင်၊ ထိုသို့ ခြိမ်းခြောက်သောသူကို တနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ကာကွယ် စောင့်ရှောက်မှုအတွက်၊ ပြည်သူ့ဝန်ထမ်းထံ တောင်းဆိုခြင်းမှ ရှောင်ကြဉ်စေရန် တဦးတယောက်သောသူအား သွေးဆောင်လိုသည့် အတွက်၊ နစ်နာ စေမည်ဟု ခြိမ်းခြောက်ခြင်း။

## အခန်း ၁၁။

# မမှန် သက်သေခံမှုနှင့် ဖြောင့်မှန်စွာ တရားစီရင်ရေးကို ဆန့်ကျင်သော ပြစ်မှုများ။

**မမှန်သက်သေခံခြင်း။**

၁၉၁။ ။မည်သူမဆို၊ ကျမ်းသစ္စာအရဖြစ်စေ၊ ဥပဒေ၌ အတည့်အလင်း ဖေါ်ပြထားသော ပြဋ္ဌာန်းချက်အရဖြစ်စေ အမှန်ထွက်ဆိုရန် ဥပဒေအရ တာဝန်ရှိပါလျက်နှင့်၊ သို့တည်းမဟုတ် အကြောင်းအရာ တခုခုနှင့် စပ်လျဉ်း၍ ကျေညာချက်ပြုရန် ဥပဒေအရ တာဝန်ရှိပါလျက်နှင့် မမှန်သည်လည်းဖြစ်သည့်ပြင် မမှန်ဟုမိမိသိသည်လည်းဖြစ်သော၊ သို့တည်းမဟုတ် ယုံကြည်သည်လည်းဖြစ်သော၊ သို့တည်း မဟုတ် မှန်သည်ဟု မိမိယုံကြည်ခြင်း မရှိသည်လည်းဖြစ်သော ဖေါ်ပြချက်ကို ပြုလျှင်၊ ထိုသူ သည်မမှန်သက်သေခံသည်မည်၏။

**ရှင်းလင်းချက် ၁။** ။နှုတ်ဖြင့်ဖြစ်စေ၊ အခြားနည်းဖြစ်စေ ပြုသောဖေါ်ပြချက်သည် ဤပုဒ်မ၏ အဓိပ္ပါယ်၌ အကျုံးဝင်သည်။

**ရှင်းလင်းချက် ၂။** ။ထွက်ဆိုသူ၏၊ သို့တည်းမဟုတ် ကျေညာသူ၏ ယုံကြည်ချက် နှင့်စပ်လျဉ်း၍ ထိုသူ၏ ယုံကြည်ချက်အတိုင်း မဟုတ်သော ကျေညာချက်သည်၊ သို့တည်း မဟုက် ထွက်ဆိုချက်သည် ဤပုဒ်မ၏ အဓိပ္ပါယ်၌ အကျုံးဝင်သည်။ ထို့ပြင် တဦးတယောက် သောသူသည် မိမိမသိသောအရာကို သိသည်ဟု ထွက်ဆိုခြင်းဖြင့် မမှန် သက်သေခံမှု ကျူးလွန်ရာ ရောက်သည့်နည်းတူ၊ မိမိမယုံကြည်သောအရာကို ယုံကြည်သည်ဟု ထွက်ဆိုခြင်း ဖြင့်လည်း မမှန်သက်သေခံမှု ကျူးလွန်ရာ ရောက်သည်။

### ဥပမာများ။

(က) မောင်နီထံမှ တရားသဖြင့် ရရန်ရှိသောငွေ တထောင်အတွက် မောင်မဲက တရားစွဲဆိုရာတွင် မောင်မဲ၏ တောင်းဆိုချက်အတိုင်း မှန်သည်ဟု မောင်နီက ဝန်ခံသည်ကို မိမိကြားကြောင်း မောင်ဖြူက အမှုစစ်ဆေးစဉ်တွင် ကျမ်းကျိန်၍မမှန်ထွက်ဆို၏။ မောင် ဖြူသည် မမှန်သက်သေခံသည်မည်၏။

(ခ) အမှန်ထွက်ဆိုပါမည်ဟု ကျမ်းသစ္စာပြုပြီးသော မောင်ဖြူသည် ရေးထိုးသော လက်မှတ်တခုကို မောင်မဲ၏ လက်မှတ် ဖြစ်သည်ဟု မိမိမယုံကြည်ပါဘဲလျက်၊ မောင်မဲ၏ လက်မှတ်ဖြစ်သည်ဟု ယုံကြည်ကြောင်း ထွက်ဆို၏။ ဤနေရာတွင်မောင်ဖြူသည် မိမိယုံကြည် သည့်အတိုင်း ထွက်ဆိုခြင်းမဟုတ်သည်ကို သိလျက်နှင့် ထွက်ဆိုခြင်းဖြစ်သည်။ ထို့ကြောင့် မောင်ဖြူသည် မမှန်သက်သေခံသည်မည်၏။

(ဂ) မောင်ဖြူသည် မောင်မဲရေးသားမြဲ လက်ရေး၏ပုံပန်းကို သိသဖြင့်၊ ရေးထိုးသော လက်မှတ်တခုကို မောင်မဲ၏ လက်မှတ်ဖြစ်သည်ဟု သဘောရိုးဖြင့် ယုံကြည်သည့်အတိုင်း၊ မောင်မဲ၏ လက်မှတ်ဖြစ်သည်ဟု မိမိ ယုံကြည်ကြောင်း ထွက်ဆို၏။ မောင်ဖြူ၏ထွက်ဆိုချက် သည် သူ၏ ယုံကြည်ချက်နှင့်သာ သက်ဆိုင်သည့်ပြင် သူအကယ် ယုံကြည်သည်လည်းဖြစ်၏။ ထို့ကြောင့် အဆိုပါ ရေးထိုးထားသော လက်မှတ်သည် မောင်မဲ၏ လက်မှတ်မဟုတ်စေကာမူ မောင်ဖြူသည် မမှန်သက်သေခံသည်မမည်။

(ဃ) အမှန်ထွက်ဆိုပါမည်ဟု ကျမ်းသစ္စာပြုပြီးသော မောင်ဖြူသည် ဤမည်သော နေ့ရက်တွင် ဤမည်သောနေရာ၌ မောင်မဲရှိကြောင်း မသိပါဘဲလျက်၊ ထိုနေ့ရက်၊ ထိုနေရာ၌ မောင်မဲရှိကြောင်း မိမိသိသည်ဟု ထွက်ဆို၏။ မောင်မဲသည် ထိုနေ့ရက်၊ ထိုနေရာ၌ ရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ မောင်ဖြူသည် မမှန်သက်သေခံသည်မည်၏။

(င) စကားပြန်ဖြစ်သူ၊ သို့တည်းမဟုတ် ဘာသာပြန်ဖြစ်သူ မောင်ဖြူသည် ထွက်ဆိုချက်တခုကိုသော်၎င်း၊ စာတမ်း အမှတ်အသား တခုကိုသော်၎င်း မှန်ကန်စွာ ဘာသာပြန်ဆိုပါမည်ဟု ကျမ်းသစ္စာ ပြုထားပါလျက်နှင့် မမှန်သည်လည်း ဖြစ်သည့်ပြင် မှန်သည်ဟု မိမိ ယုံကြည်ခြင်း မရှိသည်လည်းဖြစ်သော ဘာသာပြန်ဆိုချက်ကို ပြု၏။ သို့တည်းမဟုတ် မှန်သည်ဟုတာဝန်ခံ၏။ မောင်ဖြူသည် မမှန် သက်သေခံသည်မည်၏။

၁၉၂။ ။တရားစီရင်သော မှုခင်းကိစ္စတွင်ဖြစ်စေ၊ ပြည်သူ့ဝန်ထမ်းက ပြည်သူ့ဝန်ထမ်း အဖြစ်ဖြင့် ဥပဒေအရ စီရင်သော မှုခင်းကိစ္စတွင် ဖြစ်စေ အနုညာတခုံ လူကြီးက ဥပဒေအရ စီရင်သော မှုခင်းကိစ္စတွင် ဖြစ်စေ——

မမှန်သက်သေခံဖန်တီးခြင်း။

(က) ပတ်ဝန်းကျင် ကြောင်းခြင်းရာ တခုကိုသော်၎င်း၊ စာအုပ်၌ဖြစ်စေ၊ မှတ်တမ်း၌ဖြစ်စေ ရေးသွင်းသော မမှန်ရေးသွင်းချက် တခုကိုသော်၎င်း၊ မမှန်ထွက်ဆိုချက်ပါသော စာတမ်းအမှတ်အသား တခုကိုသော်၎င်း သက်သေခံအဖြစ်ဖြင့် ပေါ်ပေါက်လာနိုင်စေရန်၊ ထို့ပြင်

(ခ) ထိုသို့ ပေါ်ပေါက်လာနိုင်သော ပတ်ဝန်းကျင် ကြောင်းခြင်းရာ အားဖြင့်သော်၎င်း၊ မမှန် ရေးသွင်းချက်အားဖြင့် သော်၎င်း၊ မမှန် ထွက်ဆိုချက်ပါသောစာတမ်း အမှတ်အသား အားဖြင့်သော်၎င်း၊ အဆိုပါ စစ်ဆေးစီရင်သော မှုခင်းကိစ္စ၌ သက်သေခံချက်ကို အထောက်အထားပြုကာ ထင်မြင်ကောက်ယူရန်ရှိသော သူအား အမှုဆုံးဖြတ်ရေးတွင် အရေးပါသော အချက်တခုခုနှင့်စပ်လျဉ်း၍ လွဲမှားစွာ ထင်မြင်မိစေရန် ကြံရွယ်၍ မည်သူမဆိုပြုလျှင်

ထိုသူသည် "မမှန်သက်သေခံ ဖန်တီးသည်"မည်၏။

## ဥပမာများ။

(က) မောင်မဲပိုင် သေတ္တာထဲတွင် ကျောက်မျက် ရတနာများကို တွေ့ရှိစေ၍၊ ထိုသို့တွေ့ရှိသော ပတ်ဝန်းကျင် ကြောင်းခြင်းရာက မောင်မဲအား ခိုးမှုဖြင့် ပြစ်မှု ထင်ရှားစီရင်ခြင်းခံရစေရန် ကြံရွယ်လျက်၊ မောင်ဖြူသည် မောင်မဲ၏ သေတ္တာ၌ ထိုကျောက်မျက်ရတနာများကို ထည့်ထား၏။ မောင်ဖြူသည် မမှန်သက်သေခံ ဖန်တီးသည်မည်၏။

(ခ) တရားရုံးတွင် အထောက်အခံ သက်သေခံအဖြစ် အသုံးပြုနိုင်ရန် အလို့ငှါ မောင်ဖြူသည် မိမိစာရင်းစာအုပ်တွင် မမှန်ရေးသွင်းချက်တခုကိုပြု၏။ မောင်ဖြူသည် မမှန်သက်သေခံ ဖန်တီးသည်မည်၏။

(ဂ) ရာဇဝတ် မကင်းသော ပူးပေါင်း ကြံစည်မှုဖြင့် မောင်နီကို ပြစ်မှု ထင်ရှားစီရင်ခြင်းခံရစေရန် ကြံရွယ်၍ မောင်ဖြူသည် မောင်နီ၏ လက်ရေးနှင့် တူအောင် အတုပြုလုပ်ကာ စာတစောင်ရေးသားပြီးလျှင်၊ ရာဇဝတ်မကင်းသော ပူးပေါင်းကြံစည်မှုတွင် ပါဝင်သည့် ကျူးလွန်ဘက်တဦးထံသို့ ရေးသားထားသည့် အနေနှင့် ရဲအမှုထမ်း ရာထမ်းတို့ ရှာဖွေမည့် နေရာ၌ ထိုစာကိုထား၏။ မောင်ဖြူသည် မမှန်သက်သေခံ ဖန်တီးသည်မည်၏။

**မမှန်သက်သေခံခြင်း အတွက် ပြစ်ဒဏ်။**

၁၉၃။ ။တရားစီရင်သောမှုခင်းကိစ္စတွင် မည်သည့်အဆင့်၌ဖြစ်စေ၊ မည်သူမဆို၊ တမင်မမှန် သက်သေခံလျှင်၊ သို့တည်းမဟုတ် မည်သည့် အဆင့်၌ဖြစ်စေ၊ သက်သေခံအဖြစ် အသုံးပြုရန် မမှန်သက်သေခံကို တမင်ဖန်တီးလျှင်၊ထိုသူကို ခုနစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ထို့ပြင် အခြားမှုခင်းကိစ္စတွင် တမင်မမှန် သက်သေခံလျှင်၊ သို့တည်းမဟုတ် မမှန်သက်သေခံကို တမင်ဖန်တီးလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ် တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**ရှင်းလင်းချက် ၁။** ။စစ်တရားရုံးတွင် စစ်ဆေးစီရင်သော မှုခင်းကိစ္စသည် တရားစီရင်သော မှုခင်းကိစ္စမည်၏။

**ရှင်းလင်းချက် ၂။** ။တရားရုံးတွင် အမှုစစ်ဆေး စီရင်ခြင်းမပြုမီ၊ ဥပဒေညွှန်ကြားချက်အရ ကြိုတင်မေးမြန်း စုံထောက်ခြင်းသည် တရားရုံးတွင် မေးမြန်း စုံထောက်မှု ပြုခြင်းမဟုတ်သော်လည်း၊ တရားစီရင်သော မှုခင်းကိစ္စ၏ အဆင့်တဆင့်ဖြစ်သည်။

## ဥပမာ။

မောင်မဲ၏အမှုကို စစ်ဆေးပိုင်ခွင့်ရှိသောရုံးသို့ လွှဲသင့်မလွှဲသင့် သိသာအောင် ရာဇဝတ်တရားသူကြီးက စုံစမ်းရာတွင်၊ မောင်ဖြူသည် ကျမ်းသစ္စာပြု၍ မမှန်သည်ကို သိလျက်နှင့် မှန်သည်ဟု ထွက်ဆို၏။ အထက်ပါ စုံစမ်းခြင်းသည် တရားစီရင်သော မှုခင်းကိစ္စ၏ အဆင့် တဆင့် ဖြစ်သောကြောင့် မောင်ဖြူသည် မမှန်သက်သေခံသည်မည်၏။

**ရှင်းလင်းချက် ၃။** ။ဥပဒေအရ တရားရုံးကညွှန်ကြား၍ တရားရုံးအမိန့်အရ ဆောင်ရွက်သော မေးမြန်းစုံထောက်ခြင်းသည် တရားရုံးတွင် မေးမြန်း စုံထောက်မှုပြုခြင်း မဟုတ်သော်လည်း၊ တရားစီရင်သော မှုခင်းကိစ္စ၏ အဆင့်တဆင့်ဖြစ်သည်။

## ဥပမာ။

မြေကွက်တခု၏ နယ်နိမိတ်ကို ထိုနေရာတွင် အမှန်သိသာစေရန် တရားရုံးက လွှဲအပ်ခန့်ထားသော အရာရှိတဦးက စုံစမ်းရာတွင်၊ မောင်ဖြူသည် ကျမ်းသစ္စာပြု၍ မမှန်သည်ကို သိလျက်နှင့် မှန်သည်ဟု ထွက်ဆို၏။ အထက်ပါ စုံစမ်းခြင်းသည် တရားစီရင်သော မှုခင်းကိစ္စ၏ အဆင့်တဆင့်ဖြစ်သောကြောင့် မောင်ဖြူသည် မမှန်သက်သေခံသည်မည်၏။

**သေဒဏ်ထိုက်သော ပြစ်မှုဖြင့် ပြစ်မှု ထင်ရှားစီရင်ခြင်း ခံရအောင် ကြံရွယ်၍၊ မမှန်သက်သေ ခံခြင်း၊ သို့တည်းမဟုတ်မမှန်သက်သေခံဖန်တီးခြင်း။**

၁၉၄။ ။ပြည်ထောင်စု မြန်မာနိုင်ငံတော် ဥပဒေအရ တဦးတယောက်သော သူကို သေဒဏ်ထိုက်သောအမှုဖြင့် ပြစ်မှုထင်ရှားစီရင်ခြင်း ခံရအောင် ကြံရွယ်၍သော်၎င်း၊ ထိုသို့ ပြစ်မှု ထင်ရှားစီရင်ခြင်း ခံတန်ရာသည်ကို သိလျက်နှင့်သော်၎င်း မည်သူမဆို၊ မမှန်သက်သေခံလျှင်၊ သို့တည်းမဟုတ် မမှန်သက်သေခံကို ဖန်တီးလျှင်၊ ထိုသူကိုတသက်တကျွန်းဒဏ် ဖြစ်စေ၊ ဆယ်နှစ်ထိ အလုပ်ကြမ်းနှင့် ထောင်ဒဏ်ဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

အပြစ်ကင်းသူမှာ ပြစ်ဒဏ်ထင်ရှားစီရင်ခြင်း ခံရ၍၊ သေဒဏ်ခံရပြီးဖြစ်လျှင်။

ထို့ပြင် ထိုကဲ့သို့မမှန်သက်သေခံခြင်းအားဖြင့် အပြစ်ကင်းသူတဦးမှာ ပြစ်ဒဏ်ထင်ရှားစီရင်ခြင်းခံရ၍ သေဒဏ်ခံရပြီး ဖြစ်လျှင်၊ ထိုမမှန်သက်သေခံသူကို သေဒဏ်ဖြစ်စေ၊ အထက်က ဆိုခဲ့သောပြစ်ဒဏ် ဖြစ်စေ ချမှတ်ရမည်။

တကျွန်းဒဏ် ဖြစ်စေ၊ ထောင်ဒဏ်ဖြစ်စေ စီရင်ခြင်း ခံရအောင် ကြံရွယ်၍၊ မမှန်သက်သေခံခြင်း၊ သို့တည်းမဟုတ် မမှန် သက်သေခံကို ဖန်တီးခြင်း။

၁၉၅။ ။ပြည်ထောင်စု မြန်မာနိုင်ငံတော် ဥပဒေအရ တဦးတယောက်သော သူကို သေဒဏ်ထိုက်သော အမှုမျိုးမဟုတ်ဘဲ တသက်တကျွန်း ဒဏ်ဖြစ်စေ၊ ခုနစ်နှစ်၊ သို့တည်းမဟုတ် ခုနစ်နှစ်ထက်ပိုသော ထောင်ဒဏ်ဖြစ်စေ ထိုက်သောအမှုဖြင့် ပြစ်မှုထင်ရှား စီရင်ခြင်းခံရအောင် ကြံရွယ်၍သော်၎င်း၊ ထိုသို့ ပြစ်မှုထင်ရှားစီရင်ခြင်းခံတန်ရာသည်ကို သိလျက်နှင့်သော်၎င်း မည်သူမဆို၊ မမှန်သက်သေခံလျှင်၊ သို့တည်းမဟုတ် မမှန်သက်သေခံကို ဖန်တီးလျှင် ထိုသူအား ထိုပြစ်မှုဖြင့် ပြစ်မှုထင်ရှား စီရင်ခြင်းခံရသူ တဦးတယောက်ခံထိုက်သော ပြစ်ဒဏ်မျိုးချမှတ်ရမည်။

ဥပမာ။

ဓါးပြတိုက်မှုဖြင့် မောင်မဲပြစ်မှုထင်ရှား စီရင်ခြင်းခံရအောင် ကြံရွယ်၍၊ မောင်ဖြူသည် တရားရုံးတွင် မမှန်သက်သေခံ၏။ ဓါးပြတိုက်မှုအတွက် ပြစ်ဒဏ်မှာ တသက်တကျွန်းဒဏ်သော်၎င်း၊ ငွေဒဏ်နှင့်တကွ၊ သို့တည်းမဟုတ် ငွေဒဏ်မပါဘဲ ဆယ်နှစ်ထိ အလုပ်ကြမ်းနှင့်ထောင်ဒဏ်သော်၎င်းဖြစ်၏။ ထို့ကြောင့် မောင်ဖြူသည်တသက်တကျွန်းဒဏ်ဖြစ်စေ၊ ငွေဒဏ်နှင့်တကွ၊ သို့တည်းမဟုတ် ငွေဒဏ်မပါဘဲ ဆယ်နှစ်ထိ အလုပ်ကြမ်းနှင့် ထောင်ဒဏ်ဖြစ်စေ ထိုက်သင့်သည်။

မမှန်ဟု သိသော သက်သေခံချက်ကို အသုံးပြုခြင်း။

၁၉၆။ ။မမှန်ဟုသော်၎င်း၊ ဖန်တီးထားသည်ဟုသော်၎င်း မိမိသိသော သက်သေခံကို အမှန်သက်သေခံအဖြစ်ဖြင့်ဖြစ်စေ၊ အစစ်သက်သေခံ အဖြစ်ဖြင့်ဖြစ်စေ တရားမဲ့စွာအသုံးပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့ အသုံးပြုရန်အားထုတ်လျှင်၊ ထိုသူကို မမှန်သက်သေခံဘိသကဲ့သို့ သော်၎င်း၊ မမှန်သက်သေခံကို ဖန်တီးဘိသကဲ့သို့ သော်၎င်း ထပ်တူပြစ်ဒဏ် ချမှတ်ရမည်။

မမှန်သော တာဝန်ခံလက်မှတ်ကို ထုတ်ပေးခြင်း၊ သို့တည်းမဟုတ် လက်မှတ်ရေးထိုးခြင်း။

၁၉၇။ ။ဥပဒေအရ ထုတ်ပေးရန်၊ သို့တည်းမဟုတ် လက်မှတ် ရေးထိုးရန် လိုသော တာဝန်ခံလက်မှတ်၌ဖြစ်စေ၊ ကြောင်းခြင်းရာတခုခုနှင့်စပ်လျဉ်း၍ ဥပဒေအရ သက်သေခံဝင်သော တာဝန်ခံလက်မှတ်၌ ဖြစ်စေ၊ အရေးပါသောအချက် တခုခုတွင်မမှန်ကြောင်း သိလျက်နှင့်၊ သို့တည်းမဟုတ် မမှန်ကြောင်း ယုံကြည်လျက်နှင့် ထိုတာဝန်ခံလက်မှတ်ကိုမည်သူမဆို၊ထုတ်ပေးလျှင်၊သို့တည်းမဟုတ် လက်မှတ်ရေးထိုးလျှင် ထိုသူကိုမမှန်သက်သေခံ ဘိသကဲ့သို့ ထပ်တူပြစ်ဒဏ် ချမှတ်ရမည်။

မမှန်ကြောင်း သိသော သက်သေခံလက်မှတ်ကို အမှန်အဖြစ်ဖြင့် အသုံးပြုခြင်း။

၁၉၈။ ။တာဝန်ခံလက်မှတ်တခုခု၌ အရေးပါသော အချက်တခုခုတွင် မမှန်ဟုသိလျက်နှင့် မည်သူမဆို၊ ထိုတာဝန်ခံလက်မှတ်ကို အမှန်အဖြစ်ဖြင့် တရားမဲ့စွာ အသုံးပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့ အသုံးပြုရန်အားထုတ်လျှင် ထိုသူကို မမှန် သက်သေခံဘိသကဲ့သို့ထပ်တူပြစ်ဒဏ် ချမှတ်ရမည်။

သက်သေခံ အဖြစ် ဖြင့် ဥပဒေ အရ၊ လက်ခံနိုင်သော ကျေညာချက်တွင် မမှန်ဖော်ပြခြင်း။

၁၉၉။ ။ကြောင်းခြင်းရာတခုခုနှင့် စပ်လျဉ်း၍ သက်သေခံအဖြစ်ဖြင့် ဥပဒေအရ၊ တရားရုံးကဖြစ်စေ၊ ပြည်သူ့ဝန်ထမ်းကဖြစ်စေ၊ အခြားသူတဦးကဖြစ်စေ လက်ခံရန်တာဝန်ရှိသော၊ သို့တည်းမဟုတ် လက်ခံပိုင်ခွင့်ရှိသော ကျေညာချက်ကို ပြုသောသူသည်၊ သို့တည်းမဟုတ် လက်မှတ်ရေးထိုးသော သူသည် မမှန်သည်လည်းဖြစ်၍ မမှန်ဟု သိသည်လည်းဖြစ်သော၊ သို့တည်းမဟုတ် ထိုသို့ယုံကြည်သည်လည်းဖြစ်သော၊ သို့တည်းမဟုတ် မှန်သည်ဟု မိမိမယုံကြည်သည်လည်းဖြစ်သော ဖော်ပြချက်ကို အဆိုပါ ကျေညာချက်ကို ပြုသော၊ သို့တည်းမဟုတ် အသုံးပြုသော ရည်ရွယ်ချက်နှင့် စပ်လျဉ်း၍ အရေးပါသောအချက်၌ ပြုလျှင်၊ ထိုသို့ပြုသောသူကို မမှန်သက်သေခံဘိသကဲ့သို့ ထပ်တူပြစ်ဒဏ်ချမှတ်ရမည်။

ဆိုခဲ့သော ကျေညာချက်သည် မမှန်ဟု သိလျက် နှင့် အမှန် အဖြစ်ဖြင့် အသုံးပြုခြင်း။

၂၀၀။ ။ဆိုခဲ့သောကျေညာချက်သည် အရေးပါသော အချက်တခုခု၌ မမှန်ဟု သိလျက်နှင့် မည်သူမဆို၊ အမှန်အဖြစ်ဖြင့် တရားမဲ့စွာ အသုံးပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့အသုံးပြုရန် အားထုတ်လျှင်၊ ထိုသူကို မမှန်သက်သေခံဘိသကဲ့သို့ ထပ်တူပြစ်ဒဏ်ချမှတ်ရမည်။

ရှင်းလင်းချက်။ ။နည်းလမ်းတကျ ဆောင်ရွက်ခြင်း မရှိခဲ့ရုံမျှနှင့် သက်သေခံအဖြစ် လက်မခံနိုင်သောကျေညာချက်သည် ပုဒ်မ ၁၉၉ နှင့် ပုဒ်မ ၂၀၀ တို့၏ အဓိပ္ပါယ်၌ အကျုံးဝင်သော ကျေညာချက်ဖြစ်သည်။

ပြစ်မှုကျူးလွန် သူကို ကာကွယ်ရန် အလို့ငှါ သက်သေခံကို ပျောက်ပျက် စေခြင်း၊ သို့တည်းမဟုတ် မမှန်သတင်း ပေးခြင်း

၂၀၁။ ။ပြစ်မှုကျူးလွန်ပြီး ဖြစ်ကြောင်း သိလျက်နှင့်ဖြစ်စေ၊ ယုံကြည်ရန် အကြောင်းရှိလျက်နှင့်ဖြစ်စေ မည်သူမဆို၊ ပြစ်မှုကျူးလွန်သူအား ဥပဒေနှင့်အညီခံရမည့် ပြစ်ဒဏ်မှကာကွယ်ရန် အကြံဖြင့်၊ ထိုပြစ်မှုကျူးလွန်ခြင်းနှင့် စပ်လျဉ်းသော သက်သေခံ တခုခုကို ပျောက်ပျက်စေလျှင်၊ သို့တည်းမဟုတ် ထိုအကြံမျိုးဖြင့်ပင်၊ ပြစ်မှုနှင့်စပ်လျဉ်း၍မမှန်ဟုမိမိသိသော၊ သို့တည်းမဟုတ် ယုံကြည်သော သတင်းကိုပေးလျှင်၊ ထိုသူကို—

သေဒဏ် ချမှတ်ခြင်း ခံထိုက်သော ပြစ်မှုဖြစ်ပါက။

ကျူးလွန်ပြီးဖြစ်ကြောင်း မိမိသိသော၊ သို့တည်းမဟုတ် ယုံကြည်သောပြစ်မှုသည် သေဒဏ်ချမှတ်ခြင်း ခံထိုက်သော ပြစ်မှုဖြစ်ပါက၊ ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ထို့ပြင် အဆိုပါ ပြစ်မှုသည် တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ်ဖြစ်စေ ချမှတ်ခြင်းခံထိုက်သော ပြစ်မှုဖြစ်ပါက၊ သုံးနှစ်ထိ ထောင်ဒဏ် တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

တသက် တကျွန်းဒဏ် ချမှတ်ခြင်း ခံထိုက်သော ပြစ်မှုဖြစ်ပါက။

ထို့ပြင် အဆိုပါပြစ်မှုသည် ဆယ်နှစ်အောက်လျော့သည့် ထောင်ဒဏ်ချမှတ်ခြင်း ခံထိုက်သော ပြစ်မှုဖြစ်ပါက၊ ထိုပြစ်မှုအတွက် ပြဋ္ဌာန်းထားသော အများဆုံးကာလ အပိုင်းအခြား၏ လေးပုံတပုံထိ ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဆယ်နှစ်အောက် လျော့သည့် ထောင်ဒဏ် ချမှတ်ခြင်း ခံထိုက်သော ပြစ်မှု ဖြစ်ပါက။

ဥပမာ။

မောင်နီကို မောင်မဲသတ်ကြောင်း မောင်ဖြူသိလျက်နှင့် မောင်မဲကို ပြစ်ဒဏ်ချမှတ်ခြင်းမှ ကာကွယ်ရန်အကြံဖြင့်၊ မောင်နီ၏အလောင်းကို ဝှက်ထားရန် မောင်ဖြူက မောင်မဲကို ကူညီ၏။ ထိုအမှုတွင် မောင်ဖြူသည် ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ခြင်းခံထိုက်သည့်ပြင် ငွေဒဏ်လည်းချမှတ်ခြင်းခံထိုက်သည်။

၂၀၂။ ။ပြစ်မှုကျူးလွန်ပြီးဖြစ်ကြောင်း သိလျက်နှင့်ဖြစ်စေ၊ ယုံကြည်ရန် အကြောင်းရှိလျက်နှင့် ဖြစ်စေ မည်သူမဆို၊ ထိုပြစ်မှုနှင့်စပ်လျဉ်း၍ ဥပဒေနှင့်အညီပေးရန် တာဝန်ရှိသော သတင်းကိုမပေးဘဲ တမင်ပျက်ကွက်လျှင်၊ ထိုသူကို ခြောက်လထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ပြစ်မှု ကျူးလွန်ကြောင်း သတင်းပေးရန် တာဝန်ရှိသူက သတင်း မပေး၊ တမင် ပျက်ကွက်ခြင်း။

၂၀၃။ ။ပြစ်မှု ကျူးလွန်ပြီးဖြစ်ကြောင်း သိလျက်နှင့်ဖြစ်စေ၊ ယုံကြည်ရန် အကြောင်းရှိလျက်နှင့်ဖြစ်စေ မည်သူမဆို၊ ထိုပြစ်မှုနှင့် စပ်လျဉ်း၍ မမှန်ဟုမိမိသိသော၊ သို့တည်းမဟုတ် ယုံကြည်သော သတင်းတခုခုကို ပေးလျှင်၊ ထိုသူကို နှစ် နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ကျူးလွန်ပြီး ဖြစ်သော ပြစ်မှုနှင့် စပ်လျဉ်း၍ မမှန်သတင်းပေးခြင်း။

ရှင်းလင်းချက်။ ။ပြည်ထောင်စု မြန်မာနိုင်ငံတော် ပြင်ပတွင်ပြုသော ပြုလုပ်မှုသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း၌ ကျူးလွန်ခဲ့သော်၊ ပုဒ်မ ၃၀၂၊ ၃၀၄၊ ၃၈၂၊ ၃၉၂၊ ၃၉၃၊ ၃၉၄၊ ၃၉၅၊ ၃၉၆၊ ၃၉၇၊ ၃၉၈၊ ၃၉၉၊ ၄၀၂၊ ၄၃၅၊ ၄၃၆၊ ၄၄၉၊ ၄၅၀၊ ၄၅၇၊ ၄၅၈၊ ၄၅၉၊ ၄၆၀ တခုခုအရ ပြစ်ဒဏ်ထိုက်သင့်သော ပြုလုပ်မှုမျိုးဖြစ်လျှင်၊ ထိုပြုလုပ်မှုသည် ပုဒ်မ ၂၀၁၊ ၂၀၂ နှင့် ဤပုဒ်မတို့၌ပါသည့် "ပြစ်မှု" ဆိုသော စကား၌ အကျုံးဝင်သည်။

၂၀၄။ ။တရားရုံးရှေ့တွင်ဖြစ်စေ၊ ပြည်သူ့ဝန်ထမ်းက ပြည်သူ့ဝန်ထမ်း အဖြစ်ဖြင့် ဥပဒေနှင့်အညီ စစ်ဆေးစီရင်သော အမှုတခုခုတွင်ဖြစ်စေ သက်သေခံ အဖြစ်တင်ပြစေရန်၊ ဥပဒေအရ အတင်းအကြပ် တောင်းယူနိုင်သော စာတမ်း အမှတ်အသားကို သက်သေခံအဖြစ် တင်မပြနိုင်အောင်၊ သို့တည်းမဟုတ် အသုံးမပြုနိုင်အောင် ပြုရန် အကြံဖြင့်—

သက်သေခံ အဖြစ် တင်မပြ နိုင်အောင်၊ စာတမ်း အမှတ်အသားကို ဖျက်ဆီးခြင်း။

(၁) မည်သူမဆို၊ ထိုစာတမ်း အမှတ်အသားကို လျှို့ဝှက်ထားလျှင်၊ သို့တည်းမဟုတ် ဖျက်ဆီးလျှင်၊ သို့တည်းမဟုတ် ထိုစာတမ်း အမှတ်အသားအားလုံး၌ဖြစ်စေ၊ အချို့အဝက်၌ဖြစ်စေ အမှတ်အသားကိုဖျက်လျှင်၊ သို့တည်းမဟုတ် မထင်ရှားအောင်ပြုလျှင်၊ သို့တည်းမဟုတ်

(၂) မည်သူမဆို၊ စာတမ်းအမှတ်အသားကို သက်သေခံအဖြစ် တင်ပြစေရန် ဥပဒေအရ ဆင့်ဆိုခြင်းခံရပြီးနောက်၊ သို့တည်းမဟုတ် အခိုင်းခံရပြီးနောက် ထိုစာတမ်း အမှတ်အသားကို လျှို့ဝှက်ထားလျှင်၊ သို့တည်းမဟုတ် ဖျက်ဆီးလျှင်၊ သို့တည်းမဟုတ် ထိုစာတမ်း အမှတ်အသားအားလုံး၌ဖြစ်စေ၊ အချို့အဝက်၌ဖြစ်စေ အမှတ်အသားကိုဖျက်လျှင်၊ သို့တည်းမဟုတ် မထင်ရှားအောင်ပြုလျှင်၊ ထိုသူကို နှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

၂၀၅။ ။တရားမမှုတွင်ဖြစ်စေ၊ ရာဇဝတ်မှုတွင်ဖြစ်စေ သူတပါး အယောင်ဆောင်၍ ထိုကဲ့သို့ အယောင်ဆောင်အနေနှင့် မည်သူမဆို၊ မဟုတ်မမှန်ဘဲလျက် ဝန်ခံချက်ကိုဖြစ်စေ၊ ထွက်ဆိုချက်ကိုဖြစ်စေ ပြုလျှင်၊ သို့တည်းမဟုတ် စွဲချက်အတိုင်းဖြောင့်ဆိုလျှင်၊ သို့တည်းမဟုတ် အမိန့်ဆင့်စာကိုထုတ်စေလျှင်၊ သို့တည်းမဟုတ် အာမခံဖြစ်စေ၊ ခံဝန်သူဖြစ်စေပြုလျှင်၊ သို့တည်းမဟုတ် အခြား ပြုလုပ်မှုကို ပြုလျှင်၊ ထိုသူကို သုံးနှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

တရားမမှု၊ ရာဇဝတ်မှုများတွင်၊ ပြုလုပ်မှု အတွက် ဖြစ်စေ၊ မှုခင်း ကိစ္စအတွက် ဖြစ်စေ သူတပါး အယောင်ဆောင်ခြင်း။

၂၀၆။ ။တရားရုံးကဖြစ်စေ၊ စီရင်ပိုင်ခွင့် အာဏာရှိသော အခြားအရာရှိကဖြစ်စေ စီရင်ချက်ချပြီးသော၊ သို့တည်းမဟုတ် ချတန်ရာသည်ဟု မိမိသိသော စီရင်ချက်အရ၊ အစိုးရ ဘဏ္ဍာတော်အဖြစ်ဖြင့် ဖြစ်စေ၊ ငွေဒဏ်အတွက် ရရှိရန်ဖြစ်စေ ပစ္စည်းတခုခုကို၊ သို့တည်းမဟုတ် ပစ္စည်းတွင်ရှိသော အကျိုးခံစားခွင့်ကို မသိမ်းယူနိုင်စေရန် အကြံဖြင့်၊ သို့တည်းမဟုတ် တရားမမှုတွင် တရားရုံးကချပေးပြီးသော၊ သို့တည်းမဟုတ် ချပေးတန်ရာသည်ဟု မိမိသိသော ဒီကရီကိုဖြစ်စေ၊ အမိန့်ကိုဖြစ်စေ ဇာရီပြုရာတွင် ထိုပစ္စည်းကို၊ သို့တည်းမဟုတ် ထိုပစ္စည်းတွင်ရှိသော အကျိုးခံစားခွင့်ကို မသိမ်းယူနိုင်စေရန်အကြံဖြင့် မည်သူမဆို၊ ထိုပစ္စည်းကို၊ သို့တည်းမဟုတ် ထိုပစ္စည်းရှိ အကျိုးခံစားခွင့်ကို လိမ်လည်လှည့်ဖြားလိုသော သဘောနှင့် ဖယ်ရှားခြင်း၊ သို့တည်းမဟုတ် ဝှက်သိမ်းခြင်း၊ သို့

အစိုးရ ဘဏ္ဍာ တော် အဖြစ်ဖြင့် ဖြစ်စေ၊ ဇာရီပြုရာ၌ ဖြစ်စေ ပစ္စည်းကို မသိမ်းယူနိုင်အောင်၊ လိမ်လည်လှည့်ဖြားလိုသော သဘောနှင့် ဖယ်ရှားခြင်း၊ ဝှက်သိမ်းခြင်း။

တည်းမဟုတ် သူတပါးသို့လွှဲပြောင်းခြင်း၊ သို့တည်းမဟုတ် သူတပါးသို့ပေးအပ်ခြင်းပြုလျှင်၊ ထိုသူကို နှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အစိုးရ အဏ္ဏာ ပေါ်အဖြစ်ဖြင့် ဖြစ်စေ၊ ဇာရီပြုရာ၌ဖြစ်စေ ပစ္စည်းကို မသိမ်းယူနိုင်အောင် လိမ်လည်လှည့်ဖြားလိုသော သဘောဖြင့်တောင်းဆိုခြင်း။

၂၀၇။ ။တရားရုံးကဖြစ်စေ၊ စီရင်ပိုင်ခွင့် ဒ အာဏာရှိသော အခြားအရာရှိကဖြစ်စေ စီရင်ချက်ချပြီးသော၊ သို့တည်းမဟုတ် ချတန်ရာသည်ဟု မိမိသိသော စီရင်မှုအရ အစိုးရအာဏာတော်အဖြစ်ဖြင့်ဖြစ်စေ၊ ငွေဒဏ်အတွက် ရရှိရန်ဖြစ်စေ ပစ္စည်းတခုခုကို၊ သို့တည်းမဟုတ် ပစ္စည်းတွင်ရှိသော အကျိုးခံစားခွင့်ကို မသိမ်းယူနိုင်စေရန် အကြံဖြင့်၊ သို့တည်းမဟုတ် တရားမမှုတွင် တရားရုံးကချပေးပြီးသော၊ သို့တည်းမဟုတ် ချပေးတန်ရာသည်ဟု မိမိသိသော ဒီကရီကိုဖြစ်စေ၊ အမိန့်ကိုဖြစ်စေ ဇာရီပြုရာတွင် ထိုပစ္စည်းကို၊ သို့တည်းမဟုတ် ထိုပစ္စည်းတွင်ရှိသော အကျိုးခံစားခွင့်ကို မသိမ်းယူနိုင်စေရန် အကြံဖြင့် မည်သူမဆို ထိုပစ္စည်းအတွက်သော်၎င်း၊ ထိုပစ္စည်းတွင်ရှိသော အကျိုးခံစားခွင့်အတွက်သော်၎င်း မိမိ၌ပိုင်ဆိုင်ခွင့်ဖြစ်စေ၊ တောင်းဆိုပိုင်ခွင့်ဖြစ်စေ မရှိဟု မိမိသိလျက်နှင့်၊ သို့တည်းမဟုတ် ထိုပစ္စည်းကိုသော်၎င်း၊ ထိုပစ္စည်းတွင်ရှိသော အကျိုးခံစားခွင့်ကိုသော်၎င်း ဆိုင်ပိုင်သော အခွင့်နှင့်စပ်လျဉ်း၍ လှည့်ဖြားခြင်းကို မိမိပြုသည်ဟု မိမိသိလျက်နှင့် ထိုပစ္စည်းကို၊ သို့တည်းမဟုတ် ထိုပစ္စည်းတွင်ရှိသော အကျိုးခံစားခွင့်ကို လိမ်လည်လှည့်ဖြားလိုသော သဘောဖြင့် လက်ခံခြင်း၊ သို့တည်းမဟုတ် ရရှိခြင်း၊ သို့တည်းမဟုတ် တောင်းဆိုခြင်းပြုလျှင်၊ ထိုသူကို နှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ပေးဆပ်ရန် မရှိ သော ကြွေးမြီအတွက် လိမ်လည်လှည့်ဖြားလိုသော သဘောနှင့်ဒီကရီအချခံခြင်း။

၂၀၈။ ။ပေးဆပ်စေရန် ကြွေးမြီမရှိဘဲလျက် ရှိကြောင်းဖြင့်တဦးတယောက်က တရားမကြောင်း စွဲဆိုသောအမှုတွင်၊ သို့တည်းမဟုတ် ပေးဆပ်စေရန်ရှိသည်ထက် ပိုသောကြွေးမြီအတွက် ထိုသူကတရားမကြောင်း စွဲဆိုသောအမှုတွင်၊ သို့တည်းမဟုတ် ထိုသူဆိုင်ပိုင်ခွင့် မရှိသော ပစ္စည်းအတွက်ဖြစ်စေ၊ ထိုပစ္စည်းတွင်ရှိသော အကျိုးခံစားခွင့်အတွက်ဖြစ်စေ ထိုသူက တရားမကြောင်း စွဲဆိုသောအမှုတွင်၊ မည်သူမဆို၊ လိမ်လည်လှည့်ဖြားလိုသောသဘောနှင့် မိမိအပေါ်၌ ဒီကရီဖြစ်စေ၊ အမိန့်ဖြစ်စေ ကျစေလျှင်၊ သို့တည်းမဟုတ် ဒီကရီဖြစ်စေ၊ အမိန့်ဖြစ်စေ ချမှတ်သည်ကိုခံလျှင်၊ သို့တည်းမဟုတ် မည်သူမဆို၊ လိမ်လည်လှည့်ဖြားလိုသောသဘောနှင့် ဒီကရီတခုဖြစ်စေ၊ အမိန့်တခုဖြစ်စေ ကျေအေးပြေငြိမ်းပြီးသော်လည်း၊ ထိုကျေအေးပြေငြိမ်းပြီးသော ဒီကရီကိုဖြစ်စေ၊ အမိန့်ကိုဖြစ်စေ ဇာရီပြုစေလျှင်၊ သို့တည်းမဟုတ်ဇာရီပြုသည်ကိုခံလျှင်၊ သို့တည်းမဟုတ်ဒီကရီဖြစ်စေ၊ အမိန့်ဖြစ်စေ ကျေအေးပြေငြိမ်းပြီးခြင်းနှင့်သက်ဆိုင်သောအရာဝတ္ထုအတွက် ဒီကရီကိုဖြစ်စေ၊ အမိန့်ကိုဖြစ်စေ ဇာရီပြုစေလျှင်၊ သို့တည်းမဟုတ် ဇာရီပြုသည်ကိုခံလျှင်၊ ထိုသူကို နှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဥပမာ။

မောင်ဖြူသည် မောင်နီအပေါ်၌ တရားမကြောင်းစွဲဆို၏။ မောင်ဖြူ ဒီကရီအနိုင်ရတန်ရာသည်ကိုမောင်နီသိ၏။ ထိုသို့သိသဖြင့် ပို၍များသော ငွေအတွက် မောင်မြက မောင်နီ[illegible]

သောအမှုတွင် မောင်နီသည် လိမ်လည်လှည့်ဖြားလိုသော သဘောဖြင့်၊ မိမိအပေါ်၌စီရင်ချက်ချမှတ်ခြင်းကိုခံသည်။ အမှန်စင်စစ်မှာ မှားစွဲသော မောင်မဲသည် မောင်နီအပေါ်၌ တောင်းဆိုပိုင်ခွင့်ရှိသူမဟုတ်ချေ။ မောင်နီထိုသို့စီရင်ချက်ချမှတ်ခြင်းခံသည်မှာ မောင်မဲက သူ့အတွက်ဖြစ်စေ၊ မောင်နီ၏ အကျိုးအတွက်ဖြစ်စေ မောင်ဖြူအနိုင်ရသော ဒီကရီအရ၊ မောင်နီ၏ ပစ္စည်းရောင်းရငွေထဲမှ ခွဲဝေယူလိုသောကြောင့်ဖြစ်သည်။ မောင်နီသည် ဤပုဒ်မအရ ပြစ်မှုကျူးလွန်သည်။

မရိုးမဖြောင့်သောသဘောနှင့် တရားရုံးတွင် မမှန်သော တောင်းဆုချက်ပြုခြင်း။

၂၀၉။ ။လိမ်လည်လှည့်ဖြားလိုသော သဘောနှင့်ဖြစ်စေ၊ မရိုးမဖြောင့်သော သဘောနှင့်ဖြစ်စေ၊ တဦးတယောက်သောသူကို နစ်နာစေရန်၊ သို့တည်းမဟုတ် စိတ်ပူပြင်စေရန်အကြံနှင့်ဖြစ်စေ မည်သူမဆို တောင်းဆိုချက်တခုခုကို မမှန်ကြောင်းသိလျက်နှင့် တရားရုံးတွင်ပြုလျှင် ထိုသူကို နှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

မရထိုက်သော ငွေအတွက် လိမ်လည် လှည့်ဖြားလိုသော သဘောနှင့် ဒီကရီရယူခြင်း။

၂၁၀။ ။မရထိုက်သော ငွေအတွက်ဖြစ်စေ၊ ရထိုက်သော ငွေထက်ပိုမို၍ဖြစ်စေ၊ မိမိရထိုက်ခွင့်မရှိသော ပစ္စည်းတခုခုအတွက်ဖြစ်စေ၊ ထိုပစ္စည်းတွင်ရှိသော အကျိုးခံစားခွင့် တခုခုအတွက်ဖြစ်စေ မည်သူမဆို၊ လိမ်လည်လှည့်ဖြားလိုသော သဘောနှင့် တဦးတယောက်သောသူအပေါ်တွင် ဒီကရီကိုသော်၎င်း၊ အမိန့်ကိုသော်၎င်း ရယူလျှင်၊ သို့တည်းမဟုတ် မည်သူမဆို၊ လိမ်လည်လှည့်ဖြားလိုသောသဘောနှင့် ဒီကရီဖြစ်စေ၊ အမိန့်ဖြစ်စေ ကျေအေးပြေငြိမ်းပြီးသော်လည်း၊ ထိုသူအပေါ်တွင် ထိုကျေအေးပြေငြိမ်းပြီးသော ဒီကရီကိုဖြစ်စေ၊ အမိန့်ကိုဖြစ်စေ ဇာရီပြုစေလျှင်၊ သို့တည်းမဟုတ် ဒီကရီဖြစ်စေ၊ အမိန့်ဖြစ်စေ ကျေအေးပြေငြိမ်းပြီးခြင်းနှင့် သက်ဆိုင်သော အရာဝတ္ထုအတွက် ဒီကရီကိုဖြစ်စေ၊ အမိန့်ကိုဖြစ်စေ ဇာရီပြုစေလျှင်၊ သို့တည်းမဟုတ် မည်သူမဆို၊ လိမ်လည်လှည့်ဖြားလိုသော သဘောနှင့် အဆိုပါပြုလုပ်မှုတခုခုကို မိမိ၏အမည်နှင့် အပြုခံလျှင်၊ သို့တည်းမဟုတ် ပြုခွင့်ပေးလျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေချမှတ်ရမည်။

နစ်နာစေရန် အကြံ နှင့် ပြစ်မှုကျူးလွန်သည်ဟု မမှန် စွပ်စွဲခြင်း။

၂၁၁။ ။မှန်သော၊ သို့တည်းမဟုတ် ဥပဒေနှင့်ညီသောအကြောင်း ယုတ္တိမရှိဟု သိလျက်နှင့် မည်သူမဆို၊ တဦးတယောက်သောသူကို နစ်နာစေရန်အကြံဖြင့် ထိုသူအပေါ်၌ ရာဇဝတ်မှုစွဲဆိုလျှင်၊ သို့တည်းမဟုတ် စွဲဆိုစေလျှင်၊ သို့တည်းမဟုတ် ထိုသူအပေါ်တွင် ပြစ်မှုကျူးလွန်သည်ဟု မမှန်စွပ်စွဲလျှင်၊ ထိုသူကို နှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ထို့ပြင် ထိုသို့ရာဇဝတ်မှုစွဲဆိုခြင်းသည် သေဒဏ်ဖြစ်စေ၊ တသက်တကျွန်းဒဏ်ဖြစ်စေ၊ ခုနစ်နှစ်၊ သို့တည်းမဟုတ် ခုနစ်နှစ်ထက်ပိုသော ထောင်ဒဏ်ဖြစ်စေ ချမှတ်ခြင်းခံထိုက်သော ပြစ်မှုကို ကျူးလွန်သည်ဟု မမှန်စွပ်စွဲ၍ စွဲဆိုခြင်းဖြစ်လျှင်၊ စွဲဆိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

၂၁၂။ ။ပြစ်မှုတခုကို ကျူးလွန်ပြီးရာတွင် တဦးတယောက်သောသူအား ပြစ်မှုကျူးလွန်သူဖြစ်သည်ဟု သိလျက်နှင့်ဖြစ်စေ၊ ယုံကြည်ရန်အကြောင်းရှိလျက်နှင့်ဖြစ်စေ ထိုသူကိုဥပဒေနှင့်အညီ စီရင်ထိုက်သော ပြစ်ဒဏ်မှ ကာကွယ်ရန်အကြံဖြင့် မည်သူမဆို၊ ထိုသူအားလက်သင့်ခံလျှင်၊ သို့တည်းမဟုတ် ဝှက်သိမ်းလျှင်၊ ထိုကျူးလွန်သောပြစ်မှုသည် သေဒဏ်ထိုက်သင့်သော ပြစ်မှုဖြစ်ပါက၊ လက်သင့်ခံသော၊ သို့တည်းမဟုတ်ဝှက်သိမ်းသောသူကို ငါးနှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ပြစ်မှုကျူးလွန်သူကို လက်သင့်ခံခြင်း။

သေဒဏ် ထိုက်သင့်သော ပြစ်မှုဖြစ်ပါက။

ထို့ပြင် ထိုကျူးလွန်သော ပြစ်မှုသည် တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိထောင်ဒဏ်ဖြစ်စေ ထိုက်သင့်သောပြစ်မှုဖြစ်ပါက လက်သင့်ခံသော၊ သို့တည်းမဟုတ် ဝှက်သိမ်းသောသူကို သုံးနှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

တသက်တကျွန်းဒဏ် ဖြစ်စေ၊ ထောင်ဒဏ် ဖြစ်စေ ထိုက်သင့်သော ပြစ်မှုဖြစ်ပါက။

ထို့ပြင် ထိုကျူးလွန်သောပြစ်မှုသည်တနှစ်မှ ဆယ်နှစ်အောက်အထိ ထောင်ဒဏ်ထိုက်သင့်သောပြစ်မှုဖြစ်ပါက၊ အဆိုပါကျူးလွန်သော ပြစ်မှုအတွက် အများဆုံးပြဋ္ဌာန်းထားသောကာလအပိုင်းအခြား၏လေးပုံတပုံထိ ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် ပြင်ပတွင်ပြုသော ပြုလုပ်မှုသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ကျူးလွန်ခဲ့သော် ပုဒ်မ ၃၀၂၊ ၃၀၄၊ ၃၈၂၊ ၃၉၂၊ ၃၉၃၊ ၃၉၄၊ ၃၉၅၊ ၃၉၆၊ ၃၉၇၊ ၃၉၈၊ ၃၉၉၊ ၄၀၂၊ ၄၃၅၊ ၄၃၆၊ ၄၄၉၊ ၄၅၀၊ ၄၅၇၊ ၄၅၈၊ ၄၅၉ နှင့် ၄၆၀ တခုခုအရ ပြစ်ဒဏ်ထိုက်သင့်သော ပြုလုပ်မှုမျိုးဖြစ်လျှင်၊ ထိုပြုလုပ်မှုသည် ဤပုဒ်မပါ "ပြစ်မှု" ဆိုသော စကား၌အကျုံးဝင်သည်။ ထို့ပြင် အဆိုပါပြုလုပ်မှုများ အတွက်ဤပုဒ်မ၏ကိစ္စအလို့ငှါ နိုင်ငံတော်အတွင်း၌ ပြစ်မှုကျူးလွန်ထင်ရှားဘိသကဲ့သို့ ပြစ်ဒဏ်စီရင်ခြင်းခံထိုက်သည်ဟု မှတ်ယူရမည်။

**ကင်းလွတ်ချက်။** ။ဤပြဋ္ဌာန်းချက်သည် ပြစ်မှုကျူးလွန်သူကလင်ဖြစ်လျှင်၊ မယားကထိုလင်ကိုလက်သင့်ခံခြင်းနှင့်သော်၎င်း၊ ဝှက်သိမ်းခြင်းနှင့်သော်၎င်း၊ ပြစ်မှုကျူးလွန်သူကမယားဖြစ်လျှင်၊ လင်ကထိုမယားကိုလက်သင့်ခံခြင်းနှင့်သော်၎င်း၊ ဝှက်သိမ်းခြင်းနှင့်သော်၎င်း မသက်ဆိုင်။

ဥပမာ။

မောင်မဲဓါးပြမှုကိုကျူးလွန်သည်ဟု မောင်ဖြူသည်သိလျက်နှင့် ဥပဒေနှင့်အညီ မောင်မဲကိုပြစ်ဒဏ်ချမှတ်ခြင်းမှ ကာကွယ်ရန် မောင်မဲကိုမောင်ဖြူကဝှက်သိမ်းထား၏။ မောင်မဲသည် တသက်တကျွန်းဒဏ်ချမှတ်ခြင်းခံထိုက်သဖြင့်၊ မောင်ဖြူမှာသုံးနှစ်ထက်မပိုသော ထောင်ဒဏ်တမျိုးမျိုးစီရင်ခြင်းခံထိုက်သည်။ ထို့ပြင် ငွေဒဏ်လည်း ချမှတ်ခြင်းခံထိုက်သည်။

ပြစ်မှုကျူးလွန်သူကို ပြစ်ဒဏ်စီရင်ခြင်းမှ ကာကွယ်ရန် လက်ဆောင်စသည်တို့ကို ယူခြင်း။

၂၁၃။ ။ပြစ်မှုတခုခုကို မိမိကထိမ်ချန်ခြင်းအတွက်ဖြစ်စေ၊ ပြစ်မှုတခုခုအတွက် ဥပဒေနှင့်အညီ ချမှတ်ထိုက်သော ပြစ်ဒဏ်မှ တဦးတယောက်သောသူကို မိမိက ကာကွယ်ခြင်းအတွက်ဖြစ်စေ၊ တဦးတယောက်သောသူအား ဥပဒေနှင့်အညီ ပြစ်ဒဏ်ချမှတ်ခြင်းခံရစေရန် တရားစွဲဆိုမှုကို မိမိကမပြုခြင်းအတွက်ဖြစ်စေ မည်သူမဆို၊ မိမိအတွက်သော်၎င်း၊ သူတပါးအတွက်သော်၎င်း တံစိုးကိုလက်ခံလျှင်၊ သို့တည်းမဟုတ် ရယူရန်အားထုတ်လျှင်၊ သို့တည်းမဟုတ် လက်ခံရန် သဘောတူလျှင်၊ သို့တည်းမဟုတ် မိမိသို့သော်၎င်း၊ သူတပါးသို့သော်၎င်း ပစ္စည်းပြန်ပေးခြင်းကို လက်ခံလျှင်၊ သို့တည်းမဟုတ် ရယူရန်အားထုတ်လျှင်၊ သို့တည်းမဟုတ်လက်ခံရန်သဘောတူလျှင်၊ ထိုသူကို

သေဒဏ် ထိုက်သောပြစ်မှုဖြစ်ပါက။

အဆိုပါပြစ်မှုသည် သေဒဏ်ထိုက်သောပြစ်မှုဖြစ်ပါက၊ ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

တသက်တကျွန်းဒဏ် ဖြစ်စေ၊ ထောင်ဒဏ် ဖြစ်စေ ချမှတ်ခြင်း ခံထိုက်သော ပြစ်မှု ဖြစ်ပါက။

ထို့ပြင် အဆိုပါပြစ်မှုသည် တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိထောင်ဒဏ်ဖြစ်စေ ထိုက်သော ပြစ်မှုဖြစ်ပါက၊ သုံးနှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။ ထို့ပြင် အဆိုပါပြစ်မှုသည် ဆယ်နှစ်အောက်လျော့သည့် ထောင်ဒဏ်ထိုက်သော ပြစ်မှုဖြစ်ပါက၊ ထိုပြစ်မှုအတွက် အမြင့်ဆုံးပြဋ္ဌာန်းထားသော ကာလအပိုင်းအခြား၏ လေးပုံတပုံထိ ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ပြစ်မှု ကျူးလွန်သူကို ကာကွယ် ခြင်း အတွက် လက်ဆောင် ပေးခြင်း၊ သို့တည်းမဟုတ်ပစ္စည်းပြန်အပ်ခြင်း။

၂၁၄။ ။တဦးတယောက်သောသူက ပြစ်မှုတခုခုကို ထိမ်ချန်ခြင်းအတွက်ဖြစ်စေ၊ ပြစ်မှုတခုခုအတွက် ဥပဒေနှင့်အညီ ပြစ်ဒဏ်ချမှတ်ခြင်း ခံထိုက်သူကို ကာကွယ်ခြင်းအတွက်ဖြစ်စေ၊ အခြားသူတဦးအား ဥပဒေနှင့်အညီ ပြစ်ဒဏ်စီရင်ခြင်းခံရစေရန် တရားစွဲဆိုမှုကို မပြုခြင်းအတွက်ဖြစ်စေ မည်သူမဆို၊ ထိုသူအား တံစိုးပေးလျှင်၊ သို့တည်းမဟုတ် ပေးစေလျှင်၊ သို့တည်းမဟုတ် ကမ်းလှမ်းလျှင်၊ သို့တည်းမဟုတ် ပေးရန်သော်၎င်း၊ ပေးစေရန်သော်၎င်း သဘောတူလျှင်၊ သို့တည်းမဟုတ် မည်သူမဆို၊ ထိုသူအား ပစ္စည်းပြန်အပ်ရန်သော်၎င်း၊ ပြန်အပ်စေရန်သော်၎င်း ကမ်းလှမ်းလျှင်၊ သို့တည်းမဟုတ် သဘောတူလျှင်၊

သေဒဏ်ထိုက်သော ပြစ်မှုဖြစ်ပါက။

အဆိုပါ ပြစ်မှုသည် သေဒဏ်ထိုက်သော ပြစ်မှုဖြစ်ပါက၊ ခုနစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

တသက်တကျွန်းဒဏ် ဖြစ်စေ၊ ထောင်ဒဏ်ဖြစ်စေထိုက်သော ပြစ်မှုဖြစ်ပါက။

ထို့ပြင် အဆိုပါ ပြစ်မှုသည် တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိထောင်ဒဏ်ဖြစ်စေ ထိုက်သော ပြစ်မဖြစ်ပါက၊ သုံးနှစ်ထိထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ထိုပြင် အဆိုပါပြစ်မှုသည် ဆယ်နှစ်အောက်လျော့သည့် ထောင်ဒဏ်ထိုက်သော ပြစ်မှုဖြစ်ပါက၊ ထိုပြစ်မှုအတွက် အများဆုံးပြဋ္ဌာန်းထားသော ကာလအပိုင်းအခြား၏ လေးပုံတပုံတိ ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ကင်းလွတ်ချက်။** ။ပုဒ်မ ၂၁၃ နှင့် ၂၁၄ များပါ ပြဋ္ဌာန်းချက်များသည် ဥပဒေနှင့်အညီ ပြေငြိမ်းနိုင်သော ပြစ်မှုများနှင့်မသက်ဆိုင်။

နိုးရာပါ ပစ္စည်း စသည်တို့ကို ပြန်ရစေရန် ကူညီသည့်အတွက်၊ လက်ဆောင် ယူခြင်း။

၂၁၅။ ။ဤရာဇသတ်ကြီးအရ၊ ပြစ်ဒဏ်ချမှတ်ခြင်းခံထိုက်သော ပြစ်မှုတခုခုကို တဦးတယောက်သောသူက ကျူးလွန်သဖြင့် ထိုသူမှာ ရွှေပြောင်းနိုင်သောပစ္စည်း လက်လွတ်သည်ကို ထိုသူပြန်ရစေရန် မည်သူမဆို၊ ထိုသူကို ကူညီဟန်ဆောင်၍ဖြစ်စေ၊ ကူညီသည့်အတွက်ဖြစ်စေ တံစိုးယူလျှင်၊ သို့တည်းမဟုတ် တံစိုးယူရန်သဘောတူလျှင် အကယ်၍ ပြစ်မှုကျူးလွန်သူကို ထိုသူက ဖမ်းဆီးစေ၍ ပြစ်မှုထင်ရှားစီရင်ခြင်းခံရစေရန် စွမ်းအားရှိသမျှ နည်းလမ်းအရပ်ရပ်ကို အသုံးမပြုပါက၊ ထိုသူကို နှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အချုပ်မှ ထွက်ပြေးသော ပြစ်မှု ကျူးလွန်သူကိုဖြစ်စေ၊ ဖမ်းဆီးရန် အမိန့်ချမှတ်ခြင်းခံရသော ပြစ်မှုကျူးလွန်သူကို ဖြစ်စေ လက်သင့်ခံခြင်း။

၂၁၆။ ။ပြစ်မှုထင်ရှားစီရင်ခြင်းခံရသောသူဖြစ်စေ၊ ပြစ်မှုဖြင့် စွပ်စွဲခြင်း ခံရသူဖြစ်စေ၊ ထိုပြစ်မှုအတွက် ဥပဒေနှင့်အညီ ချုပ်ထားရာမှ ထွက်ပြေးသောအခါ၊ သို့တည်းမဟုတ် ပြည်သူ့ဝန်ထမ်းတဦးသည် မိမိရာထူးအလျောက်ဥပဒေနှင့်အညီ ရရှိသော အာဏာများကို ဆောင်ရွက်ရာတွင် တဦးတယောက်သောသူအား ပြစ်မှုတခုခုအတွက် ဖမ်းဆီးစေရန် အမိန့်ထုတ်သောအခါ၊ မည်သူမဆို၊ ထိုသို့ထွက်ပြေးကြောင်းကို၊ သို့တည်းမဟုတ်ထိုသို့ဖမ်းဆီးစေရန် ထိုသို့အမိန့်ထုတ်ပြီးဖြစ်ကြောင်းကို သိလျက်နှင့်ထိုသူအား ဖမ်းဆီးခြင်းမှကာကွယ်ရန်အကြံဖြင့် ထိုသူကို လက်သင့်ခံလျှင်၊ သို့တည်းမဟုတ်ဝှက်သိမ်းထားလျှင်၊ ထိုသို့လက်သင့်ခံသော၊ သို့တည်းမဟုတ် ဝှက်သိမ်းထားသောသူကို အောက်ပါအတိုင်း ပြစ်ဒဏ်ချမှတ်ရမည်။

သေဒဏ်ထိုက်သော ပြစ်မှုဖြစ်ပါက။

ထိုသူအချုပ်ခံရသောပြစ်မှုသည်၊ သို့တည်းမဟုတ် ထိုသူအား ဖမ်းဆီးစေရန် အမိန့်ထုတ်ပြန်သောပြစ်မှုသည် သေဒဏ်ထိုက်သော ပြစ်မှုဖြစ်ပါက၊ ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

တသက်တကျွန်းဒဏ်ဖြစ်စေ၊ ထောင်ဒဏ် ဖြစ်စေ ထိုက်သော ပြစ်မှုဖြစ်ပါက။

အဆိုပါပြစ်မှုသည် တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ်ဖြစ်စေ ထိုက်သောပြစ်မှုဖြစ်ပါက၊ ငွေဒဏ်နှင့်သော်၎င်း၊ ငွေဒဏ်မပါဘဲသော်၎င်း သုံးနှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည်။

ထို့ပြင် အဆိုပါပြစ်မှုသည် တနှစ်မှ ဆယ်နှစ်အောက်အထိ ထောင်ဒဏ်ထိုက်သော ပြစ်မှု ဖြစ်ပါက၊ ထိုပြစ်မှုအတွက်အများဆုံးပြဋ္ဌာန်းထားသော ကာလအပိုင်းအခြား၏ လေးပုံတပုံထိ ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဤပုဒ်မပါ "ပြစ်မှု" ဆိုသောစကားတွင် တဦးတယောက်သောသူအား ပြည်ထောင်စု မြန်မာနိုင်ငံတော်အပ၌ ပြစ်မှုကျူးလွန်ထင်ရှားသည်ဟု အဆိုရှိသည်လည်းဖြစ်၍ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်းတွင် ပြစ်မှုကျူးလွန်ထင်ရှားလျှင် ပြစ်ဒဏ်စီရင်ခြင်းခံထိုက်သည် လည်းဖြစ်သော ပြုလုပ်မှုသော်၎င်း၊ ပျက်ကွက်မှုသော်၎င်း၊ ထို့ပြင် ပြည်ထောင်ချင်းချင်း ရာဇဝတ်သင့်သူ တောင်းဆိုပေးအပ်ရေးဆိုင်ရာ ဥပဒေအရဖြစ်စေ၊ အခြားနည်းဖြစ်စေ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်းတွင် ဖမ်းဆီးခြင်းခံထိုက်သော၊ သို့တည်းမဟုတ် ချုပ် ထားခြင်းခံထိုက်သော ပြုလုပ်မှုသော်၎င်း၊ ပျက်ကွက်မှုသော်၎င်း ပါဝင်သည်။ ထို့ပြင်အဆိုပါ ပြုလုပ်မှုအတွက်ဖြစ်စေ၊ ပျက်ကွက်မှုအတွက်ဖြစ်စေ တရားခံသည် ပြည်ထောင်စု နိုင်ငံတော် အတွင်းတွင် ပြစ်မှုကျူးလွန်ထင်ရှားဘိသကဲ့သို့ ဤပုဒ်မအလို့ငှါ ပြစ်ဒဏ်စီရင်ခြင်းခံထိုက်သည် ဟု မှတ်ယူရမည်။

**ကင်းလွတ်ချက်။** ။ဤပြဋ္ဌာန်းချက်သည် ဖမ်းဆီးခံရမည့်သူက လင်ဖြစ်လျှင်၊ မယားက ထိုလင်ကို လက်သင့်ခံခြင်းနှင့်သော်၎င်း၊ ဝှက်သိမ်းခြင်းနှင့်သော်၎င်း၊ ဖမ်းဆီးခံရမည့်သူက မယားဖြစ်လျှင်၊ လင်က ထိုမယားကိုလက်သင့်ခံခြင်းနှင့်သော်၎င်း၊ ဝှက်သိမ်းခြင်းနှင့်သော်၎င်း မသက်ဆိုင်။

**လုယက်သူများကို ဖြစ်စေ၊ ဓါးပြများကို ဖြစ်စေ လက်သင့်ခံသည့်အတွက် ပြစ်ဒဏ်။**

၂၁၆-က။ ။လူအချို့သည် လုယက်မှုကိုဖြစ်စေ၊ ဓါးပြမှုကိုဖြစ်စေ ကျူးလွန်တော့မည်ဟုသော်၎င်း၊ မကြာသေးမီက ကျူးလွန်ခဲ့ပြီးဖြစ်သည်ဟုသော်၎င်း သိလျက်နှင့်ဖြစ်စေ၊ ယုံကြည်ရန် အကြောင်းရှိလျက်နှင့်ဖြစ်စေ ထိုလုယက်မှုကျူးလွန်ခြင်းကိုသော်၎င်း၊ ထိုဓါးပြမှု ကျူးလွန်ခြင်းကိုသော်၎င်း လွယ်ကူစေရန် အကြံဖြင့်၊ သို့တည်းမဟုတ် ထိုသူအားလုံးကိုသော်၎င်း၊ တဦးဦးကိုသော်၎င်း ပြစ်ဒဏ်ချမှတ်ခြင်းမှ ကာကွယ်ရန်အကြံဖြင့် မည်သူမဆို၊ ထိုသူအားလုံးကိုဖြစ်စေ၊ တဦးဦးကိုဖြစ်စေ လက်သင့်ခံလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ အလုပ်ကြမ်းနှင့် ထောင်ဒဏ်ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

**ရှင်းလင်းချက်။** ။ဤပုဒ်မအလို့ငှါ၊ လုယက်မှုဖြစ်စေ၊ ဓါးပြမှုဖြစ်စေ ကျူးလွန်ရန် ကြံစည်ခြင်းသည်၊ သို့တည်းမဟုတ် ကျူးလွန်ခဲ့ခြင်းသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း၌ဖြစ်သည်၊ အပ၌ဖြစ်သည်ဟူသော အချက်မှာ အရေးပါအရာရောက်သော အချက်မဟုတ်။

**ကင်းလွတ်ချက်။** ။ဤပြဋ္ဌာန်းချက်သည် ပြစ်မှုကျူးလွန်သူက လင်ဖြစ်လျှင်၊ မယားက ထိုလင်ကို လက်သင့်ခံခြင်းနှင့်သော်၎င်း၊ ပြစ်မှုကျူးလွန်သူက မယားဖြစ်လျှင်၊ လင်က ထို မယားကိုလက်သင့်ခံခြင်းနှင့်သော်၎င်း မသက်ဆိုင်။

၂၁၆-ခ။ ။ * * * *

၂၁၇။ ။တဦးတယောက်သောသူကို ဥပဒေနှင့်အညီ ခံထိုက်သော ပြစ်ဒဏ်မှ ကယ်ဆယ်ရန် အကြံဖြင့်သော်၎င်း၊ ထိုသို့ ကယ်ဆယ်နိုင်တန်ရာသည်ကို သိလျက်နှင့်သော်၎င်း၊ ထိုသူ ခံထိုက်သော ပြစ်ဒဏ်အောက် လျော့သောပြစ်ဒဏ်ကို ထိုသူခံရစေရန်အကြံဖြင့်သော်၎င်း၊ ထိုသို့ ခံစေနိုင်တန်ရာသည်ကိုသိလျက်နှင့်သော်၎င်း ပစ္စည်းတခုခုကိုဥပဒေအရ ဘဏ္ဍာတော်အဖြစ်သိမ်းယူခြင်းမှ၊ သို့တည်းမဟုတ် တာဝန် တင်ထားခြင်းမှ လွတ်ကင်းစေရန် အကြံဖြင့်သော်၎င်း၊ ထိုသို့ လွတ်ကင်းစေနိုင် တန်ရာသည်ကိုသိလျက်နှင့်သော်၎င်း ပြည်သူ့ ဝန်ထမ်းဖြစ်သော သူသည် ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့် ပြည်သူ့ဝန်ထမ်း လိုက်နာရမည့် ဥပဒေ ညွှန်ကြားချက်အရဆောင်ရွက်ရမည်ကိုသိလျက်နှင့် ထိုဥပဒေ ညွှန်ကြားချက်ကို ဖီဆန်လျှင်၊ ထိုပြည်သူ့ဝန်ထမ်းကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

တဦး တယောက် သော သူအား ပြစ်ဒဏ်မှ ကယ်ဆယ်ရန် အကြံဖြင့် သော်၎င်း၊ ပစ္စည်း ကို သိမ်း ယူ ခြင်း မှ လွတ်ကင်းစေရန် အကြံဖြင့် သော်၎င်း ပြည်သူ့ ဝန်ထမ်း သည် ဥပဒေညွှန်ကြားချက်ကို ဖီဆန်ခြင်း။

၂၁၈။ ။အများပြည်သူကို၊ သို့တည်းမဟုတ် တဦးတယောက်ကို ဆုံးရှုံးစေရန် ဖြစ်စေ၊ နစ်နာစေရန်ဖြစ်စေ အကြံဖြင့်သော်၎င်း၊ ထိုသို့ဆုံးရှုံးစေနိုင်တန်ရာသည်ကို၊ သို့တည်းမဟုတ် နစ်နာစေနိုင်တန်ရာသည်ကို သိလျက်နှင့်သော်၎င်း၊ တဦးတယောက်သောသူကို ဥပဒေနှင့်အညီ ခံထိုက်သောပြစ်ဒဏ်မှ ကယ်ဆယ်ရန်အကြံဖြင့်သော်၎င်း၊ ထိုသို့ ကယ်ဆယ်နိုင်တန်ရာသည်ကို သိလျက်နှင့်သော်၎င်း၊ ပစ္စည်းတခုခုကို ဥပဒေအရ ဘဏ္ဍာတော်အဖြစ် သိမ်းယူခြင်းမှ၊ သို့တည်းမဟုတ် တာဝန်တင်ထားခြင်းမှ လွတ်ကင်းစေရန် အကြံဖြင့်သော်၎င်း၊ ထိုသို့လွတ်ကင်းစေနိုင်တန်ရာသည်ကို သိလျက်နှင့်သော်၎င်း ပြည်သူ့ဝန်ထမ်းလည်းဖြစ်၍ မှတ်တမ်းကိုဖြစ်စေ၊ အခြားရေးသားချက်ကိုဖြစ်စေ ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့်ပြုရန် တာဝန်ပေးထားခြင်းခံရသည်လည်းဖြစ်သောသူသည် မှားယွင်းသည်ဟု မိမိသိသောနည်းဖြင့်၊မှတ်တမ်းကိုဖြစ်စေ၊ ရေးသားချက်ကိုဖြစ်စေပြုလျှင်၊ ထိုပြည်သူ့ဝန်ထမ်းကို သုံးနှစ်ထိထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

တဦး တယောက် သောသူအား ပြစ်ဒဏ်မှ ကယ်ဆယ်ရန် အကြံဖြင့်သော်၎င်း၊ပစ္စည်းကို သိမ်းယူခြင်းမှ လွတ်ကင်းစေရန် အကြံဖြင့် သော်၎င်း ပြည်သူ့ ဝန်ထမ်းက မှားယွင်းသော မှတ်တမ်းကို ဖြစ်စေ၊ ရေးသားချက်ကို ဖြစ်စေ ပြုခြင်း။

၂၁၉။ ။တရားစီရင်သော မှုခင်းကိစ္စ၏ အဆင့်တခုခုတွင် ဥပဒေနှင့်ဆန့်ကျင်သည်ဟု မိမိသိသော အစီရင်ခံချက်ကိုဖြစ်စေ၊ အမိန့်ကိုဖြစ်စေ၊ ကောက်ယူချက်ကိုဖြစ်စေ၊ ဆုံးဖြတ်ချက်ကိုဖြစ်စေ ပြည်သူ့ဝန်ထမ်းဖြစ်သောသူသည်တရားမဲ့စွာ၊သို့တည်းမဟုတ် မသမာစိတ်ဖြင့်ပြုလျှင်၊ သို့တည်းမဟုတ် ချမှတ်လျှင်၊ ထိုသူကို ခုနစ်နှစ်ထိထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

တရားစီရင်သော မှုခင်း ကိစ္စတွင် ပြည်သူ့ ဝန်ထမ်း သည် ဥပဒေ နှင့် ဆန့်ကျင်၍ အစီရင်ခံချက် စသည် တို့ကို တရားမဲ့စွာပြုခြင်း။

**အာဏာ ရရှိသူက ဥပဒေနှင့် ဆန့်ကျင်၍ မိမိဆောင်ရွက်နေကြောင်း သိလျက်နှင့် စစ်ဆေးစီရင်စေရန် လွှဲအပ်တင်ပို့ခြင်း၊ သို့တည်း မဟုတ် ချုပ်ထားခြင်း။**

၂၂၀။ ။လူများအား စစ်ဆေးစီရင်စေခြင်းအတွက်သော်၎င်း၊ ချုပ်ထားစေခြင်းအတွက်သော်၎င်း လွှဲအပ်တင်ပို့ရန်၊ သို့တည်းမဟုတ် လူများအား ချုပ်ထားရန် ဥပဒေနှင့်အညီ အာဏာရှိသော ရာထူးတခုခု၌ ထမ်းရွက်နေသူသည် ထိုအာဏာကိုအသုံးပြုရာတွင် ဥပဒေနှင့် ဆန့်ကျင်၍ မိမိဆောင်ရွက်နေကြောင်းသိလျက်နှင့် တရားမဲ့စွာ၊ သို့တည်းမဟုတ် မသမာစိတ်ဖြင့် တဦးတယောက်သောသူအား စစ်ဆေးစီရင်စေခြင်းအတွက်သော်၎င်း၊ ချုပ်ထားစေခြင်းအတွက်သော်၎င်း လွှဲအပ်တင်ပို့လျှင်၊ သို့တည်းမဟုတ် ချုပ်ထားလျှင်၊ ထိုသူကို ခုနစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ဖမ်းဆီးရန် တာဝန်ရှိသော ပြည်သူ့ဝန်ထမ်းသည်၊ မဖမ်းဆီးဘဲ တမင်ပျက်ကွက်ခြင်း။**

၂၂၁။ ။ပြစ်မှုနှင့် စွဲဆိုခြင်းခံရသူကို၊ သို့တည်းမဟုတ် ပြစ်မှုအတွက် ဖမ်းဆီးခြင်းခံထိုက်သူကို ဖမ်းဆီးရန်ဖြစ်စေ၊ ချုပ်ထားရန်ဖြစ်စေ ဥပဒေနှင့်အညီ တာဝန်ရှိသော ပြည်သူ့ဝန်ထမ်းသည် ထိုသူကိုမဖမ်းဆီးဘဲ တမင်ပျက်ကွက်လျှင်၊ သို့တည်းမဟုတ် ထိုသူထွက်ပြေးသည်ကို တမင်လျစ်လျူရှုလျှင်၊ သို့တည်းမဟုတ် ထိုသူအချုပ်မှ ထွက်ပြေးသည်ကိုဖြစ်စေ၊ ထွက်ပြေးရန် အားထုတ်သည်ကိုဖြစ်စေ တမင်ကူညီလျှင်၊ ထိုပြည်သူ့ဝန်ထမ်းကို အောက်ပါအတိုင်း ပြစ်ဒဏ်ချမှတ်ရမည်။

အချုပ်ခံရသူသည်၊ သို့တည်းမဟုတ် ပြစ်မှုအတွက်ဖမ်းဆီးခြင်း ခံထိုက်သူသည် သေဒဏ်ထိုက်သော ပြစ်မှုနှင့်စွဲဆိုခံရသည်ဖြစ်လျှင်၊ သို့တည်းမဟုတ် ထိုပြစ်မှုနှင့် ဖမ်းဆီးခြင်းခံထိုက်သည်ဖြစ်လျှင်၊ ငွေဒဏ်နှင့်ဖြစ်စေ၊ ငွေဒဏ်မပါဘဲဖြစ်စေ ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည်။ သို့တည်းမဟုတ်

အချုပ်ခံရသူသည်၊ သို့တည်းမဟုတ် ပြစ်မှုအတွက် ဖမ်းဆီးခြင်းခံထိုက်သူသည် တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိထောင်ဒဏ်ဖြစ်စေ ထိုက်သောပြစ်မှုနှင့် စွဲဆိုခံရသည်ဖြစ်လျှင်၊ သို့တည်းမဟုတ် ထိုပြစ်မှုနှင့် ဖမ်းဆီးခြင်းခံထိုက်သည်ဖြစ်လျှင်၊ ငွေဒဏ်နှင့်ဖြစ်စေ၊ ငွေဒဏ်မပါဘဲဖြစ်စေ သုံးနှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည်။ သို့တည်းမဟုတ်

အချုပ်ခံရသူသည်၊ သို့တည်းမဟုတ် ပြစ်မှုအတွက် ဖမ်းဆီးခြင်းခံထိုက်သူသည် ဆယ်နှစ်အောက်လျော့သည့် ထောင်ဒဏ်ထိုက်သော ပြစ်မှုမျိုးနှင့်စွဲဆိုခံရသည်ဖြစ်လျှင်၊ သို့တည်းမဟုတ် ထိုပြစ်မှုနှင့်ဖမ်းဆီးခြင်းခံထိုက်သည်ဖြစ်လျှင်၊ ငွေဒဏ်နှင့်ဖြစ်စေ၊ ငွေဒဏ်မပါဘဲဖြစ်စေ နှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည်။

**ပြစ်ဒဏ် ချမှတ်ခြင်းခံရသူကို၊ သို့တည်း မဟုတ် ချုပ်ထားရန် ဥပဒေနှင့် အညီ အမိန့်ချခြင်း ခံရသူကို ဖမ်းဆီးရန် တာဝန် ရှိသော ပြည်သူ့ဝန်ထမ်းသည် မဖမ်းဆီးဘဲ တမင်ပျက်ကွက်ခြင်း။**

၂၂၂။ ။တရားရုံးက ပြစ်မှုတခုခုနှင့် ပြစ်ဒဏ်ချမှတ်ခြင်းခံရသူကို၊ သို့တည်းမဟုတ် ချုပ်ထားရန်ဥပဒေနှင့်အညီ အမိန့်ချခြင်းခံရသူကို ဖမ်းဆီးရန်ဖြစ်စေ၊ ချုပ်ထားရန်ဖြစ်စေ ဥပဒေနှင့်အညီ တာဝန်ရှိသော ပြည်သူ့ဝန်ထမ်းသည် ထိုသူကို မဖမ်းဆီးဘဲ တမင်ပျက်ကွက်လျှင်၊ သို့တည်းမဟုတ် ထိုသူထွက်ပြေးသည်ကို တမင်လျစ်လျူရှုလျှင်၊ သို့တည်းမဟုတ် ထိုသူအချုပ်မှ ထွက်ပြေးသည်ကိုဖြစ်စေ၊ ထွက်ပြေးရန် အားထုတ်သည်ကိုဖြစ်စေ တမင်ကူညီလျှင်၊ ထိုပြည်သူ့ဝန်ထမ်းကို အောက်ပါအတိုင်းပြစ်ဒဏ်ချမှတ်ရမည်။

အချုပ်ခံနေရသူသည်၊ သို့တည်းမဟုတ် ဖမ်းဆီးခြင်းခံထိုက်သူသည် သေဒဏ်ချမှတ်ခြင်း ခံရသူဖြစ်လျှင်၊ ငွေဒဏ်နှင့်ဖြစ်စေ၊ ငွေဒဏ်မပါဘဲဖြစ်စေ တသက်တကျွန်းဒဏ်သော်၎င်း၊ ဆယ့်လေးနှစ်ထိထောင်ဒဏ်တမျိုးမျိုးသော်၎င်း ချမှတ်ရမည်။ သို့တည်းမဟုတ်

အချုပ်ခံနေရသူသည်၊ သို့တည်းမဟုတ် ဖမ်းဆီးခြင်းခံထိုက်သူသည် တရားရုံး၏စီရင်ချက်အရဖြစ်စေ၊ ထိုစီရင်ချက်ကိုလျှော့ပေါ့ပြောင်းလဲသော အမိန့်အရဖြစ်စေ တသက်တကျွန်းဒဏ်သော်၎င်း၊ ဆယ်နှစ်၊ သို့တည်းမဟုတ် ဆယ်နှစ်ထက်ပိုသော တကျွန်းဒဏ်၊ သို့တည်းမဟုတ် ထောင်ဒဏ်သော်၎င်း ချမှတ်ခြင်းခံရသူဖြစ်လျှင်၊ ငွေဒဏ်နှင့်ဖြစ်စေ၊ ငွေဒဏ်မပါဘဲဖြစ်စေ ခုနစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည်။ သို့တည်းမဟုတ်

အချုပ်ခံနေရသူသည်၊ သို့တည်းမဟုတ် ဖမ်းဆီးခြင်းခံထိုက်သူသည် တရားရုံး၏စီရင်ချက်အရ၊ ဆယ်နှစ်အောက်လျော့သော ထောင်ဒဏ်ခံရမည့်သူဖြစ်လျှင်၊ သို့တည်းမဟုတ် ချုပ်ထားရန် ဥပဒေနှင့်အညီ အမိန့်ချခြင်းခံရသူဖြစ်လျှင်၊ သုံးနှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ၊ ချမှတ်ရမည်။

ပြည်သူ့ ဝန်ထမ်း၏ ပေါ့လျော့မှုကြောင့် အချုပ်မှ ထွက်ပြေးခြင်း။

၂၂၃။ ။ပြစ်မှုတခုခုနှင့် စွဲဆိုခံရသူကိုဖြစ်စေ၊ ပြစ်မှုထင်ရှားစီရင်ခြင်းခံရသူကိုဖြစ်စေ၊ အချုပ်တွင်ချထားရန် ဥပဒေနှင့်အညီ အမိန့်ချခြင်းခံရသူကိုဖြစ်စေ ချုပ်ထားရန်ဥပဒေနှင့်အညီ တာဝန်ရှိသောပြည်သူ့ဝန်ထမ်းသည် မိမိ၏ပေါ့လျော့မှုဖြင့် ထိုအချုပ်ခံရသူကို အချုပ်မှ ထွက်ပြေးစေလျှင်၊ ထိုပြည်သူ့ဝန်ထမ်းကို အလုပ်မဲ့နှင့် နှစ်နှစ်ထိထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

မိမိအား ဥပဒေနှင့် အညီ ဖမ်းဆီးသည်ကို ခုခံခြင်း၊ သို့တည်း မဟုတ် ဟန့်တားခြင်း။

၂၂၄။ ။မည်သူမဆို၊ မိမိအားစွဲဆိုသော ပြစ်မှုအတွက်ဖြစ်စေ၊ ပြစ်မှုထင်ရှားစီရင်သော ပြစ်မှုအတွက်ဖြစ်စေ ဥပဒေနှင့်အညီ ဖမ်းဆီးသည်ကို တမင်ခုခံလျှင်၊ သို့တည်းမဟုတ် ဥပဒေနှင့် ဆန့်ကျင်၍ ဟန့်တားလျှင်၊ သို့တည်းမဟုတ် ထိုပြစ်မှုအတွက် ဥပဒေနှင့်အညီ ချုပ်ထားရာမှ ထွက်ပြေးလျှင်၊ သို့တည်းမဟုတ် ထွက်ပြေးရန်အားထုတ်လျှင်၊ ထိုသူကို နှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ရှင်းလင်းချက်။** ။ဤပုဒ်မတွင်ပါသော ပြစ်ဒဏ်သည် စွဲဆိုရင်းပြစ်မှုအတွက်ဖြစ်စေ၊ ပြစ်မှုထင်ရှားစီရင်ရင်း ပြစ်မှုအတွက်ဖြစ်စေ ဖမ်းဆီးခြင်းခံရမည့်သူ ခံထိုက်သော၊ သို့တည်းမဟုတ် အချုပ်ခံနေရသူ ခံထိုက်သောပြစ်ဒဏ်အပြင် အပိုခံရမည့် ပြစ်ဒဏ်ဖြစ်သည်။

အခြားသူအား ဥပဒေနှင့် အညီ ဖမ်းဆီးသည်ကို ခုခံခြင်း၊ သို့တည်းမဟုတ် ဟန့်တားခြင်း။

၂၂၅။ ။မည်သူမဆို ပြစ်မှုတခုခုအတွက် အခြားသူတဦးတယောက်အား ဥပဒေနှင့်အညီ ဖမ်းဆီးသည်ကို တမင်ခုခံလျှင်၊ သို့တည်းမဟုတ် ဥပဒေနှင့်ဆန့်ကျင်၍ဟန့်တားလျှင်၊ သို့တည်းမဟုတ် ပြစ်မှုတခုခုအတွက် ဥပဒေနှင့်အညီ အခြားသူတဦးတယောက်အား ချုပ်ထားရာမှ ကယ်လွှတ်လျှင်၊ သို့တည်းမဟုတ် ကယ်လွှတ်ရန် အားထုတ်လျှင်၊

ထိုသူကို နှစ်နှစ်ထိထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ဒဏ်နှစ်ရပ်လုံးဖြစ်စေချမှတ်ရမည်။ သို့တည်းမဟုတ်

ဖမ်းဆီးခြင်းခံရမည့်သူသည်၊ သို့တည်းမဟုတ် ကယ်လွှတ်ခြင်းခံရသူသည်၊ သို့တည်းမဟုတ် ကယ်လွှတ်ရန်အားထုတ်ခြင်းခံရသူသည် တသက်တကျွန်းဒဏ်၊ သို့တည်းမဟုတ် ဆယ်နှစ်ထိ ထောင်ဒဏ်ချမှတ်ခြင်းခံထိုက်သော ပြစ်မှုနှင့် စွဲဆိုခြင်းခံရသူဖြစ်လျှင်၊ သို့တည်းမဟုတ် ထိုပြစ်မှုနှင့်ဖမ်းဆီးခြင်းခံထိုက်သူဖြစ်လျှင်၊ သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။ သို့တည်းမဟုတ်

ဖမ်းဆီးခြင်းခံရမည့်သူသည်၊ သို့တည်းမဟုတ် ကယ်လွှတ်ခြင်းခံရသူသည်၊ သို့တည်းမဟုတ် ကယ်လွှတ်ရန် အားထုတ်ခြင်းခံရသူသည် သေဒဏ်ထိုက်သော ပြစ်မှုနှင့် စွဲဆိုခြင်းခံရသူဖြစ်လျှင်၊ သို့တည်းမဟုတ် ထိုပြစ်မှုနှင့် ဖမ်းဆီးခြင်းခံထိုက်သူဖြစ်လျှင်၊ ခုနစ်နှစ်ထိထောင်ဒဏ် တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။ သို့တည်းမဟုတ်

ဖမ်းဆီးခြင်းခံရမည့်သူသည်၊ သို့တည်းမဟုတ် ကယ်လွှတ်ခြင်းခံရသူသည်၊ သို့တည်းမဟုတ် ကယ်လွှတ်ရန် အားထုတ်ခြင်းခံရသူသည် တရားရုံးစီရင်ချက်အရဖြစ်စေ၊ ထိုစီရင်ချက်ကို လျော့ပေါ့ပြောင်းလဲသည့် အမိန့်အရဖြစ်စေတသက်တကျွန်းဒဏ်သော်၎င်း၊ ဆယ်နှစ်၊ သို့တည်းမဟုတ် ဆယ်နှစ်ထက်ပိုသော တကျွန်းဒဏ်၊ သို့တည်းမဟုတ် ထောင်ဒဏ်သော်၎င်း ချမှတ်ခြင်းခံသူဖြစ်လျှင်၊ ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။ သို့တည်းမဟုတ်

ဖမ်းဆီးခြင်းခံရမည့်သူသည်၊ သို့တည်းမဟုတ် ကယ်လွှတ်ခြင်းခံရသူသည်၊ သို့တည်းမဟုတ် ကယ်လွှတ်ရန်အားထုတ်ခြင်းခံရသူသည် သေဒဏ်ချမှတ်ခြင်းခံရသူဖြစ်လျှင်၊ တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထက်မပိုသော ထောင်ဒဏ်တမျိုးမျိုးကိုဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ဥပဒေ ပြဋ္ဌာန်း ထားခြင်း မရှိသော အမှုများတွင် ပြည်သူ့ဝန်ထမ်းသည် ဖမ်းဆီးရန် ပျက်ကွက်ခြင်း၊ သို့တည်း မဟုတ် အချုပ်မှ ထွက်ပြေးသည်ကို လျစ်လျူရှုခြင်း။

၂၂၅-က။ ။ပုဒ်မ ၂၂၁၊ ၂၂၂၊ ၂၂၃ နှင့် တည်ဆဲ အခြားဥပဒေတခုခု၌ ပြဋ္ဌာန်းထားခြင်းမရှိသော အမှုတွင်၊ တဦးတယောက်သောသူကို ဖမ်းဆီးရန်ဖြစ်စေ၊ ချုပ်ထားရန်ဖြစ်စေ ဥပဒေနှင့်အညီ တာဝန်ရှိသော ပြည်သူ့ဝန်ထမ်းသည် ထိုသူကို ဖမ်းဆီးရန်ပျက်ကွက်လျှင်၊ သို့တည်းမဟုတ် ထိုသူအချုပ်မှ ထွက်ပြေးသည်ကို လျစ်လျူရှုလျှင်၊ ထိုပြည်သူ့ဝန်ထမ်းကို အောက်ပါအတိုင်း အပြစ်ဒဏ်ချမှတ်ရမည်။

(က) တမင်ပျက်ကွက်လျှင်၊ သို့တည်းမဟုတ် တမင်လျစ်လျူရှုလျှင်၊ သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။ ထို့ပြင်

(ခ) ပေါ့လျော့မှုကြောင့် ပျက်ကွက်ခြင်းကိုသော်၎င်း၊ လျစ်လျူရှုခြင်းကိုသော်၎င်း ဖြစ်စေလျှင်၊ နှစ်နှစ်ထိအလုပ်မဲ့ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဥပဒေ ပြဋ္ဌာန်းထားခြင်း မရှိသော အမှုများတွင်ဥပဒေနှင့် အညီ ဖမ်း ဆီး သည်ကို ခုခံခြင်း၊ သို့တည်း မဟုတ် ဟန့်တားခြင်း၊ သို့တည်း မဟုတ် အချုပ်မှ ထွက်ပြေးခြင်း၊ သို့တည်းမဟုတ် သူတပါးကို ကယ်လွှတ်ခြင်း။

၂၂၅-ခ။ ။မည်သူမဆို၊ ပုဒ်မ ၂၂၄၊ ၂၂၅ နှင့် တည်ဆဲဥပဒေတခုခု၌ ပြဋ္ဌာန်းထားခြင်း မရှိသော အမှုတခုခုတွင် မိမိကိုဖြစ်စေ၊ အခြားသူကိုဖြစ်စေ ဥပဒေနှင့်အညီ ဖမ်းဆီးသည်ကို တမင်ခုခံလျှင်၊ သို့တည်းမဟုတ် ဥပဒေနှင့် ဆန့်ကျင်၍ဟန့်တားလျှင်၊ သို့တည်းမဟုတ် ဥပဒေနှင့် အညီချုပ်ထားရာမှ ထွက်ပြေးလျှင်၊ သို့တည်းမဟုတ် ထွက်ပြေးရန် အားထုတ်လျှင်၊ သို့တည်းမဟုတ် အခြားသူတဦးတယောက်ကို ဥပဒေနှင့်အညီ ချုပ်ထားရာမှ ကယ်လွှတ်လျှင်၊ သို့တည်းမဟုတ် ကယ်လွှတ်ရန် အားထုတ်လျှင်၊ ထိုသူကို ခြောက်လထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

တကျွန်းသို့ ပို့ထားရာမှ ဥပဒေနှင့် ဆန့်ကျင်၍ ပြန်လာခြင်း။

၂၂၆။ ။မည်သူမဆို၊ ဥပဒေနှင့်အညီ တကျွန်းသို့ ပို့ထားရာ ကျွန်းပို့ဒဏ် ကာလ မစေ့ကုန်မီရင်း၊ ပြစ်ဒဏ်မှလွှတ်ငြိမ်းခွင့် မရဘဲလျက်ရင်း ထိုသို့တကျွန်း ပို့ထားရာမှ ပြန်လာလျှင်၊ ထိုသူကို တသက်တကျွန်းဒဏ် ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။ ထို့ပြင် တကျွန်းသို့ မပို့မီ၊ သုံးနှစ်ထက်မပိုသော အလုပ်ကြမ်းနှင့် ထောင်ဒဏ်လည်း ချမှတ်နိုင်သည်။

မပြစ်ဒဏ်မှ လွှတ်ငြိမ်းခွင့် ပေးစဉ်က ထားရှိသော စည်းကမ်းချက်ကိုဖေါက်ဖျက်ခြင်း။

၂၂၇။ ။မည်သူမဆို၊ သိလျက်နှင့် စည်းကမ်းချက်ထား၍ ပြစ်ဒဏ်မှ လွှတ်ငြိမ်းခွင့် ပေးသည်ကို လက်ခံပြီးနောက် ထိုစည်းကမ်းချက်ကို ဖေါက်ဖျက်လျှင်၊ ထိုသူကို ပြစ်ဒဏ်အရှင်းမခံရသေးပါက၊ ချမှတ်ရင်း ပြစ်ဒဏ်အတိုင်းချမှတ်ရမည်။ ချမှတ်ရင်း ပြစ်ဒဏ်အနက်အချို့ အဝက်ခံရပြီးဖြစ်လျှင်၊ ကျန်နေသေးသည့်ပြစ်ဒဏ်ချမှတ်ရမည်။

မည်သူမဆို၊ ပြစ်ဒဏ်မှ လွှတ်ငြိမ်းခွင့်ပေးစဉ်က ထားရှိသော စည်းကမ်းချက်ကို ဖေါက်ဖျက်၍ တိမ်းရှောင်သဖြင့်၊ ဤပုဒ်မအရ ပြစ်ဒဏ်စီရင်ခြင်းခံရလျှင်၊ ထိုသူကို ဤပုဒ်မ၌ ပြဋ္ဌာန်းထားသော ပြစ်ဒဏ်အပြင် ပြစ်ဒဏ်ချမှတ်သော ရာဇဝတ် တရားသူကြီးက၊ တနှစ်ထိ အလုပ်ကြမ်းနှင့် ထောင်ဒဏ်ချမှတ်ရမည်။

တရား စီရင်မှု ဆောင်ရွက်နေသော ပြည်သူ့ ဝန်ထမ်းကို တမင် စော်ကားခြင်း၊ သို့တည်းမဟုတ် ဝင်ရောက်နှောက်ယှက်ခြင်း။

၂၂၈။ ။ပြည်သူ့ဝန်ထမ်းတဦးသည် တရားစီရင်မှု ဆောင်ရွက်နေစဉ်၊ ထိုပြည်သူ့ဝန်ထမ်းကို မည်သူမဆို၊ တမင်စော်ကားလျှင်၊ သို့တည်းမဟုတ် ဝင်ရောက်နှောက်ယှက်လျှင်၊ ထိုသူကိုခြောက်လထိ အလုပ်မဲ့နှင့် ထောင်ဒဏ်ဖြစ်စေ၊ တထောင်ထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဂျူရီလူကြီး ယောင်ဆောင်ခြင်း။

၂၂၉။ ။မည်သူမဆို၊ ဥပဒေအရ ဂျူရီလူကြီးစာရင်း၌ ရေးမှတ်ခြင်း မိမိမခံထိုက်ဟု၊ သို့တည်းမဟုတ် ဂျူရီလူကြီးအဖြစ် တင်မြှောက်ခြင်း မိမိမခံထိုက်ဟု၊ သို့တည်းမဟုတ် ဂျူရီလူကြီးအဖြစ် ကျမ်းသစ္စာ မိမိမဆိုထိုက်ဟု သိသောအမှုတွင်၊ ဂျူရီလူကြီးယောင်ဆောင်၍ဖြစ်စေ၊ အခြားနည်းဖြစ်စေ ဂျူရီလူကြီးစာရင်းတွင် ရေးမှတ်ခြင်းခံစေရန်၊ သို့တည်းမဟုတ် ဂျူရီလူကြီး

အဖြစ်တင်မြှောက်ခြင်းခံရစေရန်၊ သို့တည်းမဟုတ် ဂျူရီလူကြီးအဖြစ် ကျမ်းသစ္စာဆိုနိုင်ရန် တမင်ပြုလျှင်၊ သို့တည်းမဟုတ် သိလျက်နှင့် ထိုသို့အပြုခံလျှင်၊ သို့တည်းမဟုတ်ဥပဒေနှင့် ဆန့်ကျင်၍ ဂျူရီလူကြီးစာရင်း၌ ရေးမှတ်ခြင်းမိမိခံရပြီးသည်ကို၊ သို့တည်းမဟုတ် ဂျူရီလူကြီးအဖြစ် တင်မြှောက်ခြင်း မိမိခံရပြီးသည်ကို၊ သို့တည်းမဟုတ် အဆိုပါ ဂျူရီလူကြီးအဖြစ်ဖြင့် ကျမ်းသစ္စာ မိမိဆိုပြီးသည်ကို သိလျက်နှင့် အဆိုပါ ဂျူရီလူကြီးအဖြစ်ဖြင့် မိမိအလိုအလျောက် ဆောင်ရွက်လျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

## အခန်း ၁၂။

## ဒင်္ဂါးမှစ၍ အစိုးရတံဆိပ်ခေါင်းများနှင့် သက်ဆိုင်သော ပြစ်မှုများ။

ဒင်္ဂါးဟူသော စကား၏ အဓိပ္ပါယ်ဖော်ပြချက်။

၂၃၀။ ။"ဒင်္ဂါး" ဆိုသည်မှာ၊ ကြေးငွေအဖြစ်ဖြင့်၊ အခါကာလအားလျော်စွာ သုံးစွဲစေရန်၊ နိုင်ငံတော်အစိုးရ၏၊ သို့တည်းမဟုတ် အချုပ်အချာ အာဏာပိုင်၏ အာဏာဖြင့် တံဆိပ် ခတ်နှိပ်ထုတ်ပေးသော ရွှေ၊ ငွေ၊ ကြေးစသော သတ္တုဖြစ်သည်။

ပြည်ထောင်စု နိုင်ငံတော် ဒင်္ဂါး။

ပြည်ထောင်စုနိုင်ငံတော်ဒင်္ဂါးဆိုသည်မှာ၊ ကြေးငွေအဖြစ် သုံးစွဲစေရန်၊ နိုင်ငံတော်အစိုးရ၏ အာဏာဖြင့် တံဆိပ်ခတ်နှိပ်သော၊ သို့တည်းမဟုတ် ထုတ်ပေးသော ရွှေ၊ ငွေ၊ ကြေးစသော သတ္တုဖြစ်သည်။ ထိုသို့တံဆိပ်ခတ်နှိပ်သော၊ သို့တည်းမဟုတ် ထုတ်ပေးသော သတ္တုသည် ကြေးငွေအဖြစ်သုံးစွဲခြင်းမှ ရပ်စဲပြီးဖြစ်စေကာမူ၊ ဤအခန်းပါ ကိစ္စအလို့ငှါ ပြည်ထောင်စု နိုင်ငံတော် ဒင်္ဂါးအဖြစ်ဖြင့် ဆက်လက်တည်ရှိစေရမည်။

ဥပမာများ။

(က) ကြွေစေ့များသည် ဒင်္ဂါးမဟုတ်။

(ခ) တံဆိပ်ခတ်နှိပ်ထားခြင်းမရှိသော ကြေးနီ အတုံးအခဲများသည် ကြေးငွေအဖြစ်ဖြင့် သုံးစွဲစေကာမူ၊ ဒင်္ဂါးမဟုတ်။

(ဂ) ဆုတံဆိပ်များသည် ကြေးငွေအဖြစ်ဖြင့် သုံးစွဲရန် ရည်ရွယ်ရင်းမရှိသောကြောင့် ဒင်္ဂါးမဟုတ်။

ဒင်္ဂါးကိုအတုပြုခြင်း။

၂၃၁။ ။မည်သူမဆို၊ ဒင်္ဂါးကိုအတုပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့အတုပြုရာတွင် ပါဝင်သည့် ပြုမှုတခုခုကို သိလျက်နှင့်ပြုလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ရှင်းလင်းချက်။ ။တဦးတယောက်သောသူသည် လှည့်ဖြားရန် အကြံနှင့်သော်၎င်း၊ လှည့်ဖြားခြင်း ဖြစ်တန်ရာသည်ကို သိလျက်နှင့်သော်၎င်း ဒင်္ဂါးအစစ်ကို အခြားဒင်္ဂါးတမျိုးနှင့် တူအောင်ပြုလျှင်၊ ထိုသူသည် ဤပုဒ်မကို ကျူးလွန်သည်မည်၏။

၂၃၂။ ။မည်သူမဆို၊ ပြည်ထောင်စုနိုင်ငံတော်ဒင်္ဂါးကို အတုပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့အတုပြုရာတွင် ပါဝင်သည့် ပြုမှုတခုခုကို သိလျက်နှင့် ပြုလျှင်၊ ထိုသူကို တသက်တကျွန်း ဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

*ပြည်ထောင်စု နိုင်ငံတော် ဒင်္ဂါးကိုအတုပြုခြင်း။*

၂၃၃။ ။ဒင်္ဂါးအတုပြုမှုကိစ္စအလို့ငှါ အသုံးပြုရန်ဖြစ်စေ၊ ထိုသို့ အသုံးပြုရန်ကြံရွယ်သည်ကို သိလျက်နှင့်၊ သို့တည်းမဟုတ် ယုံကြည်ရန် အကြောင်းရှိလျက်နှင့်ဖြစ်စေ မည်သူမဆို၊ ဒင်္ဂါးသွန်းရန်ပုံကို၊ သို့တည်းမဟုတ် ကိရိယာကို ပြုလုပ်လျှင်၊ သို့တည်းမဟုတ် ပြင်ဆင်လျှင်၊ သို့တည်းမဟုတ်ထိုသို့ပြုလုပ်ခြင်းကို ဖြစ်စေ၊ ပြင်ဆင်ခြင်းကိုဖြစ်စေ ပြုရာတွင် ပါဝင်သည့် ပြုမှုတခုခုကိုသော်၎င်း၊ ပြင်ဆင်မှုတခုခုကိုသော်၎င်းပြုလျှင်၊ သို့တည်းမဟုတ် ဒင်္ဂါးသွန်းရန်ပုံကိုဖြစ်စေ၊ ကိရိယာကိုဖြစ်စေ ဝယ်ယူခြင်းကိုသော်၎င်း၊ ရောင်းခြင်းကိုသော်၎င်း၊ စီမံခန့်ခွဲခြင်းကိုသော်၎င်းပြုလျှင်၊ ထိုသူကို သုံးနှစ်ထိထောင်ဒဏ် တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

*ဒင်္ဂါးအတုပြုသည့်ကိရိယာကို ပြုလုပ်ခြင်း၊ သို့တည်းမဟုတ် ရောင်းခြင်း။*

၂၃၄။ ။ပြည်ထောင်စုနိုင်ငံတော် ဒင်္ဂါးအတုပြုမှုကိစ္စအလို့ငှါ အသုံးပြုရန်ဖြစ်စေ၊ ထိုသို့ အသုံးပြုရန် ကြံရွယ်သည်ကို သိလျက်နှင့် သို့တည်းမဟုတ် ယုံကြည်ရန် အကြောင်းရှိလျက်နှင့်ဖြစ်စေ မည်သူမဆို၊ ဒင်္ဂါးသွန်းရန်ပုံကို၊ သို့တည်းမဟုတ် ကိရိယာကိုပြုလုပ်လျှင်၊ သို့တည်းမဟုတ် ပြင်ဆင်လျှင်၊ သို့တည်းမဟုတ် ထိုသို့ပြုလုပ်ခြင်းကိုဖြစ်စေ၊ ပြင်ဆင်ခြင်းကိုဖြစ်စေ ပြုရာတွင် ပါဝင်သည့်ပြုမှု တခုခုကိုသော်၎င်း၊ ပြင်ဆင်မှုတခုခုကိုသော်၎င်းပြုလျှင်၊ သို့တည်းမဟုတ် ဒင်္ဂါးသွန်းရန် ပုံကိုဖြစ်စေ၊ ကိရိယာကိုဖြစ်စေ ဝယ်ခြင်းကိုသော်၎င်း၊ ရောင်းခြင်းကိုသော်၎င်း၊ စီမံခန့်ခွဲခြင်းကိုသော်၎င်း ပြုလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

*ပြည်ထောင်စု နိုင်ငံတော် ဒင်္ဂါးအတု ပြုသည့် ကိရိယာကို ပြုလုပ်ခြင်း၊ သို့တည်းမဟုတ် ရောင်းခြင်း။*

၂၃၅။ ။ဒင်္ဂါးအတု ပြုမှုအတွက် သုံးစွဲရန်အလို့ငှါဖြစ်စေ၊ ထိုသို့ သုံးစွဲရန် ကြံရွယ်ကြောင်းသိလျက်နှင့်၊ သို့တည်းမဟုတ် ယုံကြည်ရန်အကြောင်းရှိလျက်နှင့်ဖြစ်စေ မည်သူမဆို၊ ဒင်္ဂါးသွန်းရန်ကိရိယာကို၊ သို့တည်းမဟုတ် ဝတ္ထုပစ္စည်းကို လက်ရှိထားလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

*ဒင်္ဂါး အတု ပြုမှုအတွက် သုံးစွဲရန်အလို့ငှါ ကိရိယာကို ဖြစ်စေ၊ ဝတ္ထုပစ္စည်းကို ဖြစ်စေလက်ရှိထားခြင်း။*

ယို့ပြင် အတုပြုလုပ်မည့် ဒင်္ဂါးသည် ပြည်ထောင်စု နိုင်ငံတော် ဒင်္ဂါးဖြစ်လျှင်၊ ထိုသူကို ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

*ပြည်ထောင်စု နိုင်ငံတော် ဒင်္ဂါးဖြစ်လျှင်။*

ပြည်ထောင်စု နိုင်ငံတော်အပတွင် ဒဂ်ါးအတု ပြုသည်ကို နိုင်ငံတော် အတွင်းကနေ၍ အားပေးကူညီခြင်း။

၂၃၆။ ။မည်သူမဆို ပြည်ထောင်စု နိုင်ငံတော်အပတွင် ဒင်္ဂါးအတုပြုသည်ကို နိုင်ငံတော်အတွင်းကနေ၍ အားပေးကူညီလျှင်၊ ထိုသူအား နိုင်ငံတော်အတွင်း၌ ဒင်္ဂါးအတုပြုသည်ကို အားပေးကူညီဘိသကဲ့သို့ ထပ်တူထပ်မျှ ပြစ်ဒဏ်ချမှတ်ရမည်။

ဒင်္ဂါးအတုကို နိုင်ငံတော် အတွင်းသို့ သွင်းခြင်း၊ သို့တည်း မဟုတ် အပသို့ ထုတ်ခြင်း။

၂၃၇။ ။ဒင်္ဂါးအတုဖြစ်ကြောင်းကို သိလျက်နှင့်၊ သို့တည်းမဟုတ်ယုံကြည်ရန်အကြောင်းရှိလျက်နှင့် မည်သူမဆို၊ ထိုဒင်္ဂါးအတုကို ပြည်ထောင်စုနိုင်ငံတော်အတွင်းသို့ သွင်းလျှင်၊ သို့တည်းမဟုတ် အပသို့ထုတ်လျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**ပြည်ထောင်စု နိုင်ငံတော် ဒင်္ဂါး အတုကို နိုင်ငံတော် အတွင်းသို့ သွင်းခြင်း၊ သို့တည်းမဟုတ် အပသို့ ထုတ်ခြင်း။**

၂၃၈။ ။ပြည်ထောင်စု နိုင်ငံတော် ဒင်္ဂါးအတုဖြစ်ကြောင်းကို သိလျက်နှင့်၊ သို့တည်း မဟုတ် ယုံကြည်ရန် အကြောင်းရှိလျက်နှင့် မည်သူမဆို၊ ထိုဒင်္ဂါးအတုကို ပြည်ထောင်စုနိုင်ငံတော် အတွင်းသို့သွင်းလျှင်၊ သို့တည်းမဟုတ် အပသို့ထုတ်လျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိထောင်ဒဏ် တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

လက်ရှိ ရထားသောဒင်္ဂါးသည် ဒင်္ဂါးအတု ဖြစ်မှန်း သိလျက်နှင့် ထိုဒင်္ဂါးကို ပေးအပ်ခြင်း။

၂၃၉။ ။လက်၌ရှိရထားသော ဒင်္ဂါးအတုသည် လက်ဝယ်ရစဉ်အခါက ဒင်္ဂါးအတုဖြစ်မှန်းသိလျက်နှင့် မည်သူမဆို၊ လိမ်လည်လှည့်ဖြားလိုသော သဘောနှင့်ဖြစ်စေ၊ လိမ်လည်လှည့်ဖြားမှုကို ကျူးလွန်ရန်အကြံနှင့်ဖြစ်စေ ထိုဒင်္ဂါးအတုကို သူတပါးသို့ပေးအပ်လျှင်၊ သို့တည်းမဟုတ် သူတပါးအား လက်ခံအောင် သွေးဆောင်ရန် အားထုတ်လျှင်၊ ထိုသူကို ငါးနှစ်ထိထောင်ဒဏ် တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

လက်ရှိ ရထားသော ဒင်္ဂါးသည် ပြည်ထောင်စု နိုင်ငံတော် ဒင်္ဂါးအတု ဖြစ်မှန်း သိလျက်နှင့် ထိုဒင်္ဂါးကို ပေးအပ်ခြင်း။

၂၄၀။ ။ပြည်ထောင်စု နိုင်ငံတော် ဒင်္ဂါးအတုလည်းဖြစ်၍ လက်၌ရှိရထားသည်လည်းဖြစ်သော ဒင်္ဂါးအတုသည် လက်ဝယ်ရစဉ်အခါက ပြည်ထောင်စု နိုင်ငံတော်ဒင်္ဂါးအတု ဖြစ်မှန်းသိလျက်နှင့် မည်သူမဆို၊ လိမ်လည်လှည့်ဖြားလိုသော သဘောနှင့်ဖြစ်စေ၊ လိမ်လည်လှည့်ဖြားမှုကို ကျူးလွန်ရန် အကြံနှင့်ဖြစ်စေ ထိုဒင်္ဂါးအတုကို သူတပါးသို့ ပေးအပ်လျှင်၊ သို့တည်းမဟုတ် သူတပါးအား လက်ခံအောင် သွေးဆောင်ရန်အားထုတ်လျှင်၊ ထိုသူကိုဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ပဌမ လက်ဝယ် ရစဉ်က ဒင်္ဂါး အတုဖြစ်မှန်း မသိသော ဒင်္ဂါးကို၊ ဒင်္ဂါး အစစ်အနေနှင့် ပေးအပ်ခြင်း။

၂၄၁။ ။မည်သူမဆို၊ ဒင်္ဂါးအတုကို ပဌမလက်ဝယ် ရစဉ်က ဒင်္ဂါးအတု ဖြစ်မှန်းမသိစေကာမူ နောင်အခါတွင် ဒင်္ဂါးအတုမှန်း သိလျက်နှင့် ဒင်္ဂါးအစစ်အနေဖြင့် သူတပါးသို့ ပေးအပ်လျှင်၊ သို့တည်းမဟုတ် ဒင်္ဂါးအစစ်အနေနှင့် လက်ခံအောင် သူတပါးအား သွေးဆောင်ရန် အားထုတ်လျှင်၊ ထိုသူကို နှစ်နှစ်ထိထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ အတုပြုခြင်းခံရသော ဒင်္ဂါးအစစ်တန်ဘိုး ဆယ်ဆထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ဥပမာ။**

ဒင်္ဂါးလုပ်သူ မောင်ဖြူသည် ကျပ်သုံးဒင်္ဂါးအတုများကို ဖြန့်ချီသုံးစွဲစေရန်အလို့ငှါ ကျူးလွန်ဘက်ဖြစ်သူ မောင်မဲအား ပေးအပ်၏။ မောင်မဲသည် ထိုဒင်္ဂါးအတုများကို အခြားဖြန့်ချီသုံးစွဲသူ မောင်နီသို့ ရောင်းလိုက်၏။ မောင်နီသည် ထိုဒင်္ဂါးအတုများကို ဒင်္ဂါးအတုဖြစ်မှန်းသိလျက်နှင့်ဝယ်၏။ မောင်နီသည် ကုန်ဘိုးငွေအတွက် မောင်ညိုအား ထိုဒင်္ဂါးအတုများကိုပေး၏။ မောင်ညိုသည် ဒင်္ဂါးအတုဖြစ်မှန်းမသိသဖြင့်၊ ထိုဒင်္ဂါးအတုများကိုလက်ခံလိုက်သည်။ ထိုနောက် နောင်အခါတွင် ဒင်္ဂါးအတုမှန်း သိလာ၍၊ ထိုဒင်္ဂါးအတုများကို ဒင်္ဂါးအစစ်အနေနှင့် သူတပါးသို့ပေးအပ်၏။ မောင်ညိုသည် ဤပုဒ်မအရ ပြစ်ဒဏ်ချမှတ်ခြင်းခံထိုက်သည်။ မောင်မဲနှင့် မောင်နီတို့မှာမူကား အကြောင်းအားလျော်စွာ ပုဒ်မ ၂၃၉ အရဖြစ်စေ၊ ပုဒ်မ ၂၄၀ အရဖြစ်စေ ပြစ်ဒဏ်ချမှတ်ခြင်းခံထိုက်သည်။

လက်ဝယ်ရစဉ်က၊ ဒင်္ဂါးအတုမှန်းသိလျက်နှင့် လက်ရှိထားခြင်း။

၂၄၂။ ။လက်ဝယ်ရစဉ်က ဒင်္ဂါးအတုမှန်းသိလျက်နှင့် မည်သူမဆို၊ လိမ်လည်လှည့်ဖြားလိုသောသဘောနှင့်ဖြစ်စေ၊ လိမ်လည်လှည့်ဖြားမှုကို ကျူးလွန်ရန်အကြံနှင့်ဖြစ်စေ ထိုဒင်္ဂါးအတုကို လက်ရှိထားလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

လက်ဝယ် ရစဉ်က၊ ပြည်ထောင်စု နိုင်ငံတော် ဒင်္ဂါးအတုမှန်း သိလျက်နှင့် လက်ရှိထားခြင်း။

၂၄၃။ ။လက်ဝယ်ရစဉ်က ပြည်ထောင်စု နိုင်ငံတော် ဒင်္ဂါးအတုမှန်း သိလျက်နှင့် မည်သူမဆို၊ လိမ်လည်လှည့်ဖြားလိုသောသဘောနှင့်ဖြစ်စေ၊ လိမ်လည်လှည့်ဖြားမှုကို ကျူးလွန်ရန် အကြံနှင့်ဖြစ်စေ ထိုဒင်္ဂါးအတုကို လက်ရှိထားလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ဒင်္ဂါး စက်ရုံတွင် လုပ်ကိုင်သူက ဒင်္ဂါးကို ဥပဒေပြဋ္ဌာန်းထားသော အလေးချိန်မှ ဖြစ်စေ၊ သတ္တုအရောအစပ်မှဖြစ်စေ ကွဲလွဲစေခြင်း။

၂၄၄။ ။မည်သူမဆို၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ဥပဒေနှင့် အညီ တည်ထောင်သည့် ဒင်္ဂါးစက်ရုံတွင် လုပ်ကိုင်ရသူဖြစ်၍၊ ထိုဒင်္ဂါးစက်ရုံမှ ထုတ်သော ဒင်္ဂါးတခုခုကို ဥပဒေပြဋ္ဌာန်းထားသောအလေးချိန်မှဖြစ်စေ၊ သတ္တုအရောအစပ်မှဖြစ်စေ ကွဲလွဲစေရန် အကြံနှင့် ပြုလုပ်မှုတခုခုကိုပြုလျှင်၊ သို့တည်းမဟုတ် ဥပဒေနှင့်အညီ ပြုရန်တာဝန်ရှိသည်ကို ပျက်ကွက်လျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

၂၄၅။ ။ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် ဥပဒေနှင့်အညီ တည်ထောင်ထားသည့် ဒင်္ဂါးစက်ရုံမှ မည်သူမဆို၊ ဒင်္ဂါးသွန်း တန်ဆာပလာကိုဖြစ်စေ၊ ကိရိယာကိုဖြစ်စေ ဥပဒေနှင့် ဆန့်ကျင်၍ ယူထုတ်လျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ဒင်္ဂါးစက်ရုံမှ ဒင်္ဂါးသွန်း ကိရိယာကို၊ ဥပဒေနှင့် ဆန့်ကျင်၍ ယူထုတ်ခြင်း။

၂၄၆။ ။မည်သူမဆို၊ လိမ်လည်လှည့်ဖြားလိုသော သဘောနှင့်ဖြစ်စေ၊ မရိုးမဖြောင့်သော သဘောနှင့်ဖြစ်စေ ဒင်္ဂါး၏အလေးချိန်လျော့အောင်၊ သို့တည်းမဟုတ် ဒင်္ဂါး၏ သတ္တုအရောအစပ် ပြောင်းလွဲအောင် ပြုလုပ်လျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

လိမ်လည် လှည့်ဖြား လိုသော သဘောနှင့် ဖြစ်စေ၊ မရိုး မဖြောင့်သော သဘောနှင့် ဖြစ်စေ ဒင်္ဂါး၏ အလေးချိန်ကို လျော့ပေါ့ခြင်း၊ သို့တည်းမဟုတ် သတ္တု အရောအစပ်ကို ပြောင်းလွဲခြင်း။

**ရှင်းလင်းချက်။** ။တဦးတယောက်သောသူသည် ဒင်္ဂါးကိုထွင်း၍၊ ထွင်းသောနေရာတွင် တခုခုကိုထည့်သွင်းလျှင်၊ ထိုသူသည် ဒင်္ဂါး၏သတ္တုအရောအစပ်ကို ပြောင်းလွဲသည်မည်၏။

၂၄၇။ ။မည်သူမဆို၊ လိမ်လည်လှည့်ဖြားလိုသော သဘောနှင့်ဖြစ်စေ၊ မရိုးမဖြောင့်သော သဘောနှင့်ဖြစ်စေ ပြည်ထောင်စုနိုင်ငံတော်ဒင်္ဂါး၏ အလေးချိန်လျော့အောင်၊ သို့တည်းမဟုတ် ဒင်္ဂါး၏ သတ္တုအရောအစပ်ပြောင်းလွဲအောင်ပြုလျှင်၊ ထိုသူကိုခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

လိမ်လည် လှည့်ဖြား လိုသော သဘောနှင့်ဖြစ်စေ၊ မရိုး မဖြောင့်သော သဘောနှင့် ဖြစ်စေ၊ ပြည် ထောင် စုနိုင်ငံတော် ဒင်္ဂါး၏ အလေးချိန်ကို လျော့ပေါ့ခြင်း၊ သို့တည်း မဟုတ် သတ္တုအရောအစပ်ကို ပြောင်းလွဲခြင်း။

၂၄၈။ ။ဒင်္ဂါးတခုခုကို အခြားဒင်္ဂါးအမျိုးအစားအနေနှင့် သုံးစွဲနိုင်ရန်အကြံဖြင့် မည်သူမဆို၊ ထိုဒင်္ဂါး၏အသွင်အပြင် ပြောင်းလွဲအောင်ပြုလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

အခြား အမျိုး အစား အနေနှင့် သုံးစွဲနိုင်ရန် အကြံဖြင့်၊ ဒင်္ဂါး၏ အသွင်အပြင်ကို ပြောင်းလွဲခြင်း။

၂၄၉။ ။ပြည်ထောင်စုနိုင်ငံတော် ဒင်္ဂါးတခုခုကို အခြားဒင်္ဂါးအမျိုးအစားအနေနှင့် သုံးစွဲနိုင်ရန်အကြံဖြင့် မည်သူမဆို၊ ထိုဒင်္ဂါး၏ အသွင်အပြင် ပြောင်းလွဲအောင်ပြုလျှင်၊ ထိုသူကို ခုနစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

အခြား အမျိုး အစား အနေနှင့် သုံးစွဲနိုင်ရန် အကြံဖြင့် ပြည်ထောင်စု နိုင်ငံတော် ဒင်္ဂါး၏ အသွင် အပြင် ကို ပြောင်းလွဲခြင်း။

**လက်ရှိထားသော ဒင်္ဂါးကို ပြောင်းလဲထားကြောင်း သိလျက်နှင့် သူတပါးသို့ ပေးအပ်ခြင်း။**

၂၅၀။ ။ပုဒ်မ ၂၄၆ တွင်၊ သို့တည်းမဟုတ် ပုဒ်မ ၂၄၈ တွင် ဖေါ်ပြပါရှိသည့် ပြစ်မှုကို ကျူးလွန်၍ ပြုထားသော ဒင်္ဂါးကို လက်ရှိထားရာ၊ လက်ဝယ်ရစဉ်က ထိုဒင်္ဂါးနှင့် စပ်လျဉ်း၍ ပြစ်မှုကျူးလွန်ပြီးကြောင်း သိလျက်နှင့် မည်သူမဆို၊ လိမ်လည်လှည့်ဖြားလိုသော သဘောနှင့်ဖြစ်စေ၊ လိမ်လည်လှည့်ဖြားမှုကို ကျူးလွန်နိုင်စေရန်အကြံနှင့်ဖြစ်စေ ထိုဒင်္ဂါးကို သူတပါးသို့ ပေးအပ်လျှင်၊ သို့တည်းမဟုတ် သူတပါးလက်ခံအောင် သွေးဆောင်ရန် အားထုတ်လျှင်၊ ထိုသူကို ငါးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**လက်ရှိထားသော ပြည်ထောင်စု နိုင်ငံတော် ဒင်္ဂါးကို ပြောင်းလဲထားကြောင်း သိလျက်နှင့် သူတပါးသို့ ပေးအပ်ခြင်း။**

၂၅၁။ ။ပုဒ်မ ၂၄၇ တွင်၊ သို့တည်းမဟုတ် ပုဒ်မ ၂၄၉ တွင် ဖေါ်ပြပါရှိသည့် ပြစ်မှုကို ကျူးလွန်၍ ပြုထားသော ဒင်္ဂါးကို လက်ရှိထားရာ၊ လက်ဝယ်ရစဉ်က ထိုဒင်္ဂါးနှင့် စပ်လျဉ်း၍ ပြစ်မှုကျူးလွန်ပြီးကြောင်း သိလျက်နှင့် မည်သူမဆို၊ လိမ်လည်လှည့်ဖြားလိုသော သဘောနှင့် ဖြစ်စေ၊ လိမ်လည်လှည့်ဖြားမှုကိုကျူးလွန်နိုင်စေရန်အကြံနှင့်ဖြစ်စေ ထိုဒင်္ဂါးကို သူတပါးသို့ ပေးအပ်လျှင်၊ သို့တည်းမဟုတ် သူတပါးလက်ခံအောင် သွေးဆောင်ရန် အားထုတ်လျှင်၊ ထိုသူကို ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**လက်ဝယ်ရစဉ်က ပြောင်းလဲထားသော ဒင်္ဂါးမှန်း သိလျက်နှင့် လက်ရှိထားခြင်း။**

၂၅၂။ ။ပုဒ်မ ၂၄၆ တွင်ဖြစ်စေ၊ ပုဒ်မ ၂၄၈ တွင်ဖြစ်စေ ဖေါ်ပြပါရှိသည့် ပြစ်မှုကို ကျူးလွန်၍ ပြုထားသော ဒင်္ဂါးကို လက်ရှိထားရာ၊ လက်ဝယ်ရစဉ်က ထိုဒင်္ဂါးနှင့် စပ်လျဉ်း၍ ပြစ်မှုကျူးလွန်ပြီးကြောင်း သိလျက်နှင့် မည်သူမဆို၊ လိမ်လည်လှည့်ဖြားလိုသော သဘောနှင့်ဖြစ်စေ၊ လိမ်လည်လှည့်ဖြားမှုကို ကျူးလွန်နိုင်စေရန် အကြံနှင့်ဖြစ်စေ ထိုဒင်္ဂါးကို လက်ရှိထားလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**လက်ဝယ်ရစဉ်က ပြောင်းလဲထားသော ပြည်ထောင်စု နိုင်ငံတော် ဒင်္ဂါးမှန်း သိလျက်နှင့် လက်ရှိထားခြင်း။**

၂၅၃။ ။ပုဒ်မ ၂၄၇ တွင်ဖြစ်စေ၊ ပုဒ်မ ၂၄၉ တွင်ဖြစ်စေ ဖေါ်ပြပါရှိသည့်ပြစ်မှုကို ကျူးလွန်၍ ပြုထားသော ဒင်္ဂါးကို လက်ရှိထားရာ၊ လက်ဝယ်ရစဉ်က ထိုဒင်္ဂါးနှင့် စပ်လျဉ်း၍ ပြစ်မှု ကျူးလွန်ပြီးကြောင်း သိလျက်နှင့် မည်သူမဆို၊ လိမ်လည်လှည့်ဖြားလိုသောသဘောနှင့်ဖြစ်စေ၊ လိမ်လည် လှည့်ဖြားမှုကို ကျူးလွန်နိုင်စေရန် အကြံနှင့်ဖြစ်စေ ထိုဒင်္ဂါးကို လက်ရှိ ထားလျှင်၊ ထိုသူကို ငါးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**ပဌမ လက်ဝယ်ရစဉ်က ပြောင်းလဲထားမှန်း မသိသော ဒင်္ဂါးကို၊ ဒင်္ဂါးအစစ် အနေနှင့် သူတပါးသို့ပေးအပ်ခြင်း။**

၂၅၄။ ။ပုဒ်မ ၂၄၆ တွင်ဖြစ်စေ၊ ပုဒ်မ ၂၄၇ တွင်ဖြစ်စေ၊ ပုဒ်မ ၂၄၈ တွင်ဖြစ်စေ၊ ပုဒ်မ ၂၄၉ တွင်ဖြစ်စေ ဖေါ်ပြပါရှိသည့်အတိုင်း တခုခုပြုပြီးဖြစ်ကြောင်း လက်ဝယ်ရစဉ်က မသိခဲ့သော်လည်း ပေးအပ်သောအခါတွင်၊ သို့တည်းမဟုတ် သွေးဆောင်ရန် အားထုတ်သောအခါတွင် ထိုသို့ ပြုပြီးဖြစ်ကြောင်း သိသော ဒင်္ဂါးကို မည်သူမဆို၊ ဒင်္ဂါးအစစ်အနေနှင့်သော်၎င်း၊ မူလဒင်္ဂါး အမျိုးအစားမှ ကွဲလွဲသော အခြားဒင်္ဂါးအနေနှင့် သော်၎င်း၊ သူတပါးအား ပေးအပ်လျှင်၊ သို့တည်းမဟုတ် ဒင်္ဂါးအစစ်အနေနှင့်သော်၎င်း၊ မူလဒင်္ဂါးအမျိုးအစားမှ ကွဲလွဲ

သော အခြားဒင်္ဂါးအနေနှင့်သော်ငြား သူတပါး လက်ခံအောင် သွေးဆောင်ရန် အားထုတလျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ သုံးစွဲရန်၊ သို့တည်းမဟုတ် သုံးစွဲမှုအတွက် အားထုတ်ရန် ပြောင်းလွဲခြင်းခံရသည့် ဒင်္ဂါးအစစ်၏ တန်ဘိုး ဆယ်ဆအထိငွေဒဏ်ဖြစ်စေ ချမှတ်ရမည်။

အစိုးရ တံဆိပ်ခေါင်းကို အတုပြုခြင်း။

၂၅၅။ ။မည်သူမဆို၊ အခွန်တော်ကိစ္စအလို့ငှါ အစိုးရက ထုတ်သော တံဆိပ်ခေါင်းကို အတုပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့ အတုပြုရာတွင် ပါဝင်သည့် ပြုမှုတခုခုကို သိလျက်နှင့်ပြုလျှင်၊ ထိုသူကို တသက်တ ်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**ရှင်းလင်းချက်။** ။တဦးတယောက်သောသူသည် အမျိုးအစားတခု ဆိုင်ရာ တံဆိပ်ခေါင်းအစစ်ကို အခြား အမျိုးအစားဆိုင်ရာ တံဆိပ်ခေါင်း အစစ်နှင့် တူအောင် ပြုခြင်းဖြင့် အတုပြုလျှင်၊ ဤပြစ်မှုကို ကျူးလွန်သည်မည်၏။

အစိုးရ တံဆိပ်ခေါင်းကို အတုပြုရန်၊ ကိရိယာကိုဖြစ်စေ၊ ဝတ္ထုပစ္စည်းကိုဖြစ်စေ လက်ရှိထားခြင်း။

၂၅၆။ ။မည်သူမဆို၊ အခွန်တော်ကိစ္စအလို့ငှါ အစိုးရက ထုတ်သော တံဆိပ်ခေါင်းကို အတုပြုမှုအတွက် သုံးစွဲရန်ဖြစ်စေ၊ သုံးစွဲရန် ကြံရွယ်ကြောင်း သိလျက်နှင့်၊ သို့တည်းမဟုတ် ယုံကြည်ရန်အကြောင်းရှိလျက်နှင့် ဖြစ်စေ မည်သူမဆို၊ ကိရိယာကို၊ သို့တည်းမဟုတ် ဝတ္ထုပစ္စည်းကို လက်ရှိထားလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ မထောင်ဒဏ် တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

အစိုးရ တံဆိပ်ခေါင်းကို အတုပြုရန်၊ ကိရိယာ လုပ်ကိုင်ခြင်း၊ သို့တည်းမဟုတ် ရောင်းခြင်း။

၂၅၇။ ။အခွန်တော်ကိစ္စအလို့ငှါ အစိုးရက ထုတ်သော တံဆိပ်ခေါင်းကို အတုပြုမှုအတွက် သုံးစွဲရန်ဖြစ်စေ၊ သုံးစွဲရန် ကြံရွယ်ကြောင်း သိလျက်နှင့်၊ သို့တည်းမဟုတ် ယုံကြည်ရန် အကြောင်းရှိလျက်နှင့် ဖြစ်စေမည်သူမဆို၊ ကိရိယာကို လုပ်ကိုင်လျှင်၊ သို့တည်းမဟုတ် လုပ်ကိုင်ရာတွင် ပါဝင်သည့် ပြုလုပ်မှု တခုခုကို ပြုလျှင်၊ သို့တည်းမဟုတ် ကိရိယာကိုဝယ်လျှင်၊ သို့တည်းမဟုတ် ရောင်းလျှင်၊ သို့တည်းမဟုတ် စီမံခန့်ခွဲလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

အစိုးရ တံဆိပ်ခေါင်း အတုကို ရောင်းခြင်း။

၂၅၈။ ။အခွန်တော်ကိစ္စအလို့ငှါ အစိုးရကထုတ်သောတံဆိပ်ခေါင်း၏အတုဖြစ်ကြောင်း သိလျက်နှင့်ဖြစ်စေ၊ ယုံကြည်ရန် အကြောင်းရှိလျက်နှင့် ဖြစ်စေ မည်သူမဆို၊ ထိုတံဆိပ်ခေါင်း အတုကို ရောင်းလျှင်၊ သို့တည်း မဟုတ် ရောင်းရန် ကမ်းလှမ်းလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

အစိုးရ တံဆိပ်ခေါင်း အတုကို လက်ရှိထားခြင်း။

၂၅၉။ ။အခွန်တော် ကိစ္စအလို့ငှါ အစိုးရက ထုတ်သော တံဆိပ်ခေါင်း၏ အတုဖြစ်ကြောင်း သိလျက်နှင့် မည်သူမဆို၊ ထိုတံဆိပ်ခေါင်းအတုကို တံဆိပ်ခေါင်း အစစ်အနေနှင့် သုံးစွဲရန်၊ သို့တည်းမဟုတ် စီမံခန့်ခွဲရန် ကြံရွယ်၍ဖြစ်စေ၊ တံဆိပ်ခေါင်း အစစ်အနေနှင့် သုံးစွဲနိုင်ရန်ဖြစ်စေ လက်ရှိထားလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ် ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

အစိုးရ တံဆိပ် ခေါင်း အတုမှန်း သိလျက်၊ အစစ် အမှန်အနေနှင့် သုံးစွဲခြင်း။

၂၆၀။ ။အခွန်တော်ကိစ္စ အလို့ငှါ အစိုးရကထုတ်သော တံဆိပ်ခေါင်း၏ အတုဖြစ်ကြောင်း သိလျက်နှင့် မည်သူမဆို၊ ထိုတံဆိပ်ခေါင်းအတုကိုအစစ်အနေနှင့် သုံးစွဲလျှင်၊ ထိုသူကို ခုနစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အစိုးရကို ရှုံးပါးစေရန် အကြံနှင့် တံဆိပ်ခေါင်းပါရှိသည့် အရာဝတ္ထုမှ အရေးအသားကို ပယ်ဖျက်ခြင်း၊ သို့တည်းမဟုတ် စာတမ်း အမှတ်အသားကျင် သုံးစွဲထားသော တံဆိပ်ခေါင်းကို ခွါပစ်ခြင်း။

၂၆၁။ ။လိမ်လည်လှည့်ဖြားလိုသော သဘောနှင့်ဖြစ်စေ၊ အစိုးရကို ရှုံးပါးစေရန်အကြံနှင့် ဖြစ်စေ အရေးအသား တခုအတွက်၊ သို့တည်းမဟုတ် စာတမ်း အမှတ်အသား တခုအတွက် အခွန်တော် ကိစ္စအလို့ငှါ အစိုးရကထုတ်သည့် တံဆိပ်ခေါင်း သုံးစွဲပါရှိသော အရာဝတ္ထုမှ ထိုအရေးအသားကိုဖြစ်စေ၊ ထိုစာတမ်း အမှတ်အသားကိုဖြစ်စေ မည်သူမဆို၊ ခွါပစ်လျှင်၊ သို့တည်းမဟုတ်ပယ်ဖျက်လျှင်၊ သို့တည်းမဟုတ် ဆိုခဲ့သော တံဆိပ်ခေါင်းကို အခြား အရေး အသားတွင်၊ သို့တည်းမဟုတ် အခြား စာတမ်း အမှတ်အသားတွင် သုံးစွဲရန် ဆိုခဲ့သော တံဆိပ်ခေါင်းရှိရင်းဖြစ်သော အရေးအသားမှ၊ သို့တည်းမဟုတ် စာတမ်းအမှတ်အသားမှ ခွါပစ်လျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အစိုးရ တံဆိပ်ခေါင်းကို ယခင်က သုံးစွဲပြီးဖြစ်ကြောင်း သိလျက်နှင့် သုံးစွဲခြင်း။

၂၆၂။ ။လိမ်လည်လှည့်ဖြားလိုသော သဘောနှင့်ဖြစ်စေ၊ အစိုးရကို ရှုံးပါးစေရန်အကြံနှင့်ဖြစ်စေ အခွန်တော် ကိစ္စအလို့ငှါ အစိုးရက ထုတ်သောတံဆိပ်ခေါင်းကို ယခင်က သုံးစွဲပြီးဖြစ်ကြောင်းသိလျက်နှင့်မည်သူမဆို၊ ကိစ္စတခုခုအလို့ငှါ သုံးစွဲလျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

တံဆိပ်ခေါင်း သုံးစွဲပြီးဖြစ်ကြောင်း အမှတ်အသားကိုဖျက်ပစ်ခြင်း။

၂၆၃။ ။လိမ်လည်လှည့်ဖြားလိုသော သဘောနှင့်ဖြစ်စေ၊ အစိုးရကိုရှုံးပါးစေရန် အကြံနှင့်ဖြစ်စေ အခွန်တော်ကိစ္စအလို့ငှါ အစိုးရက ထုတ်သောတံဆိပ်ခေါင်းမှ မည်သူမဆို၊ ထိုတံဆိပ်ခေါင်းသုံးစွဲပြီးဖြစ်ကြောင်း သိသာထင်ရှားစေရန် မှတ်သားထားသော၊ သို့တည်းမဟုတ်ခတ်နှိပ်ထားသော အမှတ်အသားကို ပယ်ဖျက်လျှင်၊ သို့တည်းမဟုတ် ခွါပစ်လျှင်၊ သို့တည်းမဟုတ် မည်သူမဆို၊ ထိုသို့အမှတ်အသားပယ်ဖျက်ခြင်းခံရပြီးဖြစ်သော၊ သို့တည်းမဟုတ် ခွါပစ်ခြင်းခံရပြီးဖြစ်သော တံဆိပ်ခေါင်းမှန်းသိလျက်နှင့် ထိုတံဆိပ်ခေါင်းကို လက်ရှိထားလျှင်၊ သို့တည်းမဟုတ် ရောင်းလျှင်၊ သို့တည်းမဟုတ် စီမံခန့်ခွဲလျှင်၊ သို့တည်းမဟုတ် မည်သူမဆို၊ သုံးစွဲပြီးဖြစ်ကြောင်း သိသည့် တံဆိပ်ခေါင်းကို ရောင်းလျှင်၊ သို့တည်းမဟုတ် စီမံခန့်ခွဲလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

တံဆိပ်ခေါင်း ယိမ်များကို တားမြစ်ခြင်း။

၂၆၃-က။ ။(၁) မည်သူမဆို၊ (ကက) တံဆိပ်ခေါင်းလိမ်ကို ပြုလုပ်လျှင်၊ သို့တည်းမဟုတ် သိလျက်နှင့် ဖြန့်ချီသုံးစွဲလျှင်၊ သို့တည်းမဟုတ် အရောင်းအဝယ်ပြုလျှင်၊ သို့တည်းမဟုတ် ရောင်းလျှင်၊ သို့တည်းမဟုတ် သိလျက်နှင့်စာပို့ခြင်းကိစ္စအလို့ငှါ အသုံးပြုလျှင်၊ သို့တည်းမဟုတ်

(ခခ) ဥပဒေနှင့် ညီသော အပြစ်လွှတ်ခွင့်ကိုမရရှိဘဲ တံဆိပ်ခေါင်းလိမ်ကို လက်ရှိထားလျှင်၊ သို့တည်းမဟုတ်

(ဂဂ) တံဆိပ်ခေါင်းလိမ် ပြုလုပ်ရန် ပုံကိုဖြစ်စေ၊ တံဆိပ်ပြားကိုဖြစ်စေ၊ ကိရိယာကိုဖြစ်စေ၊ ဝတ္ထုပစ္စည်းကိုဖြစ်စေ ပြုလုပ်လျှင်၊ သို့တည်းမဟုတ် ဥပဒေနှင့် ညီသောအပြစ်လွှတ်ခွင့်ကို မရရှိဘဲ လက်ရှိထားလျှင်၊ ထိုသူကို နှစ်ရာထိ ငွေဒဏ်ချမှတ်ရမည်။

(၂) တံဆိပ်ခေါင်းလိမ်ကို ဖြစ်စေ၊ တံဆိပ်ခေါင်းလိမ်ကို ပြုလုပ်ရန်ပုံကို၊ သို့တည်းမဟုတ် တံဆိပ်ပြားကို၊ သို့တည်းမဟုတ် ကိရိယာကို၊ သို့တည်းမဟုတ် ဝတ္ထုပစ္စည်းကို ဖြစ်စေ လက်ရှိထားရှိသောသူ တဦးတယောက်ထံမှ ဖမ်းဆီးနိုင်သည့်ပြင် ထိုပစ္စည်းများကို ဘဏ္ဍာတော်အဖြစ်သိမ်းဆည်းရမည်။

(၃) ဤပုဒ်မတွင် "တံဆိပ်ခေါင်းလိမ်" ဆိုသည်မှာ၊ စာပို့ခနှုန်းကိုပေါ်ပြရန် အစိုးရက ထုတ်ထားသော တံဆိပ်ခေါင်း အနေမျိုး သဘော မမှန်သော နည်းဖြင့် သက်ရောက်နေသော တံဆိပ်ခေါင်းကိုသော်၎င်း၊ ဆိုခဲ့သည့်ကိစ္စအလို့ငှါ အစိုးရက ထုတ်ထားသော တံဆိပ်ခေါင်း တခုခုကို စက္ကူပေါ်တွင်ဖြစ်စေ၊ အခြားနည်းဖြင့်စေ ပုံထပ်တူပြုခြင်းကို၊ သို့တည်းမဟုတ် အတုပြုခြင်းကို၊ သို့တည်းမဟုတ် ပုံသဏ္ဌာန်ပြုခြင်းကိုသော်၎င်း ဆိုလိုသည်။

(၄) ဤပုဒ်မ၌၎င်း၊ ပုဒ်မ ၂၅၅ မှ ၂၆၃ အထိ၎င်း၊ "အစိုးရ" ဆိုသော စကားတွင်၊ စာပို့ခနှုန်းကို ပေါ်ပြရန် ထုတ်သော တံဆိပ်ခေါင်းနှင့် စပ်လျဉ်း၍၊ သို့တည်းမဟုတ်ရည်ညွှန်း၍ သုံးသောအခါ၊ ပုဒ်မ ၁၇ ၌ မည်သို့ပင် ပါရှိစေကာမူ၊ အိန္ဒိယ၌ဖြစ်စေ၊ ပါကစ္စတန်၌ဖြစ်စေ၊ ဗြိတိသျှဘုရင်မင်းမြတ်၏ ဒိုမီနီယံများ၌ဖြစ်စေ၊ နိုင်ငံခြား၌ဖြစ်စေ နိုင်ငံတော်အစိုးရအဖွဲ့ကို ပွဲစည်းအုပ်ချုပ်ရန် ဥပဒေအရ အာဏာပေးအပ်ခြင်း ခံရသော ပုဂ္ဂိုလ်၊ သို့တည်းမဟုတ် ပုဂ္ဂိုလ်များပါဝင်သည်ဟု မှတ်ယူရမည်။

## အခန်း ၁၃။

## အလေး အချိန်အတွယ် တင်းတောင်းနှင့် အတိုင်းအတာများ ဆိုင်ရာ ပြစ်မှုများ။

မမှန်သော အချိန် အတွယ် ကိရိယာကို လိမ်လည် လှည့်ဖြားလိုသော သဘောဖြင့်သုံးခြင်း။

၂၆၄။ ။မည်သူမဆို၊ မမှန်ကြောင်းသိသော အချိန်အတွယ် ကိရိယာတခုခုကို လိမ်လည်လှည့်ဖြားလိုသော သဘောဖြင့် အသုံးပြုလျှင်၊ ထိုသူကို တနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

မမှန်သော အလေး တင်းတောင်းကိုသော်၎င်း၊ ထိုသို့သော အတိုင်း အတာကိုသော်၎င်း လိမ်လည် လှည့်ဖြားလိုသော သဘောဖြင့်သုံးခြင်း။

၂၆၅။ ။မည်သူမဆို၊ မမှန်သော အလေးကိုဖြစ်စေ၊ မမှန်သော အတိုင်းအတာ တင်းတောင်းကိုဖြစ်စေ လိမ်လည်လှည့်ဖြားလိုသော သဘောဖြင့် အသုံးပြုလျှင်၊ သို့တည်းမဟုတ် အလေးတင်းတောင်း အတိုင်းအတာ တခုခုကို၊ ထိုအလေးတင်းတောင်း အတိုင်း အတာနှင့် ကွဲလွဲသော အလေးတင်းတောင်း အတိုင်းအတာ အဖြစ်၊ လိမ်လည်လှည့်ဖြားလိုသော သဘောနှင့် အသုံးပြုလျှင်၊ ထိုသူကိုတနှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

၂၆၆။ ။မည်သူမဆို၊ မမှန်ကြောင်းသိသော အချိန်အတွယ် ကိရိယာကိုဖြစ်စေ၊ ထိုကဲ့သို့သော အလေး တင်းတောင်း အတိုင်း အတာကိုဖြစ်စေ လိမ်လည်လှည့်ဖြားလိုသော သဘောနှင့် အသုံးပြုနိုင်ရန် ကြံရွယ်၍ လက်ရှိထားလျှင်၊ ထိုသူကို တနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

မမှန်သော အလေး တင်းတောင်း အတိုင်း အတာကို လက်ရှိထားခြင်း။

၂၆၇။ ။မည်သူမဆို၊ မမှန်ကြောင်းသိသော အချိန်အတွယ် ကိရိယာကိုဖြစ်စေ၊ ထိုကဲ့သို့သော အလေး တင်းတောင်း အတိုင်းအတာ တခုခုကို ဖြစ်စေ အမှန်အဖြစ်ဖြင့် အသုံးပြု နိုင်ရန်သော်၎င်း၊ အမှန် အဖြစ်ဖြင့် အသုံးပြု တန်ရာသည်ကိုသိလျက်နှင့်သော်၎င်း လုပ်ကိုင်လျှင်၊ သို့တည်းမဟုတ် ရောင်းလျှင်၊ သို့တည်းမဟုတ် စီမံခန့်ခွဲလျှင်၊ ထိုသူကို တနှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ် ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

မမှန်သော အလေး တင်းတောင်း အတိုင်း အတာကို လုပ်ကိုင်ခြင်း၊ သို့တည်း မဟုတ် ရောင်းခြင်း။

## အခန်း ၁၄။

## ပြည်သူ့ကျန်းမာမှု၊ လုံခြုံမှု၊ သက်သာမှု၊ သိက္ခာစောင့်စည်းမှုနှင့် ကိုယ်ကျင့်တရားရှိမှုကို ထိခိုက်စေသော ပြစ်မှုများ။

၂၆၈။ ။တဦးတယောက်သောသူသည် အများ ပြည်သူကိုသော်၎င်း၊ အနီးအပါးတွင် နေထိုင်သော၊ သို့တည်းမဟုတ် အိမ်ယာပစ္စည်း လက်ရှိဖြစ်သော သူတို့ကိုသော်၎င်း တူညီသည့်နစ်နာမှုကို ဖြစ်စေသော၊ သို့တည်းမဟုတ် တူညီသည့် ဘေးကို ဖြစ်စေသော၊ သို့တည်းမဟုတ် တူညီသည့် စိတ်ငြိုငြင်မှုကို ဖြစ်စေသော ပြုလုပ်မှုကိုဖြစ်စေ၊ ထိုကဲ့သို့သော ဥပဒေနှင့် မညီသည့် ပျက်ကွက်မှုကို ဖြစ်စေ ပြုလျှင်၊ သို့တည်းမဟုတ် ပြည်သူ့ အခွင့်အရေးကို သုံးစွဲရန် အခါအခွင့် ကြုံသောသူအား မချွတ်မလွဲနစ်နာစေရမည်ဖြစ်သော၊ သို့တည်းမဟုတ် ဟန့်တားစေရမည်ဖြစ်သော၊ သို့တည်းမဟုတ် ဘေးရောက်စေရမည်ဖြစ်သော၊ သို့တည်းမဟုတ် စိတ်ငြိုငြင်စေရမည်ဖြစ်သော ပြုလုပ်မှုကိုဖြစ်စေ၊ ထိုကဲ့သို့သော ဥပဒေနှင့် မညီသည့် ပျက်ကွက်မှုကို ဖြစ်စေ ပြုလျှင်၊ ထိုသူသည် အများပြည်သူ နှောက်ယှက်မှုကို ကျူးလွန်သည်မည်၏။

အများပြည်သူ့နှောက်ယှက်မှု။

အများပြည်သူကို နှောက်ယှက်ခြင်းဖြင့်၊ ထိုသို့နှောက်ယှက်ခြင်းသည် သက်သာမှုကိုသော်၎င်း၊ အကျိုးကျေးဇူးကိုသော်၎င်း ဖြစ်စေသည်ဟု အကြောင်းပြစေကာမူ၊ ပြည်သူ့နှောက်ယှက်မှုသည် အပြစ်မှ ကင်းလွတ်ခွင့်ရှိသည်မဟုတ်။

၂၆၉။ ။မည်သူမဆို၊ အသက်အန္တရာယ်ဖြစ်စေတတ်သည့် ကူးစက်တတ်သော ရောဂါမျိုး ပြန့်ပွါးစေတန်ရာသော၊ သို့တည်းမဟုတ် ထိုသို့ ပြန့်ပွါးစေတန်ရာသည်ကို မိမိသိသော၊ သို့တည်းမဟုတ် ထိုသို့ ယုံကြည်ရန် အကြောင်းရှိသော ဥပဒေနှင့် ဆန့်ကျင်မှုကိုသော်၎င်း၊ ပေါ့လျော့မှုကိုသော်၎င်း ပြုလျှင်၊ ထိုသူကို ခြောက်လထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အသက် အန္တရာယ် ဖြစ်စေတတ်သည့် ကူးစက်တတ်သော ရောဂါမျိုး ပြန့်ပွါးစေတန်ရာသည့် ပေါ့လျော့မှု။

အသက် အန္တရာယ် ဖြစ်စေ တတ်သည့်ကူးစက်တတ်သော ရောဂါမျိုး ပြန့်ပွါးစေတန်ရာ သည့် ဘေးသင့်စေမှု။

၂၇၀။ ။မည်သူမဆို၊ အသက်အန္တရာယ်ဖြစ်စေတတ်သည့် ကူးစက်တတ်သော ရောဂါမျိုး ပြန့်ပွါးစေတန်ရာသော၊ သို့တည်းမဟုတ် ထိုသို့ပြန့်ပွါးစေတန်ရာသည်ကို မိမိသိသော၊ သို့တည်းမဟုတ် ထိုသို့ယုံကြည်ရန် အကြောင်းရှိသော ဘေးသင့်စေမှုကိုပြုလျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

ကူးစက် တတ်သော ရောဂါ ကာကွယ်ရေး (ကွာရန်တင်း) နည်းဥပဒေကို ဖီဆန်ခြင်း။

၂၇၁။ ။ရေယာဉ် တခုခုကို ကူးစက်တတ်သော ရောဂါ ပြန့်ပွါးခြင်းမှ ကာကွယ်ရန် သီးသန့် ချထားရေးအတွက် ဖြစ်စေ၊ ထိုသို့ သီးသန့်ချထား ရေယာဉ်များကို ဆိပ်ကမ်းနှင့်သော်၎င်း၊ အခြားရေယာဉ်များနှင့် သော်၎င်း ကူးလူးဆက်ဆံမှုကို စည်းမျဉ်းသတ်မှတ်ရေး အတွက် ဖြစ်စေ၊ ကူးစက်တတ်သော ရောဂါ ဖြစ်ပွါးသည့်နေရာများနှင့် အခြားနေရာများ ကူးလူး ဆက်ဆံမှုကို စည်းမျဉ်း သတ်မှတ်ရေး အတွက်ဖြစ်စေ၊ အစိုးရက ပြုလုပ်၍ ထုတ်ပြန်ကျေညာထားသောနည်းဥပဒေကို မည်သူမဆို၊ သိလျက်နှင့် ဖီဆန်လျှင်၊ ထိုသူကို ခြောက်လထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ရောင်းရန် ကြံရွယ်သော စားဖွယ် သောက်ဖွယ် ကို ယုတ်ညံ့သော အရာနှင့် ရောခြင်း။

၂၇၂။ ။စားဖွယ်သောက်ဖွယ် တခုခုကို စားဖွယ်သောက်ဖွယ်အနေနှင့် ရောင်းရန် ကြံရွယ်လျက်၊ သို့တည်းမဟုတ် ထိုသို့ရောင်းတန်ရာသည်ကို သိလျက်နှင့် မည်သူမဆို၊ ထိုစားဖွယ် သောက်ဖွယ်ကို အန္တရာယ် ဖြစ်စေအောင်ယုတ်ညံ့သောအရာနှင့် ရောလျှင်၊ ထိုသူကို ခြောက်လထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အန္တရာယ် ဖြစ်စေသော စားဖွယ် သောက်ဖွယ် ကို ရောင်းခြင်း။

၂၇၃။ ။အန္တရာယ်ဖြစ်စေအောင် ပြုထားသော စားဖွယ် သောက်ဖွယ်ကို ဖြစ်စေ၊ အန္တရာယ်ဖြစ်လာသော စားဖွယ် သောက်ဖွယ်ကို ဖြစ်စေ၊ စား သောက်ရန် မသင့်မလျော်သော အဖြစ်သို့ ရောက်ရှိနေသည့် စားဖွယ် သောက်ဖွယ်ကိုဖြစ်စေ မည်သူမဆို၊ စားဖွယ် သောက် ဖွယ်အနေနှင့် အန္တရာယ်ဖြစ်သည်ကို သိလျက်၊ သို့တည်းမဟုတ် ထိုသို့ဖြစ်သည်ကို ယုံကြည်ရန်အကြောင်းရှိလျက်၊ စားဖွယ် သောက်ဖွယ် အဖြစ်ဖြင့် ရောင်း လျှင်၊ သို့တည်းမဟုတ် ရောင်းရန် ကမ်းလှမ်းလျှင်၊ သို့တည်းမဟုတ် ရောင်းရန် ပြထားလျှင်၊ ထိုသူကို ခြောက်လထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ် နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဆေးဘက်ဝင်ဝတ္ထုကိုယုတ်ညံ့သော အရာနှင့် ရောခြင်း။

၂၇၄။ ။ယုတ်ညံ့သောအရာနှင့် ရောထားခြင်း မရှိသော ဆေးဘက်ဝင် ဝတ္ထု ဖြစ်ဘိ သကဲ့သို့၊ သို့တည်းမဟုတ်ဖေါ်စပ်ပြီးဆေးဖြစ်ဘိသကဲ့သို့ ဆေးဝါး ကိစ္စအလို့ငှါ ရောင်းရန် ကြံရွယ်လျက်၊ သို့တည်းမဟုတ် သုံးစွဲ စေရန် ကြံရွယ်လျက်၊ သို့တည်းမဟုတ်ထိုသို့ရောင်းတန်ရာသည်ကို ဖြစ်စေ၊ သုံးစွဲတန်ရာသည်ကိုဖြစ်စေ သိလျက်၊ မည်သူမဆို၊ ဆေးဘက်ဝင် ဝတ္ထုကိုသော်၎င်း၊ ဖေါ်စပ်ပြီးဆေးကိုသော်၎င်း ဆေးတန်ခိုး အာနိသင်ယုတ်လျော့အောင်၊ သို့တည်းမဟုတ် အကျိုးသက်ရောက်ခြင်း ပြောင်းလွဲအောင်၊ သို့တည်းမဟုတ် အန္တရာယ်ဖြစ်စေအောင် ယုတ်

ညွှဲသောအရာနှင့် ရောလျှင်၊ ထိုသူကိုခြောက်လထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ယုတ်ညံ့သော အရာနှင့် ရောထားသည့် ဆေးဘက်ဝင် ဝတ္ထုများကိုရောင်းခြင်း။

၂၇၅။ ။ဆေးဘက်ဝင်ဝတ္ထုကို၊ သို့တည်းမဟုတ် ဖေါ်စပ်ပြီးဆေးကို တန်ခိုးအာနိသင် ယုတ်လျော့အောင်သော်၎င်း၊ အကျိုးသက်ရောက်ခြင်း ပြောင်းလွဲအောင်သော်၎င်း၊ အန္တရာယ်ဖြစ်စေအောင်သော်၎င်း ယုတ်ညံ့သော အရာတခုခုနှင့် ရောထားကြောင်း သိလျက်နှင့် မည်သူမဆို၊ ထိုသို့ရောထားသောဆေးဘက်ဝင်ဝတ္ထုကို၊ သို့တည်းမဟုတ် ဖေါ်စပ်ပြီး ဆေးကိုယုတ်ညံ့သောအရာနှင့် ရောထားခြင်း မရှိဘိသကဲ့သို့ ဆေးဝါးကိစ္စအလို့ငှါ ရောင်းလျှင်၊ သို့တည်းမဟုတ်ရောင်းရန်ကမ်းလှမ်းလျှင်၊ သို့တည်းမဟုတ်ရောင်းရန်ပြထားလျှင်၊ သို့တည်းမဟုတ် ဆေးပေးရုံမှထုတ်ပေးလျှင်၊ သို့တည်းမဟုတ် ယုတ်ညံ့သောအရာနှင့် ရောထားကြောင်းမသိသောသူတဦးတယောက်အားဆေးဝါး ကိစ္စအလို့ငှါသုံးစွဲစေလျှင်၊ ထိုသူကို ခြောက်လထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ တထောင်ထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

ဆေးဘက်ဝင် ဝတ္ထုတမျိုးကို၊ သို့တည်းမဟုတ် ဖေါ်စပ်ပြီး ဆေးတမျိုးကို အခြားတမျိုးအဖြစ်ဖြင့်ရောင်းခြင်း။

၂၇၆။ ။မည်သူမဆို ဆေးဘက်ဝင် ဝတ္ထုတမျိုးကို၊ သို့တည်းမဟုတ် ဖေါ်စပ်ပြီးဆေး တမျိုးကိုအခြားတမျိုးဖြစ်မှန်းသိလျက်နှင့် ဆေးဝါးကိစ္စအလို့ငှါ ရောင်းလျှင်၊ သို့တည်းမဟုတ် ရောင်းရန် ကမ်းလှမ်းလျှင်၊ သို့တည်းမဟုတ် ရောင်းရန်ပြထားလျှင်၊ သို့တည်းမဟုတ် ဆေးပေးရုံမှ ထုတ်ပေးလျှင်၊ ထိုသူကို ခြောက်လထိ ထောင်ဒဏ်တမျိုးမျိုး ဖြစ်စေ၊ တထောင်ထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အများ ပြည်သူ ဆိုင်ရာ စိမ့်စမ်း၊ ရေလှောင်ကန် စသည်တို့ကို ညစ်ညမ်းအောင် ပြုခြင်း။

၂၇၇။ ။မည်သူမဆို အများပြည်သူဆိုင်ရာ စိမ့်စမ်းမှ၊ သို့တည်းမဟုတ် ရေလှောင်ကန်မှ ရေကိုသုံးစွဲနေကျအခြေမှ ယုတ်လျော့အောင် မိမိ အလိုအလျောက် ယုတ်ညံ့စေလျှင်၊ သို့တည်းမဟုတ် ညစ်ညမ်းစေလျှင်၊ ထိုသူကို သုံးလထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငါးရာထိငွေဒဏ် ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ကျန်းမာရေးကို အန္တရာယ် ဖြစ်စေရန် လေကို တခုခု ပြုခြင်း။

၂၇၈။ ။မည်သူမဆို နေရာတခုခုရှိလေကို၊ ထိုနေရာအနီး အနားတွင် အများအားဖြင့် နေထိုင်ကြသော၊ သို့တည်းမဟုတ် အလုပ်လုပ်ကိုင်ကြသော၊ သို့တည်းမဟုတ်အများပြည်သူဆိုင်ရာလမ်း၌ သွားလာနေကြသော သူများ၏ ကျန်းမာရေးကို အန္တရာယ်ဖြစ်စေအောင် မိမိအလိုအလျောက်ညစ်ညမ်းစေလျှင်၊ ထိုသူကို ငါးရာထိ ငွေဒဏ်ချမှတ် ရမည်။

အများ ပြည်သူ ဆိုင်ရာ လမ်းတွင် အရမ်းမောင်းခြင်း၊ သို့တည်းမဟုတ် အရမ်း စီးခြင်း။

၂၇၉။ ။မည်သူမဆို လူ့အသက်ကို အန္တရာယ်ဖြစ်စေအောင်သော်၎င်း၊ သူတပါးအား နာကျင်စေတတ်လောက်အောင်၊ သို့တည်းမဟုတ် နစ်နာစေတတ်လောက်အောင်သော်၎င်း အရမ်းဖြစ်စေ၊ ပေါ့လျော့စွာဖြစ်စေ အများပြည်သူဆိုင်ရာလမ်းပေါ်၌ယာဉ်ကိုမောင်းလျှင်၊ သို့တည်း မဟုတ်စီးလျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ တထောင်ထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**သွားလာနေသော ယာဉ်ကို၊ ဘေး ဖြစ်စေသောအရာဝတ္ထုဖြင့် ပစ်ခတ်ခြင်း။**

၂၇၉-က။ ။မည်သူမဆို၊ ယာဉ်တစီးစီးတွင်၊ စီးနင်းသွားလာသူတဦးတယောက်၏ လုံခြုံမှုကို ဘေးဖြစ်စေတန်ရာသော အကြံဖြင့်သော်၎င်း၊ ထိုသို့ဖြစ်စေတန်ရာသည်ကို သိလျက်နှင့်သော်၎င်း အများပြည်သူ ဆိုင်ရာနေရာ၌ ယာဉ်တစီးစီးကိုသစ်သားဖြင့်ဖြစ်စေ၊ ခဲဖြင့်ဖြစ်စေ၊ အင်္ဂတေဆစ်ဖြင့်ဖြစ်စေ၊ အခြားအရာဝတ္ထုဖြင့် ဖြစ်စေ ပစ်ခတ်လျှင်၊ သို့တည်းမဟုတ်ရိုက်ပုတ်လျှင်၊ သို့တည်းမဟုတ်ထိုယာဉ်တစီးစီးပေါ်၌၊ ထိုအရာတခုခုကိုကျစေလျှင်၊ ထိုသူကိုတနှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငါးရာထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေချမှတ်ရမည်။

**ရှင်းလင်းချက် ၁။** ။ဤပုဒ်မ၏ကိစ္စအလို့ငှါ၊ "ယာဉ်"ဆိုသည်မှာ၊ လမ်းပေါ်၌ သယ်ယူပို့ဆောင်ရန် အသုံးပြုနိုင်သော ဘီးနှင့်ယာဉ်ကိုဆိုလိုသည်။

**ရှင်းလင်းချက် ၂။** ။သကြံန်အတွင်းတွင်၊ အများပြည်သူ ဆိုင်ရာနေရာ၌၊ယာဉ်တစီးစီးကို ရေပက်ခြင်းသည် ဤပုဒ်မအရ ပြစ်ဒဏ်ထိုက်သော ပြစ်မှုမဟုတ်။

**ရှင်းလင်းချက် ၃။** ။ဤပုဒ်မရှိ စကားရပ်ကြောင့်၊ လူတဦး တယောက်ကို ပြုလုပ်မှုတခုခုအတွက်ဖြစ်စေ၊ ပျက်ကွက်မှု တခုခုအတွက် ဖြစ်စေ ဤရာဇသတ်ကြီးရှိ အခြားပုဒ်မအရသော်၎င်း၊ အခြားဥပဒေအရသော်၎င်း တရားမစွဲဆိုနိုင်ဟု မမှတ်ယူရ။

**ရေယာဉ်ကို အရမ်းဦးစီးသွားလာစေခြင်း။**

၂၈၀။ ။မည်သူမဆို၊ လူ့အသက်ကို အန္တရာယ်ဖြစ်စေအောင်သော်၎င်း၊ သူတပါးအား နာကျင်စေတန်လောက်အောင်၊ သို့တည်းမဟုတ် နစ်နာစေတန်လောက်အောင်သော်၎င်း၊ အရမ်းဖြစ်စေ၊ ပေါ့လျော့စွာဖြစ်စေ၊ ရေယာဉ်ကို ဦးစီးသွားလာစေလျှင်၊ ထိုသူကို ခြောက်လထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊တထောင်ထိငွေဒဏ်ဖြစ်စေ၊ဒဏ်နှစ်ရပ်လုံးဖြစ်စေချမှတ်ရမည်။

**မမှန်သော မီးရောင်ကိုဖြစ်စေ၊ အမှတ် အသားကိုဖြစ်စေ၊ ဘော့ကို ဖြစ်စေ ပြခြင်း။**

၂၈၁။ ။မည်သူမဆို၊ ရေယာဉ်ဦးစီးကို လွဲမှားစေရန် ကြံရွယ်၍သော်၎င်း၊ လွဲမှားစေတန်ရာသည်ကို သိလျက်နှင့်သော်၎င်း မမှန်သောမီးရောင်ကို၊ သို့တည်းမဟုတ် အမှတ်အသားကို၊ သို့တည်းမဟုတ် ဘော့ကိုပြလျှင်၊ ထိုသူကိုခုနစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ဘေး မကင်းသော ရေယာဉ်ဖြင့် ဖြစ်စေ၊ ဝန်ပိုတင်သော ရေယာဉ်ဖြင့် ဖြစ်စေ ရေလမ်းခရီးတွင် လူကို အခနှင့် သယ်ယူပို့ဆောင်ခြင်း။**

၂၈၂။ ။လူ့အသက်ကို အန္တရာယ်ဖြစ်စေသည့်အခြေ၌ရှိသော၊ သို့တည်းမဟုတ် ထိုသို့အန္တရာယ်ဖြစ်စေလောက်အောင် ဝန်ပိုတင်သော ရေယာဉ်ဖြင့် မည်သူမဆို၊ သိလျက်နှင့်သော်၎င်း၊ ပေါ့လျော့စွာသော်၎င်း ရေလမ်းခရီးတွင် လူတဦးတယောက်ကို အခယူ၍ သယ်ယူပို့ဆောင်လျှင်၊ သို့တည်းမဟုတ် သယ်ယူပို့ဆောင်စေလျှင်၊ ထိုသူကိုခြောက်လထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အများ ပြည်သူ ဆိုင်ရာ လမ်းတွင်၊ သို့တည်း မဟုတ် အများ ပြည်သူ ဆိုင်ရာရေယာဉ် သွား လာ ရာ လမ်းကြောင်းတွင် အန္တရာယ်ဖြစ်စေခြင်း၊ သို့တည်း မဟုတ် ဟန့်တားခြင်း။

၂၈၃။ ။မည်သူမဆို၊ ပြုလုပ်မှုတခုခုကို ပြုခြင်းဖြင့်သော်၎င်း၊ လက်ရှိဖြစ်သော၊ သို့တည်းမဟုတ် အုပ်ထိန်းထားသော ပစ္စည်းကို နေရာတကျမထားရှိဘဲ ပျက်ကွက်ခြင်းဖြင့်သော်၎င်း အများပြည်သူဆိုင်ရာ လမ်းတွင်၊ သို့တည်းမဟုတ် အများပြည်သူဆိုင်ရာရေယာဉ်သွားလာရာ လမ်းကြောင်းတွင် လူတဦးတယောက်ကို အန္တရာယ်ဖြစ်စေလျှင်၊ သို့တည်းမဟုတ် အဟန့်အတားဖြစ်စေလျှင်၊ သို့တည်းမဟုတ် နစ်နာစေလျှင်၊ ထိုသူကို နှစ်ရာထိငွေဒဏ်ချမှတ်ရမည်။

အဆိပ်ရှိ အရာဝတ္ထုနှင့် စပ်လျဉ်း၍ ပေါ့လျော့ခြင်း။

၂၈၄။ ။မည်သူမဆို၊ လူ့အသက်ကို အန္တရာယ်ဖြစ်စေအောင် သော်၎င်း၊ လူတဦး တယောက်ကို နာကျင်စေတန်လောက်အောင်၊ သို့တည်းမဟုတ် နစ်နာစေတန်လောက်အောင် သော်၎င်း အဆိပ်ရှိ အရာဝတ္ထုဖြင့် ပြုလုပ်မှုတခုခုကို အရမ်းဖြစ်စေ၊ ပေါ့လျော့စွာဖြစ်စေ ပြုလျှင်၊ သို့တည်းမဟုတ် အဆိပ်ရှိ အရာဝတ္ထုကြောင့် လူ့အသက်အား အန္တရာယ်ဖြစ်ဖွယ်ရှိခြင်းမှ ကာကွယ်ရန် လုံလောက်အောင် လက်ရှိအဆိပ်ရှိ အရာဝတ္ထုကို နေရာတကျမထားဘဲ သိလျက်နှင့်ဖြစ်စေ၊ ပေါ့လျော့စွာဖြစ်စေ ပျက်ကွက်လျှင်၊ ထိုသူကိုခြောက်လထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ တထောင်ထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

မီးနှင့်၊ သို့တည်း မဟုတ် မီးလောင်လွယ်သော အရာဝတ္ထုနှင့် စပ်လျဉ်း၍ ပေါ့လျော့ခြင်း။

၂၈၅။ ။မည်သူမဆိုလူ့အသက်ကိုအန္တရာယ်ဖြစ်စေအောင်သော်၎င်း၊သူတပါးနာကျင်စေတန်လောက်အောင်၊ သို့တည်းမဟုတ် နစ်နာစေတန်လောက်အောင် သော်၎င်း မီးဖြင့်၊ သို့တည်းမဟုတ် မီးလောင်လွယ်သော အရာဝတ္ထုဖြင့်၊ ပြုလုပ်မှု တခုခုကို အရမ်းဖြစ်စေ၊ ပေါ့လျော့စွာဖြစ်စေ ပြုလျှင်၊ သို့တည်းမဟုတ် မီးကြောင့်သော်၎င်း၊ မီးလောင်လွယ်သော အရာဝတ္ထုကြောင့်သော်၎င်း လူ့အသက်အန္တရာယ် ဖြစ်ဖွယ်ရှိခြင်းမှ ကာကွယ်ရန် လုံလောက်အောင် လက်ရှိမီးကို၊ သို့တည်းမဟုတ် မီးလောင်လွယ်သော အရာဝတ္ထုကို နေရာတကျမထားဘဲ သိလျက်နှင့်ဖြစ်စေ၊ ပေါ့လျော့စွာဖြစ်စေ ပျက်ကွက်လျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ပေါက်ကွဲတတ်သော အရာဝတ္ထုနှင့် စပ်လျဉ်း၍ ပေါ့လျော့ခြင်း။

၂၈၆။ ။မည်သူမဆို၊ လူ့အသက်ကို အန္တရာယ်ဖြစ်စေအောင်သော်၎င်း၊ သူတပါးကို နာကျင်စေတန်လောက်အောင်၊ သို့တည်းမဟုတ် နစ်နာစေတန်လောက်အောင်သော်၎င်း ပေါက်ကွဲတတ်သော အရာဝတ္ထုဖြင့် ပြုလုပ်မှုတခုခုကို အရမ်းဖြစ်စေ၊ ပေါ့လျော့စွာဖြစ်စေ ပြုလျှင်၊ သို့တည်းမဟုတ် ပေါက်ကွဲတတ်သော အရာဝတ္ထုကြောင့် လူ့အသက်အန္တရာယ်ဖြစ်ဖွယ်ရှိခြင်းမှ ကာကွယ်ရန်လုံလောက်အောင် လက်ရှိပေါက်ကွဲတတ်သော အရာဝတ္ထုကို နေရာတကျမထားဘဲ သိလျက်နှင့်ဖြစ်စေ ပေါ့လျော့စွာဖြစ်စေ ပျက်ကွက်လျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ် တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**စက်ကိရိယာနှင့် စပ်လျဉ်း၍ ပေါ့လျော့ခြင်း။**

၂၈၇။ ။မည်သူမဆို၊ လူ့အသက်ကို အန္တရာယ်ဖြစ်စေအောင်သော်၎င်း၊ သူတပါးကို နာကျင်စေတန်လောက်အောင်၊ သို့တည်းမဟုတ် နစ်နာစေတန်လောက်အောင် သော်၎င်း စက်ကိရိယာဖြင့် ပြုလုပ်မှုတခုခုကို အရမ်းဖြစ်စေ၊ ပေါ့လျော့စွာဖြစ်စေ ပြုလျှင်၊ သို့တည်းမဟုတ် စက်ကိရိယာကြောင့် လူ့အသက်အားအန္တရာယ်ဖြစ်ဖွယ်ရှိခြင်းမှ–ကာကွယ်ရန် လုံလောက်အောင်လက်ရှိစက်ကိရိယာကိုသော်၎င်း၊ မိမိကြည့်ရှုအုပ်ထိန်းသော စက်ကိရိယာကိုသော်၎င်း နေရာတကျမထားဘဲ သိလျက်နှင့်ဖြစ်စေ၊ ပေါ့လျော့စွာဖြစ်စေ ပျက်ကွက်လျှင်၊ ထိုသူကို ခြောက်လထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ တထောင်ထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

**အဆောက်အအုံ များကို ဖြိုခြင်းနှင့်၊ သို့တည်းမဟုတ် ပြင်ခြင်းနှင့် စပ်လျဉ်း၍ ပေါ့လျော့ခြင်း။**

၂၈၈။ ။အဆောက်အအုံတခုကို ဖြိုရာတွင်၊ သို့တည်းမဟုတ် ပြင်ရာတွင် ထိုအဆောက်အအုံတခုလုံးဖြစ်စေ၊ တစိတ်တဒေသဖြစ်စေ ပြိုကျခြင်းကြောင့် လူ့အသက်အား အန္တရာယ်ဖြစ်ဖွယ်ရှိခြင်းမှ ကာကွယ်ရန် လုံလောက်အောင် ထိုအဆောက်အအုံကို နေရာတကျ မဖြိုဖျက်ဘဲ၊ သို့တည်းမဟုတ် မပြင်ဘဲ မည်သူမဆို၊ သိလျက်နှင့်ဖြစ်စေ၊ ပေါ့လျော့စွာဖြစ်စေ ပျက်ကွက်လျှင်၊ ထိုသူကို ခြောက်လထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**တိရစ္ဆာန်နှင့် စပ်လျဉ်း၍ ပေါ့လျော့ခြင်း။**

၂၈၉။ ။တိရစ္ဆာန်ကြောင့် လူ့အသက်အားအန္တရာယ်ဖြစ်ဖွယ်ရှိခြင်းမှ၊ သို့တည်းမဟုတ် အပြင်းအထန် နာကျင်ဖွယ်ရှိခြင်းမှ ကာကွယ်ရန် လုံလောက်အောင် လက်ရှိတိရစ္ဆာန်ကို နေရာတကျမထားဘဲ မည်သူမဆို သိလျက်နှင့်ဖြစ်စေ၊ ပေါ့လျော့စွာဖြစ်စေ ပျက်ကွက်လျှင်၊ ထိုသူကို ခြောက်လထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ တထောင်ထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

**ပြဋ္ဌာန်း ထားခြင်း မရှိသော အချက်တွင်၊ အများပြည်သူဆိုင်ရာ နှောင့်ယှက်မှု အတွက်ပြစ်ဒဏ်။**

၂၉၀။ ။ဤရာဇသတ်ကြီးအရ ပြစ်ဒဏ်စီရင်ရန် ပြဋ္ဌာန်းထားခြင်းမရှိသည့် အချက်၌၊ မည်သူမဆို၊ အများပြည်သူဆိုင်ရာ နှောင့်ယှက်မှုကို ကျူးလွန်လျှင်၊ ထိုသူကို နှစ်ရာထိ ငွေဒဏ်ချမှတ်ရမည်။

**တားဝါရမ်းကို၊ သို့တည်းမဟုတ် တားမြစ်သည့် အမိန့်ကို ထုတ်ဆင့်ပြီးနောက်နှောင့်ယှက်မှုကို ဆက်လက်၍ ပြုခြင်း။**

၂၉၁။ ။အများပြည်သူဆိုင်ရာ နှောင့်ယှက်မှုကို ထပ်မံ၍သော်၎င်း၊ ဆက်လက်၍သော်၎င်း မပြုရဟု ဥပဒေနှင့်အညီ အမိန့်ထုတ်ရန် အခွင့်အာဏာရှိသော ပြည်သူ့ဝန်ထမ်း၏ တားမြစ်ခြင်းကိုခံရပြီးသောသူသည် အများပြည်သူဆိုင်ရာ နှောင့်ယှက်မှုကိုထပ်မံ၍၊ သို့တည်းမဟုတ် ဆက်လက်၍ ပြုလျှင်၊ ထိုသူကို ခြောက်လထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ ဒဏ်နှစ်ရပ်လုံးဖြစ်စေ၊ ချမှတ် ရမည်။

၂၉၂။ ။မည်သူမဆို—

ညစ်ညမ်းသော စာအုပ် စသည်များကို ရောင်းခြင်း စသည်များ။

(က) ညစ်ညမ်းသောစာအုပ်၊ စာအုပ်ငယ်၊ စာရွက်စာတမ်း၊ ရေးဆွဲသောပုံ၊ ပန်းချီကား၊ ပုံသဏ္ဌာန်ရုပ်ပုံတမျိုးမျိုးကို၊ သို့တည်းမဟုတ် ညစ်ညမ်းသောအရာဝတ္ထုကို ရောင်းခြင်း၊ ထုတ်ငှါးခြင်း၊ ဝေငှခြင်း၊ အများပြည်သူတို့မြင်သာအောင်ပြခြင်း တခုခုကိုပြုလျှင်၊ သို့တည်းမဟုတ် နည်းတမျိုးမျိုးဖြင့် ဖြန့်ချိခြင်းပြုလျှင်၊ သို့တည်းမဟုတ် ရောင်းခြင်း၊ ထုတ်ငှါးခြင်း၊ ဝေငှခြင်း၊ အများပြည်သူတို့ မြင်သာအောင်ပြခြင်း၊ ဖြန့်ချိခြင်း ကိစ္စတခုခုအလို့ငှါ ပြုလျှင်၊ သို့တည်းမဟုတ် ထုတ်လုပ်လျှင်၊ သို့တည်းမဟုတ် လက်ရှိထားလျှင်၊ သို့တည်းမဟုတ်

(ခ) ညစ်ညမ်းသော အရာဝတ္ထုတခုခုကို အထက်အဆိုပါ ကိစ္စတခုခုအတွက်၊ သို့တည်းမဟုတ် ထိုအရာဝတ္ထုတခုခုကို ရောင်းခြင်း၊ ထုတ်ငှါးခြင်း၊ ဝေငှခြင်း၊ အများပြည်သူတို့ မြင်သာအောင် ပြခြင်း၊ နည်းတမျိုးမျိုးဖြင့် ဖြန့်ချိခြင်း တခုခုပြုမည်ဖြစ်ကြောင်းကို သိလျက်နှင့် သော်၎င်း၊ ထိုသို့ ယုံကြည်ရန် အကြောင်းရှိလျက်နှင့် သော်၎င်း နိုင်ငံတွင်းသို့ သွင်းခြင်း၊ နိုင်ငံအပသို့ ထုတ်ခြင်း၊ သယ်ယူပို့ဆောင်ခြင်းတခုခုပြုလျှင်၊ သို့တည်းမဟုတ်

(ဂ) ညစ်ညမ်းသော အရာဝတ္ထုတခုခုကို အထက်အဆိုပါ ကိစ္စတခုခုအတွက် ပြုကြောင်းကိုဖြစ်စေ၊ ထုတ်လုပ်ကြောင်းကို ဖြစ်စေ၊ ဝယ်ကြောင်းကိုဖြစ်စေ၊ ထားရှိကြောင်းကိုဖြစ်စေ၊ နိုင်ငံတွင်းသွင်းကြောင်းကိုဖြစ်စေ၊ နိုင်ငံအပထုတ်ကြောင်းကို ဖြစ်စေ၊ သယ်ယူပို့ဆောင်ကြောင်းကို ဖြစ်စေ၊ အများပြည်သူမြင်သာအောင် ပြကြောင်းကိုဖြစ်စေ၊ နည်းတမျိုးမျိုးဖြင့် ဖြန့်ချိကြောင်းကိုဖြစ်စေ သိသော၊ သို့တည်းမဟုတ် ယုံကြည်ရန် အကြောင်းရှိသော လုပ်ငန်းကို လုပ်ကိုင်ရာတွင် ပါဝင်ဆောင်ရွက်လျှင်၊ သို့တည်းမဟုတ် ထိုလုပ်ငန်းမှ အမြတ်အစွန်းရရှိလျှင်၊ သို့တည်းမဟုတ်

(ဃ) ဤပုဒ်မအရ ပြစ်မှုဖြစ်သော ပြုလုပ်မှု တခုခုတွင်၊ တဦးတယောက်သောသူ ပါဝင်ဆောင်ရွက်ကြောင်းကို၊ သို့တည်းမဟုတ် ပါဝင်ဆောင်ရွက်ရန်အသင့်ရှိကြောင်းကိုဖြစ်စေ၊ အဆိုပါညစ်ညမ်းသောအရာဝတ္ထုတခုခုကို တဦးတယောက်ထံမှသော်၎င်း၊ တဆင့်သော်၎င်း ရယူနိုင်ကြောင်းကိုဖြစ်စေ နည်းတမျိုးမျိုးဖြင့် ကြော်ငြာလျှင်၊ သို့တည်းမဟုတ် ကြားသိစေလျှင်၊ သို့တည်းမဟုတ်

(င) ဤပုဒ်မအရ ပြစ်မှုဖြစ်သော ပြုလုပ်မှုတခုခုကိုပြုရန် ကမ်းလှမ်းလျှင်၊ သို့တည်းမဟုတ် အားထုတ်လျှင်၊ ထိုသူကို သုံးလထိထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

**ကင်းလွတ်ချက်။** ။ဤပုဒ်မသည် ကိုးကွယ်သည့်ဘာသာကိစ္စများ အလို့ငှါ သဘောရိုးနှင့်ထားရှိသော၊ သို့တည်းမဟုတ် သုံးစွဲသောစာအုပ်၊ စာအုပ်ငယ်၊ အရေးအသား၊ ရေးဆွဲသောပုံ၊ ပန်းချီကားတမျိုးမျိုးနှင့်ဖြစ်စေ၊ ကိုးကွယ်သည့်ဘာသာရေးဆိုင်ရာ အဆောက်အအုံမှာသော်၎င်း၊ ရုပ်ပွါးဆင်းတုများကို ပင့်ဆောင်ရန်သုံးစွဲသည့် ယာဉ်မှာသော်၎င်း ထုခြင်း၊ ထွင်းခြင်း၊ ဆေးရေးခြယ်ခြင်းတခုခုပြုထားသော၊ သို့တည်းမဟုတ် အခြားနည်းဖြင့် ပုံသဏ္ဌာန်

မှုထားသော ပုံတခုခုနှင့်ဖြစ်စေ၊ ကိုးကွယ်သည့်ဘာသာ ကိုစွအလိုငှါ ထားရှိသော၊ သို့တည်း မဟုတ် သုံးစွဲသော အထက်ပါ ပုံတခုခုနှင့်ဖြစ်စေ သက်ဆိုင်ခြင်း မရှိစေရ။

၂၉၃။ ။မည်သူမဆို၊ တဆက်တည်း ဖြစ်သော အထက်ပုဒ်မတွင် ဖေါ်ပြထားသည့် ညစ်ညမ်းသော အရာဝတ္ထုတခုခုကို အသက်နှစ်ဆယ်မပြည့်သေး သောသူ တဦးတယောက်သို့ ရောင်းခြင်း၊ ထုတ်ငှါးခြင်း၊ ဝေငှ ခြင်း၊ပြခြင်း၊ဖြန့်ချီခြင်းတခုခုပြုလျှင်၊သို့တည်းမဟုတ် ထိုသို့ပြုရန် ကမ်းလှမ်းခြင်း၊ အားထုတ်ခြင်း တခုခုပြုလျှင်၊ ထိုသူကို ခြောက် လထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေချမှတ်ရမည်။

ညစ် ညမ်း သော အရာဝတ္ထုများကို ငယ်ရွယ်သူတို့အားရောင်းခြင်းစသည်များ။

၂၉၄။ ။မည်သူမဆို၊ အခြားသူများ စိတ်ငြိုငြင်အောင်—

(က) အများပြည်သူဆိုင်ရာ နေရာတခုခုတွင် ညစ်ညမ်းသောပြုလုပ်မှု တခုခုကိုပြုလျှင်၊ သို့တည်းမဟုတ်

(ခ) အများပြည်သူဆိုင်ရာ နေရာတခုခုတွင် ဖြစ်စေ၊ အနီးအနားတွင်ဖြစ်စေ၊ ညစ်ညမ်းသော ကဗျာ၊ လင်္ကာ၊ သီချင်း၊ စကားတမျိုးမျိုးကိုရွတ်ဆိုခြင်း၊ သီဆိုခြင်း၊ ပြောဆိုခြင်း တခုခုပြုလျှင်၊

ထိုသူကို သုံးလထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ညစ်ညမ်းသော ပြုလုပ်မှုများနှင့် ညစ်ညမ်းသော သီချင်းများ။

*၂၉၄-က။ ။မည်သူမဆို၊ အစိုးရ၏ အခွင့်အမိန့် မရရှိဘဲ၊ ထီဖွင့်ရန်အလို့ငှါ၊ သို့တည်းမဟုတ် ထီပွဲကို အားပေး အားမြှောက် ပြုရန်အလို့ငှါ၊ သို့တည်းမဟုတ် ထီပွဲကို စီမံကျင်းပရန်အလို့ငှါ၊ ရုံတခုခုကို သော်၎င်း၊ နေရာတခုခုကို သော်၎င်း ထားရှိလျှင်၊ ထိုသူကိုခြောက်လထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေချမှတ်ရမည်။

ထီရုံထောင်ခြင်း။

မည်သူမဆို၊ အဆိုပါထီပွဲတခုခုတွင် လက်မှတ်၊ဂဏန်း၊ သို့တည်းမဟုတ် ရုပ်ပုံတခုခုကို ထီဖွင့် ခြင်းနှင့်စပ်လျဉ်း၍သော်၎င်း၊ ထိုထီပွဲတခုခုစီမံကျင်းပခြင်းနှင့် စပ်လျဉ်း၍သော်၎င်း၊ ဖြစ်သည့် မဖြစ်သည့် အခြင်းအရာ၊ သို့တည်းမဟုတ် မသေချာသော အခြင်းအရာ တခုခုပေါ်တွင် မူတည်၍ ငွေပေးဆောင်မည်၊ သို့တည်းမဟုတ် ပစ္စည်းပေးအပ်မည်၊ သို့တည်းမဟုတ် တဦး တယောက်သော သူ၏ အကျိုးဖြစ်မှုအတွက် အရာတခုခုကိုပြုမည်၊ သို့တည်းမဟုတ် မပြုဘဲ နေမည်ဟူ၍ ရည်ရွယ်ကြောင်းကို ကြော်ငြာလျှင်၊ ထိုသူကို ကျပ်တထောင်ထိ ငွေဒဏ်ချမှတ် ရမည်။

မည်သူမဆို၊ ထီပွဲတခုခုတွင် ထီလက်မှတ်များ၊ သို့တည်းမဟုတ် ကံစမ်းခွင့်များကို၊ ထီလက်မှတ်အပေါ်တွင် ဖေါ်ပြထားသည့်အတိုင်း ရောင်းရင်းတန်ဘိုး အပြည့်ကိုရရှိ၍ ရောင်း ခြင်း မဟုတ်ဘဲ၊ အခြားနည်း ထုတ်ဝေလျှင်၊ သို့တည်းမဟုတ် ထုတ်ဝေရန် ကမ်းလှမ်းလျှင်၊ သို့တည်းမဟုတ် ထုတ်ဝေရန် ကြော်ငြာလျှင်၊ ထိုသူကို ကျပ်တထောင်ထိ ငွေဒဏ်ချမှတ် ရမည်။

---

* ၁၉၆၀ ပြည့်နှစ်၊ အက်ဥပဒေ အမှတ် ၇၂ အရပြင်ဆင်ထားသည်။

# အခန်း ၁၅။

## ဘာသာ သာသနာဆိုင်ရာပြစ်မှုများ။

၂၉၅။ ။လူတစားကိုးကွယ်သည့် ဘာသာ သာသနာကို စော်ကားရန် အကြံဖြင့်ဖြစ်စေ၊ ကိုးကွယ်ဝတ်ပြုသော နေရာကိုသော်၎င်း၊ အထွဋ်အမြတ်ထားသော အရာဝတ္ထုကိုသော်၎င်း၊ ဖျက်ဆီးခြင်းသည်၊ သို့တည်းမဟုတ် ပျက်စီးနစ်နာစေခြင်းသည်၊ သို့တည်းမဟုတ် ယုတ်ညံ့စေခြင်းသည်၊ ထိုဘာသာ သာသနာကို စော်ကားသည်ဟု လူတစားက ယူဆတန်ရာသည်ကို သိလျက်နှင့်ဖြစ်စေ မည်သူမဆို၊ ထိုလူတစားက ဘာသာ သာသနာရေးဆိုင်ရာ ကိုးကွယ်ဝတ်ပြုသော နေရာကိုသော်၎င်း၊ အထွဋ်အမြတ်ထားသော အရာဝတ္ထုကိုသော်၎င်း ဖျက်ဆီးလျှင်၊ သို့တည်းမဟုတ် ပျက်စီးနစ်နာစေလျှင်၊ သို့တည်းမဟုတ် ယုတ်ညံ့စေလျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

လူတစား ကိုးကွယ်သည့် ဘာသာ သာသနာကို စော်ကားရန် အကြံဖြင့် ကိုးကွယ်ဝတ်ပြုသော နေရာကို ဖျက်ဆီးခြင်း၊ သို့တည်း မဟုတ် ယုတ်ညံ့စေခြင်း။

၂၉၅-က။ ။ပြည်ထောင်စု နိုင်ငံတော်တွင် နေထိုင်သော လူတစား၏ ဘာသာရေးစိတ်ကိုနာကြည်းစေရန် တမင်မသမာသော အကြံဖြင့်မည်သူမဆို၊ စကားဖြင့်ဖြစ်စေ၊ စာဖြင့်ဖြစ်စေ၊ ထင်ရှားသောပုံသဏ္ဌာန်ဖြင့်ဖြစ်စေ၊ ထိုလူတစားကိုးကွယ်သည့်ဘာသာ သာသနာကို သော်၎င်း၊ ဘာသာ သာသနာရေးယုံကြည်မှုကိုသော်၎င်း၊ စော်ကားလျှင်၊ သို့တည်းမဟုတ် စော်ကားရန် အားထုတ်လျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

လူတစား ကိုးကွယ်သည့် ဘာသာ သာသနာကို ဖြစ်စေ၊ ဘာသာ သာသနာရေး ယုံကြည်မှုကို ဖြစ်စေ၊ စော်ကားခြင်းဖြင့်၊ ထိုလူတစား၏ ကိုးကွယ်ရာ ဘာသာရေး စိတ်ဓါတ်ကိုနာကြည်း စေရန် ကြံရွယ်၍ မသမာစိတ် ဖြင့် တမင်ကျူးလွန်သော ပြုလုပ်မှုများ။

၂၉၆။ ။ဥပဒေနှင့်အညီ ဘာသာသာသနာရေးဆိုင်ရာ ကိုးကွယ်ဝတ်ပြုခြင်းပြုနေသော၊ သို့တည်းမဟုတ် ဘာသာ သာသနာရေးဆိုင်ရာ အခမ်းအနားကို ကျင်းပနေသော အစုအဝေး တခုခုအား မည်သူမဆို၊ မိမိအလိုအလျောက် အနှောင့်အယှက်ဖြစ်စေလျှင်၊ ထိုသူကို တနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဘာသာ သာသနာရေး ဆိုင်ရာ အစုအဝေးကို နှောင့်ယှက်ခြင်း။

၂၉၇။ ။တဦးတယောက်သောသူ၏ စိတ်ကိုနာစေရန် အကြံဖြင့်ဖြစ်စေ၊ တဦးတယောက် ကိုးကွယ်သည့် ဘာသာ သာသနာကိုစော်ကားရန် အကြံဖြင့်ဖြစ်စေ တဦး တယောက်သောသူ၏ စိတ်ကို နာစေတန်ရာသည်ကို၊သို့တည်းမဟုတ် တဦးတယောက်သောသူ ကိုးကွယ်သည့် ဘာသာ သာသနာကို စော်ကားတန်ရာသည်ကိုသိလျက်နှင့်ဖြစ်စေ မည်သူမဆို၊ ကိုးကွယ်ဝတ်ပြုသောနေရာ၌သော်၎င်း၊ သင်္ချိုင်း၌သော်၎င်း၊ မသာအခမ်းအနား ဆောင်ရွက်ရန် သီးသန့်ထားသည့် နေရာ၌သော်၎င်း၊ လူသေအလောင်းထား

သင်္ချိုင်း စသော နေရာအရပ်များကို ကျူးကျော်စော်ကားခြင်း။

ရန် သီးသန့်နေရာ၌သော်၎င်း ကျူးကျော်စော်ကားလျှင်၊ သို့တည်းမဟုတ် လူသေအလောင်းကို မဖွယ်မရာပြုလျှင်၊ သို့တည်းမဟုတ် မသာအခမ်းအနားကျင်းပဆောင်ရွက်ရန် စုဝေးနေသူတို့ကို အနှောင့်အယှက်ဖြစ်စေလျှင်၊ ထိုသူကို တနှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဘာသာရေး စိတ်ကို နာစေရန် ရည်ရွယ်ကြံရွယ်၍၊ စကား စသည်များကို ပြောဆိုခြင်း။

၂၉၈။ ။တဦးတယောက်သောသူ၏ ဘာသာရေးစိတ်ကို နာစေရန် တမင်ကြံ၍၊ မည်သူမဆို၊ ထိုသူကြားလောက်သောနေရာ၌ စကားပြောဆိုလျှင်၊ သို့တည်းမဟုတ် အသံတခုခုကိုပြုလျှင်၊ သို့တည်းမဟုတ် ထိုသူမြင်လောက်သော နေရာ၌ ကိုယ်အမူအရာတခုခုကိုပြုလျှင်၊ သို့တည်းမဟုတ် အရာဝတ္ထုတခုခုကိုထားလျှင်၊ ထိုသူကို တနှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

## အခန်း ၁၆။

## လူ့ကိုယ်ကိုထိခိုက်သောပြစ်မှုများ။

### လူ့အသက်ကိုထိခိုက်သောပြစ်မှုများ။

ရာဇဝတ် ပြစ်ဒဏ် ထိုက်သောလူသေမှု။

၂၉၉။ ။(၁) သေစေခြင်းဖြစ်တန်ရာသော ကိုယ်အင်္ဂါနာကျင်မှုကို ဖြစ်စေရန် အကြံဖြင့် မည်သူမဆို၊ ပြုလုပ်မှုတခုခုကိုပြု၍ လူကိုသေစေလျှင်၊ ထိုသူသည် လူသတ်မှုမမြောက်သည့် ရာဇဝတ်ပြစ်ဒဏ်ထိုက်သောလူသေမှုကို ကျူးလွန်သည်မည်၏။ ထို့ပြင်

(၂) သေစေရန် အကြံဖြင့်ဖြစ်စေ၊ ဖြစ်တတ်သော သဘောအရ အမှန်အားဖြင့် သေစေလောက်သော ကိုယ်အင်္ဂါနာကျင်မှုကို ဖြစ်စေရန် အကြံဖြင့်ဖြစ်စေ မည်သူမဆို၊ ပြုလုပ်မှုတခုခုကိုပြု၍ လူကိုသေစေလျှင်၊ ထိုသူသည် အောက်ပါအချက်တခုခု၌၊ လူသတ်မှုမမြောက်သည့် ရာဇဝတ်ပြစ်ဒဏ်ထိုက်သောလူသေမှုကို ကျူးလွန်သည်မည်၏။

(က) ပြစ်မှုကျူးလွန်သူသည် ရုတ်တရက် အကြီးအကျယ်ဒေါသထွက်အောင် ပြုခြင်းခံရသဖြင့် မိမိကိုယ်ကိုမိမိမချုပ်တည်းနိုင်သည့်အတွင်း၊ ဒေါသထွက်အောင် ပြုသူကိုဖြစ်စေ၊ မှားယွင်း၍သော်၎င်း၊ မတော်တဆသော်၎င်း အခြားသူတဦးဦးကိုဖြစ်စေ သေစေလျှင်——

**ခြွင်းချက်။**

**ပဌမ။** ။သို့ရာတွင် တဦးတယောက်သောသူအား သတ်သည့် အတွက်သော်၎င်း၊ အန္တရာယ်ပြုသည့်အတွက်သော်၎င်း အပြစ်တင်ကင်းလွတ်ခွင့်ရအောင်၊ ထိုပြစ်မှု ကျူးလွန်သူသည် ဒေါသထွက်စေမှုကို မိမိကိုယ်တိုင် ရှာကြံခြင်းမရှိစေရ၊ သို့တည်းမဟုတ် မိမိဒေါသထွက်အောင်သူတပါးကပြုစေရန် မိမိက ထိုသူအား မိမိအလိုအလျောက်ပြုခြင်းမရှိစေရ။

**ဒုတိယ။** ။သို့ရာတွင် ဥပဒေကိုနာခံ၍သော်၎င်း၊ ပြည်သူ့ဝန်ထမ်း အဖြစ်ဖြင့် ဥပဒေနှင့် အညီ အာဏာကိုသုံးစွဲရာတွင် ပြည်သူ့ဝန်ထမ်းကသော်၎င်း ပြုမူဆောင်ရွက်သော အရာသည် ဒေါသထွက်စေမှုကိုပြုသည်ဟု မှတ်ယူခြင်းမရှိစေရ။

**တတိယ။** ။သို့ရာတွင် ကာကွယ်ခုခံပိုင်ခွင့်ကို ဥပဒေနှင့်အညီ သုံးစွဲရာတွင် ပြုမူဆောင်ရွက်သောအရာသည် ဒေါသထွက်စေမှုကိုပြုသည်ဟု မှတ်ယူခြင်းမရှိစေရ။

**ရှင်းလင်းချက်။** ။ဒေါသထွက်စေမှုသည် ပြစ်မှုကျူးလွန်သူ၏ စိတ်ကိုမချုပ်တည်းနိုင်လောက်အောင် ရုတ်တရက်အကြီးအကျယ်ဖြစ်သည် မဖြစ်သည်ဆိုသော အချက်မှာကားကြောင်းခြင်းရာ ပြဿနာဖြစ်သည်။

(ခ) ပြစ်မှုကျူးလွန်သူသည် ကိုယ်ကိုဖြစ်စေ၊ ပစ္စည်းကိုဖြစ်စေ ကာကွယ်ခုခံပိုင်ခွင့်ကို သဘောရိုးဖြင့်သုံးစွဲရာတွင် ဥပဒေက ပေးအပ်သည့် ကာကွယ်ခုခံပိုင်ခွင့်ကိုလိုသည်ထက်ပိုမိုသုံးစွဲ၍ တင်ကူးကြံရွယ်ခြင်းမရှိဘဲနှင့်၎င်း၊ ထိုသို့ကာကွယ်ခုခံရန် အလို့ငှါ လိုသည်ထက်ပို၍ အန္တရာယ်ပြုရန် ကြံရွယ်ခြင်းမရှိဘဲနှင့်၎င်း ကာကွယ်ခုခံပိုင်ခွင့်သုံးစွဲရခြင်း၏အကြောင်းရင်းဖြစ်သော လူကိုသေစေလျှင်—

(ဂ) ပြည်သူ့ဝန်ထမ်းဖြစ်သော၊ သို့တည်းမဟုတ် ဖြောင့်မှန်စွာ တရားစီရင်ရေးအတွက် ပြည်သူ့ဝန်ထမ်းကို ကူညီသောပြစ်မှုကျူးလွန်သူသည် ဥပဒေက ပေးအပ်သောအာဏာကို လိုသည်ထက်ပိုမိုသုံးစွဲ၍၊ ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့် တာဝန်ဝတ်တရားကို ကျေနစွာဆောင်ရွက်ရေးအတွက် ဥပဒေနှင့်အညီဖြစ်သည့်အပြင်လိုလည်းလိုအပ်သည်ဟုသဘောရိုးဖြင့် မိမိယုံကြည်သော ပြုလုပ်မှုတခုကို ပြုခြင်းဖြင့်၎င်း၊ သေသူအပေါ်၌ ရန်ငြိုးထားခြင်းမရှိဘဲနှင့်၎င်း လူကိုသေစေလျှင်—

(ဃ) ပြစ်မှုကျူးလွန်သူသည် ရုတ်တရက် ခိုက်ရန်ဖြစ်ပွါးသဖြင့် ဒေါသအမျက်ပြင်းပြ၍ ရုတ်တရက်သတ်ပုတ်ကြရာတွင် တင်ကူးကြံရွယ်ခြင်းမရှိဘဲနှင့်၎င်း၊ မလျော်သောအခွင့်အရေးယူခြင်း၊ သို့တည်းမဟုတ် ရက်ရက်စက်စက် ထူးထူးခြားခြား၊ သို့တည်းမဟုတ် ရက်ရက်စက်စက်၊ သို့တည်းမဟုတ် ထူးထူးခြားခြား ပြုမူခြင်းမရှိဘဲနှင့်၎င်း ပြုလုပ်လျှင်—

**ရှင်းလင်းချက်။** ။အဆိုပါ အချက်များတွင် မည်သူက ဒေါသထွက်စေမှုကို ပြုသည်၊ သို့တည်းမဟုတ် လက်ရောက်မှုကို ရှေးဦးစွာပြုသည်ဟူသောအချက်မှာ အရေးပါ အရာရောက်သော အချက်မဟုတ်။

(င) အသက်တဆယ့်ရှစ်နှစ် ကျော်လွန်သည်လည်းဖြစ်၍၊ သဘောတူ အသေခံသည်လည်းဖြစ်သော၊ သို့တည်းမဟုတ် ထိုသို့ သေဘေးကိုခံယူစွန့်စားသည်လည်းဖြစ်သော လူကိုပြစ်မှုကျူးလွန်သူက **သေစေလျှင်။**

၃၀၀။ ။ပြုလုပ်မှုကို လူသတ်မှုမမြောက်သည့် လူသေမှုဖြစ်အောင်ပြုသော ပတ်ဝန်းကျင်ကြောင်းခြင်းရာ မရှိခဲ့သော်၊ မည်သူမဆို၊ သေစေရန် အကြံဖြင့်ဖြစ်စေ၊ ဖြစ်တတ်သော သဘောအရ အမုန်အားဖြင့် သေစေလောက်သော ကိုယ်အင်္ဂါနာကျင်မှုကို ဖြစ်စေရန် အကြံဖြင့်ဖြစ်စေ ပြုလုပ်မှုတခုကိုပြု၍ လူကိုသေစေလျှင်၊ ထိုသူသည် လူသတ်မှုကျူးလွန်သည်မည်၏။

**လူသတ်မှု။**

၃၀၀-က။ ။ပုဒ်မ ၂၉၉ နှင့် ၃၀၀ တွင်—

(က) ကိုယ်စိတ်ချွတ်ယွင်းခြင်းရှိသော၊ သို့တည်းမဟုတ် အနာရောဂါ စွဲကပ်သော၊ သို့တည်းမဟုတ်ကိုယ်အင်္ဂါချည့်နဲ့သောသူအား ကိုယ်အင်္ဂါနာကျင်မှုဖြစ်စေ၍၊ ထိုသူ၏ သေခြင်းကိုမြန်စေသော သူတဦးတယောက်သည် ထိုသူအားသေစေသည်ဟု မှတ်ယူရမည်။

(ခ) ကိုယ်အင်္ဂါနာကျင်စေခြင်းဖြင့် သေစေသည့် အမှုတွင်၊ ကိုယ်အင်္ဂါနာကျင်စေမှု ပြုခြင်းခံရသောလူ၏မသန်စွမ်းခြင်းကိုသော်ရင်း၊ချည့်နဲ့ခြင်းကိုသော်ရင်း၊ ပြစ်မှုကျူးလွန်သူ သိခြင်းသည် ထိုသူ၏ ကြံရွယ်ခြင်းအချက်ကို ထင်ရှားအောင် ပြရာတွင် သက်ဆိုင်သော အချက်ဖြစ်သည်။

(ဂ) ပြုလုပ်မှု တခုခုသည် ဖြစ်တတ်သော သဘာဝအရ သေခြင်းသို့ရောက်လောက်အောင် လတ်တလော ဘေးကိုဖြစ်စေမည်ဟု သော်ရင်း၊ သေစေခြင်း ဖြစ်တန်ရာသော ကိုယ်အင်္ဂါနာကျင်မှုကို ဖြစ်စေသည် ဟုသော်ရင်း ပြစ်မှုကျူးလွန်သူသိခြင်းသည် ထိုသူ၏ ကြံရွယ်ရင်းအချက်ကို ထင်ရှားအောင်ပြရာတွင် သက်ဆိုင်သော အချက်ဖြစ်သည်။

(ဃ) ကိုယ်အင်္ဂါနာကျင်စေခြင်းဖြင့် သေစေသည့် အမှုတွင်၊ သင့်တော်သော ဆေးဝါးဖြင့်ရင်း၊ ကျွမ်းကျင်သော ကုသခြင်းဖြင့်ရင်း ပြုစု၍သေခြင်းကို တားဆီးနိုင်သော်လည်း၊ ကိုယ်အင်္ဂါနာကျင်မှုကို ပြုသောသူသည် သေခြင်းကိုဖြစ်စေသည်ဟု မှတ်ယူရမည်။

(င) အမိဝမ်းတွင်းရှိ ကလေးကိုသေစေခြင်းသည် လူသေမှုမမည်၊ သို့ရာတွင် အသက်ရှင်သော ကလေးကို သေစေခြင်းသည် ထိုကလေးအသက်မရှူသေးသော်လည်း၊ သို့တည်းမဟုတ် အလုံးစုံမွေးဖွားပြီးမဟုတ်သေးသော်လည်း၊ အချို့အဝက်ဖွားမြင်ပြီးဖြစ်လျှင်၊ရာဇဝတ်ပြစ်ဒဏ်ထိုက်သောလူသေမှုမြောက်နိုင်သည်။

၃၀၁။ ။ တစ်ဦးတစ်ယောက်သောသူသည် သေစေရန် မိမိကြံရွယ်သော၊ သို့တည်းမဟုတ် သေစေတန်ရာသည်ဟု မိမိသိသောအရာ တစ်ခုခုကို ပြုခြင်းဖြင့်၊ သေစေရန် မိမိက မကြံရွယ်သော သူ၏ သေခြင်းကို ဖြစ်စေလျက်၊ သို့တည်းမဟုတ် သူတစ်ဦး၏ သေခြင်းကိုဖြစ်စေတန်ရာသည်ဟု မိမိကိုယ်တိုင်မသိသော ထိုသူ၏ သေခြင်းကိုဖြစ်စေလျက်၊ ပြစ်မှုတစ်ခုခုကို ကျူးလွန်လျှင် ထိုသူကျူးလွန်သောပြစ်မှုသည် သေစေရန် မိမိက ကြံရွယ်သည့်သူကို သေစေသောပြစ်မှုနှင့်သော်လည်းကောင်း၊ သေခြင်းကိုဖြစ် စေတန်ရာသည်ဟု မိမိကိုယ်တိုင်သိသည့် သေခြင်းကိုဖြစ်စေသော ပြစ်မှုနှင့်သော်လည်းကောင်း မခြားထပ်တူဖြစ်သည်။

မိမိသေစေရန် ကြံရွယ်သောသူမသေဘဲ အခြားသူတစ်ဦးဦးသေဆုံးစေသည့် ရာဇဝတ်ပြစ်ဒဏ်ထိုက်သော လူသေမှု

**ရှင်းလင်းချက်။** ။ဤပုဒ်မပါ "ပြစ်မှု" ဆိုသော စကားသည် ရာဇသတ်ကြီး ပုဒ်မ ၂၉၉ ၌၊ သို့တည်းမဟုတ် ပုဒ်မ ၃၀၀ ၌၊ သို့တည်းမဟုတ် ၃၀၄ (က)၌ ဖော်ပြထားသော ပြစ်မှုကို ဆိုလိုသည်။

၃၀၂။ ။(၁) မည်သူမဆို—

လူသတ်မှုအတွက်ပြစ်ဒဏ်။

(က) တသက်တကျွန်းဒဏ် စီရင်ခြင်း ခံရလည့်အတွင်း သို့တည်းမဟုတ်

(ခ) တင်ကူးကြံရွယ်ချက်ဖြင့်၊ သို့တည်းမဟုတ်

(ဂ) ဤရာဇသတ်ကြီးအရ ခုနစ်နှစ်ထိ ထောင်ဒဏ်ချမှတ်ခြင်း ခံထိုက်သောပြစ်မှုကို ကျူးလွန်နေစဉ် လူသတ်မှုကို ကျူးလွန်လျှင်၊ ထိုသူကို သေဒဏ်ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

(၂) မည်သူမဆို၊ အခြားအချက်မျိုး၌ လူသတ်မှုကျူးလွန်လျှင်၊ ထိုသူကိုတသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ အလုပ်ကြမ်းနှင့် ထောင်ဒဏ်ဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ရှင်းလင်းချက်။ ။ပြုလုပ်မှုတခုသည် တင်ကူးကြံရွယ်သော ပြုလုပ်မှုဖြစ်သည်မဖြစ်သည် ဆိုသောအချက်မှာ ကြောင်းခြင်းရာ ပြဿနာဖြစ်သည်။

၃၀၃။ * * * * * *

လူသတ်မှု မမြောက်သည့် ရာဇဝတ်ပြစ်ဒဏ် ထိုက်သော လူသေမှုအတွက်ပြစ်ဒဏ်။

၃၀၄။ ။မည်သူမဆို၊ လူသတ်မှုမမြောက်သည့် ရာဇဝတ်ပြစ်ဒဏ် ထိုက်သောလူသေမှုကို ကျူးလွန်လျှင်၊ ထိုသူကိုတသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ပေါ့လျော့ခြင်းဖြင့် သေစေမှု။

၃၀၄-က။ ။မည်သူမဆို၊ ရာဇဝတ်ပြစ်ဒဏ်ထိုက်သော လူသေမှုအဖြစ်ဖြင့်သော်၎င်း၊ လူသတ်မှုအဖြစ်ဖြင့်သော်၎င်း ပြစ်ဒဏ်ချမှတ်ခြင်း မခံထိုက်သော အရမ်းပြုလုပ်မှုကို၊ သို့တည်းမဟုတ် ပေါ့လျော့သော ပြုလုပ်မှုကို ပြု၍ လူကိုသေစေလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။ သို့ရာတွင် အဆိုပါပြုလုပ်မှုကို၊ သေစေတန်ရာသည်ဟု သိလျက်နှင့် ပြုလျှင်၊ ထောင်ဒဏ်ကိုတိုး၍ ဆယ်နှစ်ထိ ချမှတ်နိုင်သည်။

ကလေးဖြစ်စေ၊ ရူးသွပ်သူဖြစ်စေ၊ မိမိကိုယ်ကိုမိမိသတ်သည်ကို အားပေးကူညီခြင်း။

၃၀၅။ ။အသက်ဆယ့်ရှစ်နှစ်အောက် ကလေးဖြစ်စေ၊ ရူးသွပ်သူဖြစ်စေ၊ သွေးလေချောက်ချားသူဖြစ်စေ၊ ဝမ်းတွင်းရူးဖြစ်စေ၊ မူးယစ်နေသူဖြစ်စေ မိမိကိုယ်ကိုသတ်သည်တွင် မည်သူမဆို၊ ထိုသို့သတ်သည်ကို အားပေးကူညီလျှင်၊ ထိုသူကို သေဒဏ်ဖြစ်စေ၊ တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထက်မပိုသော ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

တဦး တယောက် သောသူ မိမိ ကိုယ် ကိုမိမိသတ်ခြင်းကိုအားပေးကူညီခြင်း။

၃၀၆။ ။တဦးတယောက်သောသူသည် မိမိကိုယ်ကို မိမိသတ်သည်တွင် မည်သူမဆို ထိုသို့သတ်သည်ကို အားပေးကူညီလျှင်၊ ထိုသူကို ဆယ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

လူသတ်မှုကို ကျူးလွန်ရန် အားထုတ်ခြင်း။

၃၀၇။ ။ပြုလုပ်မှုတခုခုကို ပြုရာတွင် သေခြင်းကိုဖြစ်စေခဲ့သော် လူသတ်မှုမြောက်နိုင်မည့် ကြံရွယ်ချက်ဖြင့်၎င်း၊ ထိုကဲ့သို့သော (ပြုလုပ်မှုတခုခုကို ပြုရာတွင် သေခြင်းကို ဖြစ်စေခဲ့သော် လူသတ်မှုမြောက်နိုင်မည့်) ပတ်ဝန်းကျင် ကြောင်းချင်းရာဖြင့်၎င်း မည်သူမဆို၊ ပြုလုပ်မှုတခုခုကိုပြုလျှင်၊ ထိုသူကို ဆယ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။ထို့ပြင်ထိုပြုလုပ်မှုဖြင့်တဦးတယောက်သောသူအား နာကျင်စေလျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ အထက်ကဆိုခဲ့သောပြစ်ဒဏ်ဖြစ်စေ ချမှတ်နိုင်သည်။

တသက်တကျွန်းဒဏ်ခံနေရသူတို့က အားထုတ်ခြင်း။

တသက်တကျွန်းဒဏ်ခံနေရစဉ် ဤပုဒ်မအရ ပြစ်မှုကျူးလွန်သူသည် သူတပါးကို နာကျင်စေလျှင်၊ ထိုသူကို သေဒဏ်ချမှတ်နိုင်သည်။

ဥပမာများ။

(က) မောင်ဖြူကို သတ်ရန် ကြံရွယ်၍ မောင်မဲက မောင်ဖြူကို သေနတ်နှင့် ပစ်၏။ မောင်ဖြူ သေခဲ့သော် မောင်မဲလူသတ်မှုမြောက်နိုင်မည့် ပတ်ဝန်းကျင် ကြောင်းခြင်းရာဖြင့် ပစ်ခြင်းဖြစ်လျှင်၊ မောင်မဲသည် ဤအမှု၌ ဤပုဒ်မအရ ပြစ်ဒဏ်ချမှတ်ခြင်း ခံထိုက်သည်။

(ခ) မောင်ဖြူသည် သေစေရန်ကြံရွယ်ချက်နှင့် လူသူမရှိသော အရပ်တွင် အသက်အရွယ်နုနယ်သော ကလေးကို စွန့်ပစ်ထား၏။ ကလေးမသေစေကာမူ မောင်ဖြူသည် ဤပုဒ်မတွင် ဖော်ပြထားသည့် ပြစ်မှုကိုကျူးလွန်သည်မည်၏။

(ဂ) မောင်နီကိုသတ်ရန် ကြံရွယ်ချက်နှင့် မောင်ဖြူသည် သေနတ်တလက်ကို ဝယ်၍ ယမ်းထိုး၏။ ထိုသို့သေနတ်ကို ယမ်းထိုးရုံမျှနှင့် မောင်ဖြူသည် ပြစ်မှုကို မကျူးလွန်သေး၊ မောင်ဖြူသည် မောင်နီကို သေနတ်နှင့် ပစ်မှသာလျှင်၊ ဤပုဒ်မတွင်ဖော်ပြထားသည့်ပြစ်မှုကို ကျူးလွန်သည်မည်၏။ ထိုသို့သေနတ်နှင့်ပစ်၍ မောင်နီကို ထိခိုက်နာကျင်စေလျှင်၊ မောင်ဖြူသည် ဤပုဒ်မ (ပဌမစာပိုဒ်) အောက်ပိုင်းတွင် ပြဋ္ဌာန်းထားသော ပြစ်ဒဏ် ချမှတ်ခြင်း ခံထိုက်သည်။

(ဃ) မောင်နီကို အဆိပ်ခတ်၍သတ်ရန်ကြံရွယ်ချက်နှင့် မောင်ဖြူသည် အဆိပ်ကိုဝယ်၍ အစာနှင့်ရောနှောပြီးလျှင် မိမိလက်တွင်ထား၏။ ထိုသို့ပြုရုံမျှနှင့် မောင်ဖြူသည် ဤပုဒ်မတွင်ပါသည့်ပြစ်မှုကို မကျူးလွန်သေး။ ထိုအစာကို မောင်နီ၏ ထမင်းစားပွဲပေါ်တွင်တင်ထားမှသာလျှင်၊ သို့တည်းမဟုတ် မောင်နီ၏ ထမင်းစားပွဲပေါ်တွင် တင်ထားရန် မောင်နီ၏အစေခံများကိုပေးအပ်မှသာလျှင် မောင်ဖြူသည် ဤပုဒ်မတွင် ဖော်ပြထားသည့်ပြစ်မှုကို ကျူးလွန်သည်မည်၏။

ရာဇဝတ် ပြစ်ဒဏ် ထိုက်သော လူသေမှုကို ကျူးလွန်ရန် အားထုတ်ခြင်း။

၃၀၈။ ။ပြုလုပ်မှုတခုခုကို ပြုရာတွင် သေခြင်းကို ဖြစ်စေခဲ့သော် လူသတ်မှုမမြောက်သည့် ရာဇဝတ်ပြစ်ဒဏ်ထိုက်သော လူသေမှုမြောက်နိုင်သည့် ကြံရွယ်ချက်ဖြင့်၎င်း၊ ထိုကဲ့သို့သော ပတ်ဝန်းကျင် ကြောင်းခြင်းရာဖြင့်၎င်း မည်သူမဆို၊ ပြုလုပ်မှုတခုခုကိုပြုလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။ ထိုပြင် ထိုပြုလုပ်မှုဖြင့် တဦးတယောက်သောသူအား နာကျင်စေလျှင်၊ ပြစ်မှုကျူးလွန်သူကိုခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဥပမာ။

ရှုတ်တရက်အကြီးအကျယ်ဒေါသထွက်အောင်ပြုမှုကိုခံရသဖြင့် မောင်မဲသည် မောင်ဖြူကို သေနတ်နှင့် ပစ်ခတ်၏။ မောင်ဖြူသေဆုံးခဲ့သော်၊ လူသတ်မှုမမြောက်သည့် ရာဇဝတ်ပြစ်ဒဏ်ထိုက်သော လူသေမှုမြောက်နိုင်မည့်ပတ်ဝန်းကျင်ကြောင်းခြင်းရာဖြင့်ပစ်ခြင်းဖြစ်လျှင်၊ မောင်မဲ သည် ဤပုဒ်မတွင် ဖော်ပြထားသည့်ပြစ်မှုကို ကျူးလွန်သည်မည်၏။

မိမိ ကိုယ်ကိုမိမိ သတ်ရန် အားထုတ်ခြင်း။

၃၀၉။ ။မည်သူမဆို၊ မိမိကိုယ်ကို မိမိသတ်ရန်အားထုတ်၍ ထိုပြစ်မှုကို ကျူးလွန်ရန်ရှေ့ရှုသော ပြုလုပ်မှုတခုခုကိုပြုလျှင်၊ ထိုသူကို တနှစ်ထိ အလုပ်မဲ့ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

၃၁၀။ ။လူသတ်မှုကို ကျူးလွန်၍ဖြစ်စေ၊ လူသတ်မှုပါ ဖက်တွဲ၍ဖြစ်စေ၊ လုယက်မှုကိုသော်၎င်း၊ ကလေးခိုးမှုကိုသော်၎င်း ကျူးလွန်ရန် မည်သူမဆို၊ အခြားသူ တဦးတယောက်နှင့်ဖြစ်စေ၊ အများနှင့်ဖြစ်စေ ဖက်စပ်ပေါင်းသင်းလေ့ရှိလျှင်၊ ထိုလူသည် လူသတ်ဓါးပြဖြစ်၏။

လူသတ်ဓါးပြ။

၃၁၁။ ။မည်သူမဆို၊ လူသတ် ဓါးပြဖြစ်လျှင်၊ ထိုသူကို တသက်တကျွန်းဒဏ် ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ပြစ်ဒဏ်။

## ကိုယ်ဝန် ပျက်စေခြင်း၊ မဖွါးသေးသည့် ကလေးကို နာကျင်စေခြင်း၊ ဆယ့်နှစ်နှစ်အောက် ကလေးကို စွန့်ပစ်ခြင်း၊ ကလေးမွေးဖွါးကြောင်းကို ထိမ်ချန်ခြင်း။

၃၁၂။ ။မည်သူမဆို၊ ကိုယ်ဝန်ဆောင် မိန်းမ၏ အသက်ကို ကယ်ဆယ်လိုသော သဘောရိုးဖြင့် မဟုတ်ဘဲ၊ ကိုယ်ဝန်ဆောင်မိန်းမကို ကိုယ်ဝန်ပျက်စေရန်၊ မိမိအလိုအလျောက်ပြုလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။ မိန်းမသည် လှုပ်ရှားသော ကိုယ်ဝန်နှင့် ဖြစ်လျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ကိုယ်ဝန်ပျက်စေခြင်း။

ရှင်းလင်းချက်။ ။မိမိ၏ ကိုယ်ဝန်ကို မိမိပျက်စေသည့် မိန်းမသည် ဤပုဒ်မပါ အဓိပ္ပါယ်တွင် အကျုံးဝင်သည်။

၃၁၂-က။ ။မည်သူမဆို မိန်းမတဦးတယောက်၏ ကိုယ်၊ သို့မဟုတ် စိတ်ကျန်းမာရေးအတွက်၊ ထိုမိန်းမကို၊ ပဋိသန္ဓေ မတည်နိုင်အောင် ခွဲစိတ်ကုသရန်လိုအပ်ကြောင်းဖြင့်၊ ဤကိစ္စအလို့ငှါ အစိုးရ ခန့်ထားသည့် အဖွဲ့က ထောက်ခံခြင်း မရှိဘဲ၊ ထိုမိန်းမကို ပဋိသန္ဓေ မတည်နိုင်အောင် တမင်ခွဲစိတ်ကုသလျှင်၊ ထိုသူအား သုံးနှစ်ထိ ထောင်ဒဏ်ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

မိန်းမကို ပဋိသန္ဓေ မတည်နိုင်အောင်ခွဲစိတ်ကုသခြင်း။

သို့ရာတွင် ထိုမိန်းမ၏ အသက်ကို ကယ်ဆယ်ရန် အလို့ငှါ ချက်ခြင်း အရေးယူဆောင်ရွက်ရမည့် ကိစ္စများတွင်၊ အဆိုပါ ထောက်ခံချက် လက်မှတ် ရယူရန်မလို။

၃၁၂-ခ။ ။မည်သူမဆို၊ ယောကျ်ား တဦးတယောက်၏ကိုယ်၊ သို့မဟုတ် စိတ်ကျန်းမာရေးအတွက် ထိုယောကျ်ားကို ပဋိသန္ဓေ ပေးနိုင်စွမ်း မရှိအောင် ခွဲစိတ်ကုသရန် လိုအပ်ကြောင်းဖြင့်၊ ဤကိစ္စအလို့ငှါ၊ အစိုးရ ခန့်ထားသည့်အဖွဲ့က ထောက်ခံခြင်း မရှိဘဲ၊ ထိုယောကျ်ားကို ပဋိသန္ဓေပေးနိုင်စွမ်း မရှိအောင် တမင်ခွဲစိတ်ကုသလျှင်၊ ထိုသူအား သုံးနှစ်ထိ ထောင်ဒဏ် ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ယောကျ်ားကိုပဋိသန္ဓေပေးနိုင်စွမ်းမရှိအောင် ခွဲစိတ်ကုသခြင်း။

၃၁၂ဂ။ ။မည်သူမဆို၊ မိမိ၏ကိုယ်၊ သို့မဟုတ် စိတ်ကျန်းမာရေး အတွက်၊ မိမိကို ပဋိသန္ဓေ မတည်နိုင်အောင် သော်၎င်း၊ ပဋိသန္ဓေ ပေးနိုင်စွမ်း မရှိအောင် သော်၎င်း၊ ခွဲစိတ်ကုသရန် လိုအပ်ကြောင်းဖြင့်၊ ဤကိစ္စ အလို့ငှါ၊ အစိုးရ ခန့်ထားသည့် အဖွဲ့က ထောက်ခံခြင်း မရှိဘဲ၊ ထိုသို့ ပဋိသန္ဓေ မတည်နိုင်အောင်၊ သို့မဟုတ် ပဋိသန္ဓေ ပေးနိုင်စွမ်း မရှိအောင်၊ ခွဲစိတ်ကုသ ပေးသည်ကို မိမိ သဘော အလျောက် ခံယူလျှင်၊ ထိုသူအား၊ သုံးနှစ်ထိ ထောင်ဒဏ်ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ပဋိသန္ဓေမတည်နိုင်အောင်၊ သို့မဟုတ် ပဋိသန္ဓေ ပေးနိုင်စွမ်းမရှိအောင် ခွဲစိတ်ကုသသည်ကို ခံယူခြင်း။

၃၁၂ဃ။ ။မည်သူမဆို တဦး တယောက်သော သူ၏ကိုယ်၊ သို့မဟုတ် စိတ်ကျန်းမာရေးအတွက်၊ ထိုသူကို ပဋိသန္ဓေ မတည်နိုင်အောင် သော်၎င်း၊ ပဋိသန္ဓေ ပေးနိုင်စွမ်း မရှိအောင် သော်၎င်း၊ ခွဲစိတ် ကုသရန် လိုအပ်ကြောင်းဖြင့်၊ ဤကိစ္စအလို့ငှါ အစိုးရ ခန့်ထားသည့် အဖွဲ့က ထောက်ခံခြင်း မရှိဘဲ၊ ထိုသူကို၊ ထိုသို့ ပဋိသန္ဓေ မတည်နိုင်အောင်၊ သို့မဟုတ် ပဋိသန္ဓေ ပေးနိုင်စွမ်း မရှိအောင် တမင် ခွဲစိတ်ကုသ ပေးသဖြင့် ထိုသူသေဆုံးလျှင်၊ ထိုသို့ခွဲစိတ်ကုသပေးသူအား၊ ဆယ်နှစ်ထိ ထောင်ဒဏ် ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ပဋိသန္ဓေမတည်နိုင်အောင်၊ သို့မဟုတ် ပဋိသန္ဓေ ပေးနိုင်စွမ်းမရှိအောင် ခွဲစိတ် ကုသခြင်းကြောင့် သေဆုံးမှု။

၃၁၃။ ။ကိုယ်ဝန် လှုပ်ရှားသည်ဖြစ်စေ၊ မလှုပ်ရှားသည်ဖြစ်စေ ကိုယ်ဝန်ဆောင်မိန်းမက သဘောမတူဘဲ မည်သူမဆို၊ တဆက်တည်း ဖြစ်သော အထက် ပုဒ်မတွင် ဖော်ပြထားသည့် ပြစ်မှုကို ကျူးလွန်လျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုး ဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ကိုယ်ဝန်ဆောင် မိန်းမက သဘော မတူဘဲ ကိုယ်ဝန် ပျက်စေခြင်း။

၃၁၄။ ။မည်သူမဆို၊ ကိုယ်ဝန်ပျက်စေရန် အကြံဖြင့် ကိုယ်ဝန်ဆောင်မိန်းမသေအောင် ပြုလုပ်မှု တခုခုကို ပြုလျှင်၊ ထိုသူကို ဆယ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ကိုယ်ဝန်ပျက်စေရန် အကြံနှင့် ပြုသော ပြုလုပ်မှုဖြင့်သေစေခြင်း။

ထို့ပြင် ထိုပြုလုပ်မှုကို ကိုယ်ဝန်ဆောင်မိန်းမက သဘောမတူဘဲပြုလျှင်၊ ထိုသူကိုတသက် တကျွန်းဒဏ်ဖြစ်စေ၊ အထက်ကဖော်ပြခဲ့သည့် ပြစ်ဒဏ်မျိုးဖြစ်စေ ချမှတ်ရမည်။

ကိုယ်ဝန်ဆောင် မိန်းမက သဘောမတူဘဲပြုခြင်း။

ရှင်းလင်းချက်။ ။မိမိပြုသောပြုလုပ်မှုသည် သေစေတန်ရာသည်ဟု ပြစ်မှုကျူးလွန်သူက သိရန်မလို။

*ကလေး အရှင် မွေးဖွါးခြင်းကို တားဆီးရန် အကြံဖြင့်သော်၎င်း၊ မွေးဖွါးပြီးနောက်သေစေရန် အကြံဖြင့်သော်၎င်း၊ ပြုလုပ်မှု တခုခုကို ပြုခြင်း။*

၃၁၅။ ။မည်သူမဆို၊ ကလေးမဖွါးမြင်မီ ထိုကလေးအရှင် မွေးဖွါးခြင်းကို တားဆီးရန် အကြံဖြင့် ဖြစ်စေ၊ ဖွါးမြင်ပြီးနောက် သေစေရန် အကြံဖြင့် ဖြစ်စေ ပြုလုပ်မှုတခုခုကိုပြု၍၊ ထိုသို့ပြုခြင်းဖြင့် ထိုကလေးအရှင် မွေးဖွါးခြင်းကို တားဆီးလျှင်၊ သို့တည်းမဟုတ် ဖွါးမြင်ပြီးနောက် သေစေလျှင်၊ ထိုသို့ပြုခြင်းသည် အမိအသက်ကို ကယ်ဆယ်ရန် သဘောရိုးဖြင့် ပြုခြင်းမဟုတ်ခဲ့သော်၊ ထိုသူကို ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

*လှုပ်ရှားသော ကိုယ်ဝန်ရှိ အမိ ဝမ်းတွင်း ကလေးကို သေစေခြင်း။*

၃၁၆။ ။မည်သူမဆို၊ ဥပဒေနှင့်ညီသောအပြစ်လွတ်ခွင့်မရှိဘဲ ကိုယ်ဝန်ဆောင်မိန်းမအား သေစေတန်ရာသည်ကို သိလျက်နှင့် ပြုလုပ်မှုတခုခုကိုပြု၍၊ ထိုသို့ပြုခြင်းဖြင့် လှုပ်ရှားသော ကိုယ်ဝန်ရှိ အမိဝမ်းတွင်းကလေးကို သေစေလျှင်၊ ထိုသူကို ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

**ဥပမာ။**

မောင်ဖြူသည် ကိုယ်ဝန်ဆောင် မိန်းမအား သေစေတန်ရာသည်ကို သိလျက်နှင့် အကယ်၍ ထိုမိန်းမသေခဲ့သော် ရာဇဝတ်ပြစ်ဒဏ်ထိုက်သော လူသေမှုမြောက်မည့် ပြုလုပ်မှုတခုခုကိုပြု၏။ မိန်းမသည် နာကျင်ရှုံ့မျှရှိ၍ မသေ။ သို့ရာတွင် လှုပ်ရှားသောကိုယ်ဝန်ရှိ အမိဝမ်းတွင်းကလေးကိုကား သေစေ၏။ ထို့ကြောင့် မောင်ဖြူသည် ဤပုဒ်မတွင် ဖေါ်ပြထားသောပြစ်မှုကို ကျူးလွန်သည်မည်၏။

*မိဘက၊ သို့တည်းမဟုတ် ထိန်းသိမ်းသူက အသက်ဆယ့်နှစ်နှစ်အောက် ကလေးကို စွန့်ပစ်ခြင်း။*

၃၁၇။ ။အသက် ဆယ့်နှစ်နှစ်အောက် ကလေး၏ အဘက၊ သို့တည်းမဟုတ် အမိကသော်၎င်း၊ ထိန်းသိမ်းသူကသော်၎င်း ထိုကလေးကို လုံးဝ စွန့်ပစ်ရန်အကြံဖြင့်၊ မည်သည့်နေရာတွင်မဆို စွန့်ပစ်ထားလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ရှင်းလင်းချက်။** ။စွန့်ပစ်ထားခြင်းကြောင့် ကလေးသေဆုံးခဲ့သော် ပြစ်မှုကျူးလွန်သူကို အမှုအားလျော်စွာ လူသတ်မှုနှင့်ဖြစ်စေ၊ ရာဇဝတ်ပြစ်ဒဏ်ထိုက်သော လူသေမှုနှင့်ဖြစ်စေ စစ်ဆေးစီရင်သည်ကို တားမြစ်ရန် ဤပုဒ်မကမရည်ရွယ်။

*ကလေး အလောင်း ကို တိတ်တဆိတ် ဖျောက်ဖျက်ခြင်းဖြင့်၊ မွေးဖွါး သည်ကို ထိမ်ချန်ခြင်း။*

၃၁၈။ ။မမွေးဖွါးမီဖြစ်စေ၊ မွေးဖွါးပြီးနောက်ဖြစ်စေ၊ မွေးဖွါးသည့်အတွင်းဖြစ်စေ ကလေးသေဆုံး၍၊ ထိုကလေး၏ အလောင်းကို တိတ်တဆိတ် မြေမြှုပ်ခြင်းဖြင့်သော်၎င်း၊ အခြားနည်းဆောင်ရွက်ခြင်းဖြင့် သော်၎င်း ကလေးမွေးဖွါးကြောင်းကို တမင်ထိမ်ချန်လျှင်၊ သို့တည်းမဟုတ် ထိမ်ချန်ရန်အားထုတ်လျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

## နာကျင်စေမှု။

နာကျင်စေမှု။

၃၁၉။ ။မည်သူမဆို၊ တဦးတယောက်သောသူအားကိုယ်အင်္ဂါနာကျင်အောင်၊ သို့တည်းမဟုတ် အနာရောဂါ စွဲကပ်အောင်၊ သို့တည်းမဟုတ် ချည့်နဲ့အောင်ပြုလျှင်၊ ထိုသူသည် နာကျင်စေမှုကို ပြုသည်မည်၏။

၃၂၀။ ။အောက်ပါနာကျင်စေမှုများသာလျှင် "အပြင်းအထန်" နာကျင်စေမှုမည်၏။

အပြင်းအထန် နာကျင်စေမှု။

ပဌမ။ ။လူကိုသင်းကွပ်ခြင်း။

ဒုတိယ။ ။လူ၏မျက်စိတဖက်ဖက်ကို အမြဲမမြင်အောင်ပြုခြင်း။

တတိယ။ ။လူ၏ နားတဖက်ဖက်ကို အမြဲမကြားအောင်ပြုခြင်း။

စတုတ္ထ။ ။ကိုယ်လက်အင်္ဂါ အဆစ်အမျက်တခုခု ကျိုးပဲ့ပျက်စီးအောင်ပြုခြင်း။

ပဉ္စမ။ ။ကိုယ်လက်အင်္ဂါ အဆစ်အမျက် တခုခု၏ အင်အားကို ဖျက်ဆီးခြင်း။ သို့တည်းမဟုတ် အမြဲချို့တဲ့အောင်ပြုခြင်း။

ဆဋ္ဌမ။ ။ဦးခေါင်းကိုဖြစ်စေ၊ မျက်နှာကိုဖြစ်စေ၊ အမြဲအရုပ်ဆင်းပျက်အောင်ပြုခြင်း။

သတ္တမ။ ။အရိုးကို၊ သို့တည်းမဟုတ် သွားကို ကျိုးအက်ကွဲအောင်ဖြစ်စေ၊ တိမ်းလွဲအောင်ဖြစ်စေ ပြုခြင်း။

အဋ္ဌမ။ ။အသက်ကို အန္တရာယ်ဖြစ်စေအောင်၊ သို့တည်းမဟုတ် နာကျင်ခံရသူသည် ရက်ပေါင်းနှစ်ဆယ်အတွင်း ကိုယ်အင်္ဂါအပြင်းအထန် ဝေဒနာခံရအောင်၊ သို့တည်းမဟုတ် ရက်ပေါင်းနှစ်ဆယ်အတွင်း မိမိလုပ်ဆောင်မြဲအလုပ်အကိုင်တို့ကို မလုပ်ကိုင်နိုင်အောင်နာကျင်စေခြင်း။

မိမိ အလိုအလျောက် နာကျင်စေမှု။

၃၂၁။ ။တဦးတယောက်သောသူကို နာကျင်စေရန် အကြံဖြင့်သော်၎င်း၊ နာကျင်စေတန်ရာသည်ကို သိလျက်နှင့် သော်၎င်း မည်သူမဆို၊ ပြုလုပ်မှုတခုခုကိုပြု၍၊ ထိုသို့ပြုခြင်းဖြင့် နာကျင်စေလျှင်၊ ထိုသူသည် "မိမိအလိုအလျောက် နာကျင်စေမှု" ကိုဖြစ်စေသည်မည်၏။

မိမိ အလိုအလျောက် အပြင်းအထန်နာကျင်စေမှု။

၃၂၂။ ။မည်သူမဆို၊ မိမိအလိုအလျောက် နာကျင်စေသည်တွင်၊ နာကျင်စေရန် မိမိကြံရွယ်သော၊ သို့တည်းမဟုတ် အပြင်းအထန် နာကျင်စေတန်ရာသည်ကို မိမိသိသော နာကျင်စေမှုသည် အပြင်းအထန် နာကျင်စေမှုဖြစ်လျှင်၎င်း၊ မိမိကပြုသော နာကျင်စေမှုသည် အပြင်းအထန်နာကျင်စေမှုဖြစ်လျှင်၎င်း ထိုသူသည် "မိမိအလိုအလျောက် အပြင်းအထန်နာကျင်စေမှု" ကို ဖြစ်စေသည်မည်၏။

ရှင်းလင်းချက်။ ။တဦးတယောက်သောသူသည် အပြင်းအထန်နာကျင်စေမှုကိုပြုသောအခါမှာမှတပါး၊ ထို့ပြင် အပြင်းအထန်နာကျင်စေရန်ကြံရွယ်သောအခါမှာမှ တပါး၊ သို့တည်းမဟုတ် အပြင်းအထန်နာကျင်စေတန်ရာသည်ကို သိသောအခါမှာမှ တပါး မိမိအလိုအလျောက် အပြင်းအထန်နာကျင်စေသည်မမည်။ သို့ရာတွင် အပြင်းအထန်နာကျင်စေမှု တမျိုးကိုဖြစ်စေရန်ကြံသော်လည်း၊ သို့တည်းမဟုတ် ထိုသို့ဖြစ်စေတန်ရာသည်ကိုသိသော်လည်း အခြားသော အပြင်းအထန်နာကျင်စေမှုကို အကယ်ဖြစ်စေလျှင်၊ ထိုသူသည် မိမိအလိုအလျောက် အပြင်းအထန် နာကျင်စေသည်မည်၏။

## ဥပမာ။

မောင်ဖြူသည် မောင်နီ၏ မျက်နှာကို အမြဲရုပ်ဆင်းပျက်အောင် ကြံရွယ်လျက်၊ သို့တည်း မဟုတ် ရုပ်ဆင်းပျက်တန်ရာသည်ကို သိလျက်နှင့် ရိုက်နှက်၏။ ထိုကဲ့သို့ ရိုက်နှက်ခြင်းကြောင့် မောင်နီ၏မျက်နှာသည်အမြဲရုပ်ဆင်းမပျက်။ သို့ရာတွင်မောင်နီမှာ ကိုယ်အင်္ဂါအပြင်းအထန် နာကျင်သော ဝေဒနာကို ရက်ပေါင်း နှစ်ဆယ်ခံရ၏။ ဤအမှုတွင်၊ မောင်ဖြူသည် မိမိအလို အလျောက် အပြင်းအထန်နာကျင်စေမှုပြုသည်မည်၏။

မိမိ အလို အလျောက်နာကျင်စေမှု အတွက် ပြစ်ဒဏ်။

၃၂၃။ ။ပုဒ်မ ၃၃၄ ၌ ပြဋ္ဌာန်းထားသော အချက်မှာမှတပါး၊ မည်သူမဆို၊ တဦး တယောက်သောသူအား မိမိအလိုအလျောက် နာကျင်စေလျှင်၊ ထိုသူကို တနှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဘေး ဖြစ်စေ တတ်သော လက်နက်ဖြင့်၊ သို့တည်းမဟုတ် နည်းဖြင့် မိမိအလိုအလျောက် နာကျင်စေမှု။

၃၂၄။ ။ပုဒ်မ ၃၃၄ ၌ ပြဋ္ဌာန်းထားသော အချက်မှာမှတပါး၊ ပစ်ခတ်ရန်၊ သို့တည်း မဟုတ်ထိုးရန်၊ သို့တည်းမဟုတ် ခုတ်ဖြတ်ရန် ကိရိယာတခုခု ဖြင့်ဖြစ်စေ၊ ရန်မူသောလက်နက်အဖြစ်ဖြင့်သုံးစွဲလျှင်သေစေတန် ရာသော ကိရိယာတခုခုဖြင့်ဖြစ်စေ၊ မီးဖြင့်၊ သို့တည်းမဟုတ် အပူရှိန်ရှိသော အရာဝတ္ထု တခုခုဖြင့် ဖြစ်စေ၊ အဆိပ်ဖြင့်၊ သို့တည်းမဟုတ် စားလောင် စေတတ်သော အရာဝတ္ထု တခုခု ဖြင့် ဖြစ်စေ၊ ပေါက်ကွဲတတ်သော အရာဝတ္ထု တခုခုဖြင့်ဖြစ်စေ၊ ရှူရှိုက်လျှင်၊ သို့တည်း မဟုတ် မျိုချလျှင်၊ သို့တည်းမဟုတ် သွေးထဲသို့ ရောက်သွားလျှင် လူကိုယ်ခန္ဓာကို အန္တရာယ် ဖြစ်စေတတ်သော အရာဝတ္ထုတခုခု ဖြင့်ဖြစ်စေ၊ တိရစ္ဆာန်တကောင် ကောင်ဖြင့် ဖြစ်စေ မည်သူမဆို၊ တဦးတယောက်သောသူအား မိမိအလိုအလျောက် နာကျင်စေလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေချမှတ်ရမည်။

မိမိ အလို အလျောက် အပြင်း အထန် နာကျင်စေမှု အတွက်ပြစ်ဒဏ်။

၃၂၅။ ။ပုဒ်မ ၃၃၅ ၌ ပြဋ္ဌာန်းထားသော အချက်မှာမှတပါး၊ မည်သူမဆို၊ တဦး တယောက်သောသူအား မိမိအလိုအလျောက် အပြင်းအထန် နာကျင်စေလျှင်၊ ထိုသူကို ခုနစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ် ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ဘေး ဖြစ်စေ တတ်သော လက်နက်ဖြင့်၊ သို့တည်း မဟုတ် နည်းဖြင့် မိမိ အလို အလျောက် အပြင်း အထန် နာကျင်စေမှု။

၃၂၆။ ။ပုဒ်မ ၃၃၅ ၌ ပြဋ္ဌာန်းထားသော အချက်မှာမှတပါး၊ ပစ်ခတ်ရန်၊ သို့တည်း မဟုတ် ထိုးရန်၊ သို့တည်းမဟုတ် ခုတ်ဖြတ်ရန် ကိရိယာတခုခု ဖြင့်ဖြစ်စေ၊ ရန်မူသော လက်နက်အဖြစ်ဖြင့် သုံးစွဲလျှင် သေစေ တန်ရာသော ကိရိယာတခုခုဖြင့်ဖြစ်စေ၊ မီးဖြင့်၊ သို့တည်းမဟုတ် အပူရှိန်ရှိသော အရာဝတ္ထု တခုခုဖြင့်ဖြစ်စေ၊ အဆိပ်ဖြင့်၊ သို့တည်း မဟုတ် စားလောင်စေတတ်သော အရာဝတ္ထုတခုခုဖြင့် ဖြစ်စေ၊ ပေါက်ကွဲတတ်သော အရာဝတ္ထု တခုခုဖြင့်ဖြစ်စေ၊ ရှူရှိုက်လျှင်၊ သို့တည်းမဟုတ် မျိုချလျှင်၊ သို့တည်းမဟုတ် သွေးထဲသို့ ရောက်သွားလျှင် လူကိုယ်ခန္ဓာကို အန္တရာယ်ဖြစ်စေတတ်သော အရာဝတ္ထု တခုခုဖြင့်ဖြစ်စေ၊ တိရစ္ဆာန်တကောင်ကောင်ဖြင့် ဖြစ်စေ မည်သူမဆို၊ တဦးတယောက်သောသူအားမိမိအလိုအလျောက် အပြင်းအထန်နာကျင်

စေလျှင်၊ထိုသူကိုတသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ပစ္စည်းကို ချောက်လှန့် တောင်းရန် ဖြစ်စေ၊ ဥပဒေနှင့် မညီသော ပြုလုပ်မှုကို ပြုစေခြင်းငှါ၊ အတင်းအဓမ္မပြုရန် ဖြစ်စေ မိမိ အလိုအလျောက်နာကျင်စေမှု။

၃၂၇။ ။အပြုခံရသူထံမှဖြစ်စေ၊ အပြုခံရသူနှင့် အကျိုးသက်ဆိုင်သူ ထံမှဖြစ်စေ ပစ္စည်းကို၊ သို့တည်းမဟုတ် အဘိုးတန်စာတမ်းအမှတ်အသားကို ချောက်လှန့် တောင်းရန်သော်၎င်း၊ ဥပဒေနှင့်မညီသောအရာကို၊သို့တည်းမဟုတ် ပြစ်မှုကျူးလွန်ခြင်းကို လွယ်ကူစေသော အရာကို ပြုစေခြင်းငှါ အပြုခံရသူကိုဖြစ်စေ၊ အပြုခံရသူနှင့် အကျိုး သက်ဆိုင်သူကိုဖြစ်စေ အတင်းအဓမ္မပြုစေရန်သော်၎င်း မည်သူမဆို၊ မိမိအလိုအလျောက် နာကျင်စေလျှင်၊ ထိုသူကို ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ပြစ်မှု ကျူးလွန်ရန် ကြံရွယ်၍ အဆိပ် စသည်များဖြင့် နာကျင်စေမှု။

၃၂၈။ ။မည်သူမဆို၊ တဦးတယောက်သောသူအား နာကျင်စေရန် ကြံရွယ်ချက်နှင့်ဖြစ်စေ၊ ပြစ်မှုကျူးလွန်ရန် ကြံရွယ်ချက်နှင့်ဖြစ်စေ၊ ပြစ်မှုကျူးလွန်ခြင်းကို လွယ်ကူစေရန် ကြံရွယ်ချက်နှင့်ဖြစ်စေ၊ နာကျင်စေတန်ရာသည်ကို သိလျက်နှင့်ဖြစ်စေ အဆိပ်ကိုသော်၎င်း၊ ထိုင်းမှိုင်းစေသော၊ သို့တည်းမဟုတ် မူးယစ်စေသော၊ သို့တည်းမဟုတ် မကျန်းမမာစေသော ဆေးဘက်ဝင်ဝတ္ထုကိုသော်၎င်း၊ မကျန်းမမာစေသော အခြားအရာဝတ္ထုတခုခုကိုသော်၎င်း သင့်စေလျှင်၊ ထိုသူကို ဆယ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ပစ္စည်းကို ချောက်လှန့် တောင်းရန် ဖြစ်စေ၊ ဥပဒေနှင့် မညီသော ပြုလုပ်မှုကို ပြုစေခြင်းငှါ အတင်း အဓမ္မပြုရန် ဖြစ်စေ၊ မိမိ အလိုအလျောက် အပြင်း အထန် နာကျင်စေမှု။

၃၂၉။ ။အပြုခံရသူထံမှဖြစ်စေ၊ အပြုခံရသူနှင့် အကျိုး သက်ဆိုင်သူထံမှဖြစ်စေပစ္စည်းကို၊ သို့တည်းမဟုတ် အဘိုးတန်စာတမ်းအမှတ်အသားကို ချောက်လှန့်တောင်းရန်သော်၎င်း၊ ဥပဒေနှင့်မညီသော အရာကို၊ သို့တည်းမဟုတ် ပြစ်မှုကျူးလွန်ခြင်းကို လွယ်ကူစေသော အရာကို ပြုစေခြင်းငှါ အပြုခံရသူကိုဖြစ်စေ၊ အပြုခံရသူနှင့် အကျိုးသက်ဆိုင်သူကို ဖြစ်စေ အတင်းအဓမ္မပြုစေရန်သော်၎င်း မည်သူမဆို၊ မိမိအလိုအလျောက် အပြင်းအထန် နာကျင်စေမှုကိုပြုလျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုး ဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ချောက်လှန့်၍ဖြောင့်ချက် ယူရန်ဖြစ်စေ၊ ပစ္စည်းကို ပြန်ပေးအောင် အတင်း အဓမ္မပြုလုပ်ရန် ဖြစ်စေ မိမိအလိုအလျောက်နာကျင်စေမှု။

၃၃၀။ ။အပြုခံရသူထံမှဖြစ်စေ၊ အပြုခံရသူနှင့် အကျိုးသက်ဆိုင်သောသူထံမှဖြစ်စေ ပြစ်မှု၊ သို့တည်းမဟုတ် အကျင့်ပျက်ပြားမှု ပေါ်စေနိုင်ငသော ဖြောင့်ချက်ကို၊ သို့တည်းမဟုတ် ထိုသို့သော သတင်းပေးချက်ကို ချောက်လှန့်၍ တောင်းရန်သော်၎င်း၊ အပြုခံရသူအား၊ သို့တည်းမဟုတ် အပြုခံရသူနှင့် အကျိုးသက်ဆိုင်သူအား ပစ္စည်းကိုဖြစ်စေ၊ အဘိုးတန် စာတမ်းအမှတ်အသားကိုဖြစ်စေ ပြန်ပေးအောင်၊ သို့တည်းမဟုတ် ပြန်ပေးစေအောင်၊သို့တည်းမဟုတ်တောင်းဆိုချက်ကိုဖြစ်စေ၊ လိုလားချက်ကိုဖြစ်စေပေးအောင်၊ သို့တည်းမဟုတ် ပစ္စည်းကိုဖြစ်စေ၊ အဘိုးတန် စာတမ်းအမှတ်အသားကိုဖြစ်စေ ပြန်ရစေနိုင်သော သတင်းကိုပေးအောင် အတင်းအဓမ္မပြုစေ

ရန်သော်၎င်း မည်သူမဆို၊ မိမိအလိုအလျောက်နာကျင်စေမှုကိုပြုလျှင်၊ ထိုသူကိုခုနစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးချမှတ်ရမည့်အပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

## ဥပမာများ။

(က) ရာဇဝတ်ပြစ်မှုကို ကျူးလွန်ကြောင်း မောင်မဲထံမှ ဖြောင့်ချက်ရစေရန်၊ ရဲအရာရှိ မောင်ဖြူသည် မောင်မဲကို ညှဉ်းပန်းနှိပ်စက်၏။ မောင်ဖြူသည် ဤပုဒ်မအရ ပြစ်မှုကိုကျူးလွန်သည်မည်၏။

(ခ) ခိုးရာပါပစ္စည်းထားသော အရပ်ကိုပြစေရန်၊ ရဲအရာရှိ မောင်ဖြူသည် မောင်မဲကို ညှဉ်းပန်းနှိပ်စက်၏။ မောင်ဖြူသည် ဤပုဒ်မအရ ပြစ်မှုကို ကျူးလွန်သည်မည်၏။

(ဂ) ပေးဆောင်ရမည်ဖြစ်သော အခွန်မပြေကျန်ငွေကို ပေးစေရန် အခွန်တော်အရာရှိ မောင်ဖြူသည် မောင်မဲကို ညှဉ်းပန်းနှိပ်စက်၏။ မောင်ဖြူသည် ဤပုဒ်မအရ ပြစ်မှုကျူးလွန်သည်မည်၏။

(ဃ) ငှါးရမ်းခ ပေးစေရန်၊ မြေရှင်မောင်ဖြူသည် မောင်မဲကို ညှဉ်းပန်းနှိပ်စက်၏။ မောင်ဖြူသည် ဤပုဒ်မအရ ပြစ်မှု ကျူးလွန်သည်မည်၏။

ချောက်လှန့်၍ဖြောင့်ချက် ယူရန်ဖြစ်စေ၊ ပစ္စည်းကိုပြန် ပေးအောင် အတင်း အဓမ္မ ပြုရန်ဖြစ်စေ၊ မိမိအလို အလျောက် အပြင်းအထန် နာကျင်စေမှု။

၃၃၁။ ။အပြုခံရသူထံမှဖြစ်စေ၊ အပြုခံရသူနှင့် အကျိုးသက်ဆိုင်သော သူထံမှဖြစ်စေ ပြစ်မှု၊ သို့တည်းမဟုတ် ကိုယ်ကျင့်ပျက်ပြားမှု ပေါ်စေနိုင်သော ဖြောင့်ချက်ကို၊ သို့တည်းမဟုတ် ထိုသို့သော သတင်းပေးချက်ကို ချောက်လှန့်၍ တောင်းရန်သော်၎င်း အပြုခံရသူအား၊ သို့တည်းမဟုတ် အပြုခံရသူနှင့် အကျိုးသက်ဆိုင်သူအားပစ္စည်းကို ဖြစ်စေ၊ အဘိုးတန်စာတမ်း အမှတ်အသားကိုဖြစ်စေ ပြန်ပေးအောင်၊ သို့တည်းမဟုတ် ပြန်ပေးစေအောင်၊ သို့တည်းမဟုတ် တောင်းဆိုချက်ကိုဖြစ်စေ၊ လိုလားချက်ကိုဖြစ်စေ ပေးအပ်အောင်၊ သို့တည်းမဟုတ်ပစ္စည်းကိုဖြစ်စေ၊ အဘိုးတန်စာတမ်း အမှတ်အသားကို ဖြစ်စေ၊ ပြန်ရစေနိုင်သော သတင်းကိုပေးအောင် အတင်းအဓမ္မပြုစေရန်သော်၎င်း မည်သူမဆို၊ မိမိအလို အလျောက် အပြင်းအထန် နာကျင်စေမှုကိုပြုလျှင်၊ ထိုသူကို ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ပြည်သူ့ ဝန်ထမ်းအား တာဝန် ဝတ်တရား ဆောင်ရွက်ခြင်းမှ ဟန့်တားရန် မိမိ အလို အလျောက် နာကျင် စေမှု။

၃၃၂။ ။ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့် တာဝန်ဝတ်တရားဆောင်ရွက်နေသော ပြည်သူ့ဝန်ထမ်းဖြစ်သူကို မိမိအလိုအလျောက် နာကျင်စေလျှင်၊ သို့တည်းမဟုတ် ထိုသူကိုဖြစ်စေ၊ အခြားပြည်သူ့ ဝန်ထမ်းကိုဖြစ်စေ ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့် တာဝန်ဝတ်တရား ဆောင်ရွက်ခြင်းမှ တားဆီးရန်၊ သို့တည်းမဟုတ် ဟန့်တားရန်အကြံဖြင့် မိမိအလို အလျောက် နာကျင်စေလျှင်၊ သို့တည်းမဟုတ် ပြည်သူ့ဝန်ထမ်း အဖြစ်ဖြင့် မိမိ၏ တာဝန်ဝတ်တရားကို ဥပဒေနှင့်အညီ ဆောင်ရွက်နေစဉ် ထိုသူပြုပြီးသော၊ သို့တည်းမဟုတ် ပြုရန်အားထုတ်ပြီးသော အကြောင်းကြောင့် ထိုသူအား မိမိအလိုအလျောက် နာကျင်စေမှုကိုပြုလျှင်၊ ထိုသို့နာကျင်စေမှု ပြုသောသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ပြည်သူ့ ဝန်ထမ်း အား တာဝန် ဝတ်တရား ဆောင်ရွက်ခြင်းမှ ဟန့်တားရန် မိမိအလိုအလျောက် အပြင်း အထန်နာကျင်စေမှု။

၃၃၃။ ။ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့် တာဝန်ဝတ်တရားဆောင်ရွက်နေသော ပြည်သူ့ဝန်ထမ်းဖြစ်သူကို မိမိအလိုအလျောက် အပြင်းအထန် နာကျင်စေလျှင်၊ သို့တည်းမဟုတ် ထိုသူကိုဖြစ်စေ၊ အခြားပြည်သူ့ဝန်ထမ်းကိုဖြစ်စေ ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့်တာဝန်ဝတ်တရားဆောင်ရွက်ခြင်းမှ တားဆီးရန်၊ သို့တည်းမဟုတ် ဟန့်တားရန်အကြံဖြင့် မိမိအလိုအလျောက် အပြင်းအထန် နာကျင်စေလျှင်၊ သို့တည်းမဟုတ်ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့်မိမိ၏တာဝန်ဝတ်တရားကို ဥပဒေနှင့်အညီ ဆောင်ရွက်နေစဉ် ထိုသူပြုပြီးသော၊ သို့တည်းမဟုတ် ပြုရန်အားထုတ်ပြီးသော အကြောင်းကြောင့် ထိုသူအားမိမိအလိုအလျောက် အပြင်းအထန်နာကျင်စေမှုကို ပြုလျှင်၊ ထိုသို့နာကျင်စေမှုပြုသောသူကို ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ဒေါသ ထွက်အောင် ပြုမှုကြောင့်မိမိ အလိုအလျောက် နာကျင်စေမှု။

၃၃၄၊ ဒေါသထွက်အောင် ပြုသူမှတပါး၊ အခြားသူအား နာကျင်စေရန် မကြံရွယ်ခဲ့သော်၊ သို့တည်းမဟုတ် နာကျင်စေတန်ရာသည်ကို မိမိမသိခဲ့သော် မည်သူမဆို၊ မိမိအားရုတ်တရက် အကြီးအကျယ် ဒေါသထွက်အောင်ပြုမှုကြောင့် မိမိအလိုအလျောက် နာကျင်စေမှုကို ပြုလျှင်၊ ထိုသူကို တလထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငါးရာထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဒေါသ ထွက်အောင် ပြုမှုကြောင့် မိမိအလိုအလျောက် အပြင်း အထန် နာကျင်စေမှု။

၃၃၅။ ။ဒေါသထွက်အောင်ပြုသူမှတပါး၊ အခြားသူအား နာကျင်မစေရန် မကြံရွယ်ခဲ့သော်၊ သို့တည်းမဟုတ် နာကျင်စေတန်ရာသည်ကို မိမိမသိခဲ့သော် မည်သူမဆို၊ မိမိအား ရုတ်တရက်အကြီးအကျယ်ဒေါသထွက်အောင် ပြုမှုကြောင့် မိမိအလိုအလျောက် အပြင်းအထန်နာကျင်စေမှုကိုပြုလျှင်၊ ထိုသူကို လေးနှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ နှစ်ထောင်ထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ရှင်းလင်းချက်။** ။အထက်ပါပုဒ်မ ၃၃၄ နှင့် ၃၃၅ တို့သည် ပုဒ်မ ၂၉၉ (၂) ရှိ ကင်းလွတ်ချက် (က) ပါ ခြွင်းချက်များနှင့်မဆန့်ကျင်စေရ။

အခြား သူ၏ အသက်ကို၊ သို့တည်းမဟုတ် လုံခြုံရေးကို ဘေးဖြစ်စေသောပြုလုပ်မှု။

၃၃၆။ ။လူ့အသက်ကိုဖြစ်စေ၊ အခြားသူတို့၏ လုံခြုံရေးကိုဖြစ်စေ ဘေးဖြစ်အောင် မည်သူမဆို၊ အရမ်းသော်ငြင်း၊ ပေါ့လျော့စွာသော်ငြင်း ပြုလုပ်မှုတခုခုကိုပြုလျှင်၊ ထိုသူကိုတနှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငါးရာထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အခြားသူ၏ အသက်ကို၊ သို့တည်းမဟုတ် လုံခြုံရေးကို ဘေးဖြစ် စေသော ပြုလုပ်မှု တခုခုကို ပြုခြင်းဖြင့် နာကျင်စေမှု။

၃၃၇။ ။လူ့အသက်ကိုဖြစ်စေ၊ အခြားသူတို့၏ လုံခြုံရေးကိုဖြစ်စေ၊ ဘေးဖြစ်အောင် မည်သူမဆို၊ အရမ်းသော်ငြင်း၊ ပေါ့လျော့စွာသော်ငြင်း ပြုလုပ်မှုတခုခုကိုပြုခြင်းဖြင့် တဦးတယောက်သောသူအား နာကျင်စေလျှင်၊ ထိုသူကိုနှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ တထောင်ထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**မတရား ချုပ်နှောင်ထားမှု အတွက်ပြစ်ဒဏ်။**

၃၄၂။ ။မည်သူမဆို၊ တဦးတယောက်သောသူကို မတရားချုပ်နှောင်ထားလျှင်၊ ထိုသူကိုတနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**သုံးရက်၊ သို့တည်းမဟုတ် သုံးရက်ထက် ပို၍ မတရား ချုပ်နှောင်ထားမှု။**

၃၄၃။ ။မည်သူမဆို၊ တဦးတယောက်သောသူကို သုံးရက်သော်၎င်း၊ သုံးရက်ထက် ပို၍သော်၎င်း မတရားချုပ်နှောင်ထားလျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်ဘမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ဆယ်ရက်၊ သို့တည်းမဟုတ် ဆယ်ရက်ထက်ပို၍ မတရား ချုပ်နှောင်ထားမှု၊**

၃၄၄။ ။မည်သူမဆို၊ တဦးတယောက်သောသူကို ဆယ်ရက်သော်၎င်း၊ ဆယ်ရက်ထက် ပို၍သော်၎င်း မဘရားချုပ်နှောင်ထားလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**လွတ်ခွင့်အမိန့် ထုတ်ဆင့်ခြင်း ခံရပြီးသော သူကို မတရားချုပ်နှောင်ထားမှု။**

၃၄၅။ ။တဦးတယောက်သောသူအတွက် လွတ်ခွင့်အမိန့်ကို နည်းလမ်းတကျ ထုတ်ဆင့်ပြီးကြောင်းသိလျက်နှင့် မည်သူမဆို၊ ထိုသူအား မတရားချုပ်နှောင်ထားလျှင်၊ ထိုချုပ်နှောင်ထားသူကို ဤအခန်းပါ အခြားပုဒ်မဘခုခုအရ ထိုက်သင့်သော ထောင်ဒဏ်အပြင် နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးကိုလည်း ချမှတ်ရမည်။

**လျှို့ဝှက်စွာ မတရားချုပ်နှောင် ထားမှု။**

၃၄၆။ ။တဦးတယောက်သောသူကို ချုပ်နှောင်ထားသည်တွင်၊ ထိုသို့ချုပ်နှောင်ထားခြင်းကို အချုပ်အနှောင်ခံရသူနှင့် အကျိုးသက်ဆိုင်သောသူဖြစ်စေ၊ ပြည်သူ့ဝန်ထမ်းဖြစ်စေ မသိအောင်သော်၎င်း၊ ချုပ်နှောင်ထားသောနေရာကို အဆိုပါသူတဦးဦးမသိအောင်၊ သို့တည်းမဟုတ် မတွေ့မမြင်အောင်သော်၎င်း ကြံရွယ်ကြောင်း ပေါ်ပြသောနည်းဖြင့် မည်သူမဆို၊ တဦးတယောက်သောသူအား မတရားချုပ်နှောင်ထားလျှင်၊ ထိုသူကို မတရားချုပ်နှောင်ထားမှုအတွက် ထိုက်သင့်သောပြစ်ဒဏ်အပြင် နှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးကိုလည်း ချမှတ်ရမည်။

**ပစ္စည်းကို ေ ျာက်လှန့်တောင်းရန်ဖြစ်စေ၊ဥပဒေနှင့်မညီသော ပြုလုပ်မှုကို ပြုစေခြင်းငှါ အတင်း အဓမ္မပြုရန်ဖြစ်စေ မတရားသဖြင့် ချုပ်နှောင်ထားမှု။**

၃၄၇။ ။အချုပ်အနှောင်ခံရသူထံမှဖြစ်စေ၊ ချုပ်နှောင်ခံရသူနှင့် အကျိုးသက်ဆိုင်သောသူထံမှဖြစ်စေ ပစ္စည်းကို၊ သို့တည်းမဟုတ် အဘိုးတန်စာတမ်း အမှတ်အသားကို ခြောက်လှန့်တောင်းရန်သော်၎င်း၊ ထိုသူတဦးဦးအား ဥပဒေနှင့်မညီသော အရာကိုအတင်းအဓမ္မပြုစေရန်၊ သို့တည်းမဟုတ် ပြစ်မှုကျူးလွန်ခြင်းကို လွယ်ကူစေနိုင်သော သတင်းတခုခုကို အတင်းအဓမ္မပေးစေရန်သော်၎င်း မည်သူမဆို၊ တဦးတယောက်သောသူအား မတရားသဖြင့် ချုပ်နှောင်ထားလျှင်၊ ထိုသူကို သုံးနှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ချောက်လှန့်၍ဖြောင့်ချက်ယူရန်ဖြစ်စေ၊ ပစ္စည်းကိုပြန်ပေးအောင် အတင်းအဓမ္မပြုရန်ဖြစ်စေ မတရားချုပ်နှောင်ထားမှု။

၃၄၈။ ။ချုပ်နှောင်ခံရသူထံမှဖြစ်စေ၊ ချုပ်နှောင်ခံရသူနှင့် အကျိုးသက်ဆိုင်သောသူထံမှဖြစ်စေ ပြစ်မှု၊ သို့တည်းမဟုတ် အကျင့်ပျက်ပြားမှု ပေါ်စေနိုင်သော ဖြောင့်ချက်ကို၊ သို့တည်းမဟုတ် ထိုသို့သော သတင်းပေးချက်ကို ချောက်လှန့်၍ တောင်းရန်သော်၎င်း၊ ထိုသူတဦးဦးအား ပစ္စည်းကိုဖြစ်စေ၊ အဘိုးတန်စာတမ်း အမှတ်အသားကိုဖြစ်စေ ပြန်ပေးအောင်၊ သို့တည်းမဟုတ် ပြန်ပေးစေအောင်၊ သို့တည်းမဟုတ် တောင်းဆိုချက်ကိုဖြစ်စေ၊ လိုလားချက်ကိုဖြစ်စေ ပေးအောင်၊ သို့တည်းမဟုတ် ပစ္စည်းကိုဖြစ်စေ၊ အဘိုးတန်စာတမ်းအမှတ်အသားကိုဖြစ်စေ ပြန်ရစေနိုင်သော သတင်းကိုပေးအောင် အတင်းအဓမ္မပြုစေရန်သော်၎င်း မည်သူမဆို၊ တဦးတယောက်သောသူအား မတရားချုပ်နှောင်ထားလျှင်၊ ထိုသူကို သုံးနှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

## ရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုနှင့်လက်ရောက်မှု။

အနိုင်အထက်ပြုမှု။

၃၄၉။ ။တဦးတယောက်သောသူက သူတပါးကိုအနိုင်အထက်ပြုသည်ဆိုသည်မှာ၊ သူတပါးအား ရွေ့လျားစေလျှင်၊ သို့တည်းမဟုတ် သူတပါးရွေ့လျားသည်ကို ပြောင်းလဲစေလျှင်၊ သို့တည်းမဟုတ် ထိုသို့ရွေ့လျားသည်ကိုရပ်စဲစေလျှင်၊ သို့တည်းမဟုတ် သူတပါး၏ ကိုယ်အင်္ဂါတခုခုနှင့်ဖြစ်စေ၊ ထိုသူဝတ်ဆင်သော၊ သို့တည်းမဟုတ် ဆောင်ယူသောအရာဝတ္ထုနှင့်ဖြစ်စေ၊ ထိတွေ့မှုရှိလျှင် ထိုသူ၏ အခံရခံစားမှုကိုဖြစ်ပေါ်စေနိုင်သည့် အခြေအနေရှိသော အရာဝတ္ထုနှင့်ဖြစ်စေ ထိတွေ့အောင် အရာဝတ္ထုတခုခုကိုရွေ့လျားစေလျှင်၊ သို့တည်းမဟုတ် ထိုအရာဝတ္ထုရွေ့လျားသည်ကို ပြောင်းလဲစေလျှင်၊ သို့တည်းမဟုတ် ထိုသို့ရွေ့လျားသည်ကိုရပ်စဲစေလျှင်၊ သူတပါးကိုအနိုင်အထက်ပြုသည်မည်၏။

သို့ရာတွင် ရွေ့လျားခြင်း၊ ရွေ့လျားမှုပြောင်းလဲခြင်း၊ ရွေ့လျားမှုရပ်စဲခြင်းတခုခုကို ဖြစ်စေသောသူသည် အောက်ဖော်ပြပါ နည်းသုံးမျိုးအနက် တမျိုးမျိုးဖြင့်ပြုမှသာလျှင်၊ ရွေ့လျားခြင်းကို၊ သို့တည်းမဟုတ် ရွေ့လျားမှုပြောင်းလဲခြင်းကို၊ သို့တည်းမဟုတ်ရွေ့လျားမှုရပ်စဲခြင်းကို ဖြစ်စေသည်မည်၏။

ပဌမ။ ။မိမိ၏ကိုယ်အင်အားဖြင့်ပြုခြင်း။

ဒုတိယ။ ။ပြုသူကဖြစ်စေ၊ အခြားသူတဦးတယောက်ကဖြစ်စေ ပြုလုပ်မှုတခုခုကို ထပ်မံ၍မပြုဘဲနှင့် ရွေ့လျားခြင်း၊ ရွေ့လျားမှုပြောင်းလဲခြင်း၊ ရွေ့လျားမှုရပ်စဲခြင်းတခုခုဖြစ်အောင် အရာဝတ္ထုတခုခုကိုပြုခြင်း။

တတိယ။ ။တိရစ္ဆာန်တကောင်ကောင်အား ရွေ့လျားခြင်း၊ ရွေ့လျားမှု ပြောင်းလဲခြင်း၊ ရွေ့လျားမှုရပ်စဲခြင်းတခုခုပြုစေရန် သွေးဆောင်ခြင်း။

ရာဇဝတ် မကင်းသော အနိုင် အထက်ပြုမှု။

၃၅၀။ ။ပြစ်မှုကျူးလွန်ရန်သော်၎င်း၊ အနိုင်အထက်ပြုမှုကိုသုံးစွဲခြင်းဖြင့် အနိုင်အထက်ပြုခြင်းခံရသောသူအား နစ်နာခြင်း၊ ကြောက်ရွံ့ခြင်း၊ စိတ်ပူပြင်ခြင်းတခုခုဖြစ်စေရန် ကြံရွယ်၍သော်၎င်း၊ ထိုသို့ဖြစ်စေတန်ရာသည်ကိုသိလျက်နှင့်သော်၎င်း ထိုသူအား ထိုသူ၏သဘောတူချက်ကိုမရရှိဘဲ တမင်အနိုင်အထက်ပြုလျှင်၊ အနိုင်အထက်ပြုသူသည် ရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုကိုပြုသည်မည်၏။

## ဥပမာများ။

(က) မောင်မဲသည် မြစ်ထဲ၌ဆိုက်ကပ်ထားသော လှေတစင်းပေါ်တွင် ထိုင်နေ၏။ မောင်ဖြူသည် ထိုလှေကိုဖြုတ်၍ တမင်မျှောလိုက်၏။ ဤအချက်တွင် မောင်ဖြူသည် မောင်မဲအား တမင်ရွေ့လျားစေ၏။ ထိုသို့ရွေ့လျားစေခြင်းသည် ပြုလုပ်မှုတခုကိုမည်သူကမျှ ထပ်မံ၍ မပြုဘဲနှင့် အရာဝတ္ထုတခုကို အလိုအလျောက်ရွေ့လျားသွားအောင်မောင်ဖြူပြုခြင်းဖြစ်သည်။ ထိုကြောင့် မောင်ဖြူသည် မောင်မဲကိုတမင်အနိုင်အထက်ပြုသည်မည်၏။ မောင်မဲ၏ သဘောတူချက်မရရှိဘဲ ပြစ်မှုတခုခုကိုကျူးလွန်ရန်သော်၎င်း၊ မောင်မဲအားနစ်နာခြင်း၊ ကြောက်ရွံ့ခြင်း၊ စိတ်ပြိုငြင်ခြင်းတခုခုဖြစ်စေရန် ကြံရွယ်၍သော်၎င်း၊ ထိုသို့ ဖြစ်စေတန်ရာသည်ကို သိလျက်နှင့်သော်၎င်း ဤသို့ပြုခဲ့သော်၊ မောင်ဖြူသည် ရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုကိုမောင်မဲအားပြုသည်မည်၏။

(ခ) မောင်မဲသည် မြင်းရထားကိုစီးသွားစဉ် မောင်ဖြူကမြင်းများကို ရိုက်လိုက်သဖြင့် မြင်းများသည်ပို၍လျင်မြန်စွာပြေး၏။ ဤအချက်တွင် မောင်ဖြူသည် တိရစ္ဆာန်များ၏ ရွေ့လျားခြင်းကိုပြောင်းလဲစေရန်ပြုခြင်းဖြင့်၊ မောင်မဲ၏ရွေ့လျားခြင်းကိုလည်း ပြောင်းလဲစေ၏။ ထို့ကြောင့် မောင်ဖြူသည် မောင်မဲကို အနိုင်အထက်ပြုသည်မည်၏။ မောင်မဲ၏သဘောတူချက်မရရှိဘဲ မောင်မဲအားနစ်နာခြင်း၊ ကြောက်ရွံ့ခြင်း၊ စိတ်ပြိုငြင်ခြင်း တခုခုဖြစ်စေရန် ကြံရွယ်၍သော်၎င်း၊ ထိုသို့ဖြစ်စေတန်ရာသည်ကို သိလျက်နှင့်သော်၎င်း ဤသို့ပြုခဲ့သော်၊ မောင်ဖြူသည် ရာဇဝတ်မကင်းသော အနိုင်အထက် ပြုမှုကို မောင်မဲအား ပြုသည်မည်၏။

(ဂ) မောင်မဲသည် ထမ်းစင်ကိုစီးသွားစဉ် မောင်ဖြူကလုယက်ရန် ကြံရွယ်ချက်နှင့် ထမ်းစင်ထမ်းပိုးကိုဆွဲကိုင်ကာ ရပ်စေ၏။ ဤအချက်တွင်မောင်ဖြူသည် မိမိ၏ကိုယ်အင်အားဖြင့် မောင်မဲ၏ရွေ့လျားခြင်းကိုရပ်စဲစေ၏။ ထို့ကြောင့် မောင်ဖြူသည် မောင်မဲကို အနိုင်အထက်ပြုသည်မည်၏။ ထို့ပြင်မောင်ဖြူသည် ပြစ်မှုတခုခုကိုကျူးလွန်ရန်အလို့ငှါ ထိုပြုလုပ်မှုကို မောင်မဲကခွင့်မပြုဘဲ တမင်ပြုသဖြင့် မောင်ဖြူသည် ရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုကို မောင်မဲအားပြုသည်မည်၏။

(ဃ) လမ်းပေါ်တွင် မောင်ဖြူသည် မောင်မဲကိုတမင်တွန်း၏။ ဤအချက်တွင် မောင်ဖြူသည် မိမိ၏ကိုယ်အင်အားဖြင့် မိမိကိုယ်ကို မောင်မဲနှင့်တွေ့ထိစေရန် ရွေ့လျား၏။ ထို့ကြောင့်မောင်ဖြူသည် မောင်မဲအားတမင်အနိုင်အထက်ပြုသည်မည်၏။ ထို့ပြင် မောင်မဲ၏သဘောတူညီချက်မရရှိဘဲ မောင်မဲအားနစ်နာခြင်း၊ ကြောက်ရွံ့ခြင်း၊ စိတ်ပြိုငြင်ခြင်းတခုခုဖြစ်စေရန်ကြံရွယ်၍သော်၎င်း၊ ထိုသို့ဖြစ်စေတန်ရာသည်ကို သိလျက်နှင့်သော်၎င်း ဤသို့ပြုခဲ့သော်၊ မောင်ဖြူသည် ရာဇဝတ်မကင်းသော အနိုင်အထက် ပြုမှုကို မောင်မဲအား ပြုသည်မည်၏။

(င) မောင်မဲကိုဖြစ်စေ၊ မောင်မဲ၏အဝတ်အစားများကိုဖြစ်စေ၊ မောင်မဲဆောင်ယူလာသော အရာဝတ္ထုတခုခုကိုဖြစ်စေ ထိမှန်စေရန်ကြံရွယ်၍သော်၎င်း၊ ထိမှန်စေတန်ရာသည်ကို သိလျက်နှင့်သော်၎င်း ခဲသည်ရေကိုထိ၍ မောင်မဲ၏အဝတ်များကိုဖြစ်စေ၊ မောင်မဲဆောင်ယူလာသော အရာဝတ္ထုတခုခုကိုဖြစ်စေ ရေစင်စေရန် ကြံရွယ်၍သော်၎င်း၊ ထိုသို့ရေစင်စေရန်တန်ရာသည်ကိုသိလျက်နှင့်သော်၎င်း မောင်ဖြူသည် ခဲတလုံးကိုပစ်လိုက်၏။ ဤအချက်၌၊ ခဲပစ်ခြင်းကိုအကြောင်းပြု၍၊ အရာဝတ္ထုတခုခုသည် မောင်မဲကိုဖြစ်စေ၊ မောင်မဲ၏အဝတ်များကိုဖြစ်စေထိမှန်လျှင်၊ မောင်ဖြူသည် မောင်မဲကို အနိုင်အထက်ပြုသည်မည်၏။ ထို့ပြင်

မောင်မဲ၏သဘောတူချက်မရရှိဘဲ မောင်မဲအားနစ်နာခြင်း၊ ကြောက်ရွံ့ခြင်း၊ စိတ်ပျက်ငြင်ခြင်း တခုခုဖြစ်စေရန်ကြံရွယ်၍ ဤသို့ပြုလျှင်၊ မောင်ဖြူသည် ရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုကို မောင်မဲအားပြုသည်မည်၏။

(စ) မောင်ဖြူသည် မိန်းမတဦး၏ မျက်နှာဖုံးကိုတမင်ဆွဲဖွင့်လိုက်၏။ ဤအချက်တွင် မောင်ဖြူသည် ထိုမိန်းမကိုတမင်အနိုင်အထက်ပြုသည်မည်၏။ ထို့ပြင် ထိုမိန်းမ၏သဘော တူချက်မရရှိဘဲ ထိုမိန်းမအားနစ်နာခြင်း၊ကြောက်ရွံ့ခြင်း၊စိတ်ပျက်ငြင်ခြင်း တခုခုဖြစ်စေရန်ကြံရွယ်၍သော်၎င်း၊ ထိုသို့ဖြစ်စေတန်ရာသည်ကို သိလျက်နှင့်သော်၎င်း ဤသို့ပြုလျှင်၊ မောင်ဖြူသည် ရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုကို ထိုမိန်းမအားပြုသည်မည်၏။

(ဆ) မောင်မဲသည် ရေချိုးနေစဉ် မောင်ဖြူသည် ဆူနေမှန်းသိသော ရေနွေးပူကို မောင်မဲ၏ချိုးရေအိုးထဲသို့လောင်းထည့်၏။ ဤအချက်တွင် မောင်မဲနှင့် တွေ့ထိစေရန်သော်၎င်း၊ ရေနွေးပူလောင်းထည့်လျှင် မောင်မဲ၏အာရုံခံစားမှုကိုဖြစ်ပေါ်စေနိုင်သည့် အခြားရေနှင့် တွေ့ထိစေရန်သော်၎င်း မောင်ဖြူသည်မိမိ၏ကိုယ်အင်အားဖြင့် ရေနွေးပူကိုတမင်ရွှေ့လျားစေ၏။ ထို့ကြောင့် မောင်ဖြူသည် မောင်မဲကို တမင်အနိုင်အထက်ပြုသည်မည်၏။ ထို့ပြင် မောင်မဲ၏သဘောတူချက်မရရှိဘဲ မောင်မဲအားနစ်နာခြင်း၊ ကြောက်ရွံ့ခြင်း၊ စိတ်ပျက်ငြင်ခြင်း တခုခုဖြစ်စေရန်ကြံရွယ်၍သော်၎င်း၊ ထိုသို့ဖြစ်စေတန်ရာသည်ကိုသိလျက်နှင့်သော်၎င်း ဤသို့ ပြုခဲ့သော်၊ မောင်ဖြူသည် ရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုကိုပြုသည်မည်၏။

(ဇ) မောင်မဲ၏ သဘောတူချက်မရရှိဘဲ မောင်မဲ၏အပေါ်သို့ ခွေးခုန်တက်အောင် မောင်ဖြူသည် ခွေးကိုလှုံ့ဆော်ပေး၏။ ဤအချက်တွင် မောင်မဲအား နစ်နာခြင်း၊ ကြောက်ရွံ့ခြင်း၊ စိတ်ပျက်ငြင်ခြင်းတခုခုကိုဖြစ်စေရန်ကြံရွယ်၍ မောင်ဖြူကပြုလျှင်၊ မောင်ဖြူသည် ရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုကိုမောင်မဲအားပြုသည်မည်၏။

၃၅၁။ ။မည်သူမဆို၊ မိမိရှေ့မှောက်ရှိ တဦးတယောက်သောသူအား မိမိ၏ကိုယ်အမူအရာဖြင့်၊ သို့တည်းမဟုတ် ပြင်ဆင်မှုဖြင့် ထိုသူအားရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုသုံးစွဲအံ့သည်ကို စိုးရိမ်လောက်အောင် ထိုကိုယ်အမူအရာဖြင့်၊ သို့တည်းမဟုတ် ထိုပြင်ဆင်မှုဖြင့် ဖြစ်စေမည်ဟုကြံရွယ်၍သော်၎င်း၊ ထိုသို့ဖြစ်စေတန်ရာသည်ကိုသိလျက်နှင့်သော်၎င်း ကိုယ်အမူအရာကို၊ သို့တည်းမဟုတ် ပြင်ဆင်မှုကိုပြုလျှင်၊ ထိုသူသည် လက်ရောက်မှုကိုကျူးလွန်သည်မည်၏။

လက်ရောက်မှု။

**ရှင်းလင်းချက်။** ။စကားသက်သက်သည် လက်ရောက်မှုမမြောက်၊ သို့ရာတွင် ထိုသူသုံးစွဲသောစကားများသည် ထိုသူ၏ကိုယ်အမူအရာကို၊ သို့တည်းမဟုတ် ပြင်ဆင်မှုကို လက်ရောက်မှုမြောက်သည့် အဓိပ္ပါယ်သက်ရောက်စေနိုင်သည်။

## ဥပမာများ။

(က) မောင်မဲကို ထိုးအံ့ဟု မောင်မဲယုံကြည်စေရန်ကြံရွယ်၍ဖြစ်စေ၊ ယုံကြည်တန်ရာသည်ကိုသိလျက်နှင့်ဖြစ်စေ မောင်ဖြူသည်မောင်မဲအားလက်သီးဖြင့်ရွယ်၏။ မောင်ဖြူသည် လက်ရောက်မှုကို ကျူးလွန်သည်မည်၏။

(ခ) မောင်မဲကိုခွေးကိုက်စေအံ့ဟု မောင်မဲယုံကြည်စေရန်ကြံရွယ်၍ဖြစ်စေ၊ ယုံကြည်တန်ရာသည်ကိုသိလျက်နှင့်ဖြစ်စေ မောင်ဖြူသည် ခွေးဆိုးတကောင်၏နှုတ်သီးစွပ်ကိုဖြုတ်စပြု၏။ မောင်ဖြူသည် မောင်မဲကို လက်ရောက်မှုကျူးလွန်သည်မည်၏။

(ဂ) " နင့်ကိုငါရိုက်မည် " ဟု မောင်မဲအားပြောလျက် မောင်ဖြူသည် တုတ်တချောင်းကိုကောက်ယူ၏။ ဤအချက်တွင် မောင်ဖြူပြောသောစကားသက်သက်သည် မည်သည့်နည်းနှင့်မျှ လက်ရောက်မှုမမြောက်၊ ထို့ပြင်ပတ်ဝန်းကျင်ကြောင်းချင်းရာ မပါသော မောင်ဖြူ၏ ကိုယ်အမူအရာ သက်သက်သည်လည်း လက်ရောက်မှုမမြောက်၊ သို့သော်လည်း၊ အထက်က ဆိုခဲ့သည့်စကားများဖြင့် အဓိပ္ပါယ်ဖေါ်ထားသော မောင်ဖြူ၏ကိုယ် အမူအရာမှာကား လက်ရောက်မှုမြောက်နိုင်သည်။

၃၅၂။ ။မည်သူမဆို၊ ရုတ်တရက်အကြီးအကျယ်ဒေါသထွက်အောင် တဦးတယောက်သောသူကပြုခြင်းကြောင့်မဟုတ်ဘဲ အခြားအကြောင်းကြောင့် ထိုသူအားလက်ရောက်မှုကျူးလွန်လျှင်၊ သို့တည်းမဟုတ် ရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုကိုပြုလျှင်၊ ထိုသူကို သုံးလထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငါးရာထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အကြီးအကျယ် ဒေါသထွက်အောင် ပြုမှု ကြောင့်မဟုတ်ဘဲ အခြားအကြောင်းကြောင့် ဖြစ်သော လက်ရောက်မှုအတွက်၊ သို့တည်းမဟုတ် ရာဇဝတ် မကင်းသော အနိုင်အထက် ပြုမှု အတွက် ပြစ်ဒဏ်။

**ရှင်းလင်းချက်။** ။ပြစ်မှုအတွက်အပြစ်တွင်ကင်းလွတ်ခွင့်ရစေရန် ဒေါသထွက်စေမှု ကို ပြစ်မှုကျူးလွန်သူကရှာကြံလျှင်၊ သို့တည်းမဟုတ် မိမိဒေါသထွက်အောင် သူတပါးကပြုစေရန် မိမိကထိုသူအားမိမိအလိုအလျောက်ပြုလျှင်၊ သို့တည်းမဟုတ်

ဥပဒေကိုနာခံ၍သော်၎င်း၊ ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့် ဥပဒေနှင့်အညီ အာဏာကို သုံးစွဲရာတွင် ပြည်သူ့ဝန်ထမ်းကသော်၎င်း ပြုမူဆောင်ရွက်သောကိစ္စက ဒေါသထွက်စေမှုကို ဖြစ်စေလျှင်၊ သို့တည်းမဟုတ်

ကာကွယ်ခုခံပိုင်ခွင့်ကို ဥပဒေနှင့်အညီ ဆောင်ရွက်ရာတွင်ပြုသောအရာက ဒေါသထွက်စေမှုကိုဖြစ်စေလျှင်၊ ရုတ်တရက် အကြီးအကျယ်ဒေါသထွက်စေမှုသည် ဤပုဒ်မအရပြစ်မှုတခုခုကို ကျူးလွန်သည့်အတွက် ပြစ်ဒဏ်ကိုပေါ့လျော့စေမည်မဟုတ်။

ဒေါသထွက်စေမှုသည် ပြစ်မှုကိုပေါ့လျော့စေလောက်အောင် ရုတ်တရက်အကြီးအကျယ် ဖြစ်သည် မဖြစ်သည်ဆိုသော အချက်မှာကား ကြောင်းချင်းရာပြဿနာဖြစ်သည်။

၃၅၃။ ။ပြည်သူ့ဝန်ထမ်းဖြစ်သူသည် ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့် တာဝန်ဝတ်တရားဆောင်ရွက်ရာတွင်သော်၎င်း၊ ထိုပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့် တာဝန်ဝတ်တရားဆောင်ရွက်ခြင်းကို တားဆီးရန်၊ သို့တည်းမဟုတ် ဟန့်တားရန်အကြံဖြင့်သော်၎င်း၊ ထိုပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့် ဥပဒေနှင့်အညီ တာဝန်ဝတ်တရားကိုဆောင်ရွက်ရာတွင်ပြုသော၊ သို့တည်းမဟုတ်ပြုရန်အားထုတ်သောအရာတခုခုကြောင့်သော်၎င်း မည်သူမဆို၊ ထိုပြည်သူ့ဝန်ထမ်းကိုလက်ရောက်မှု ကျူးလွန်လျှင်၊ သို့တည်းမဟုတ် ရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုကိုပြုလျှင်၊ ထိုသူအားနှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

တာဝန် ဝတ်တရား ဆောင်ရွက်ခြင်းမှ ပြည်သူ့ ဝန်ထမ်းကို ဟန့်တားရန် လက်ရောက်မှု ကျူးလွန်ခြင်း၊ သို့တည်း မဟုတ် ရာဇဝတ် မကင်းသော အနိုင်အထက်ပြုမှုကိုပြုခြင်း။

၃၅၄။ ။မည်သူမဆို၊ မိန်းမတဦး၏ ကာယိန္ဒြေကို ပျက်စီးစေရန်အကြံဖြင့်သော်၎င်း၊ ကာယိန္ဒြေပျက်စီးတန်ရာသည်ကို သိလျက်နှင့်သော်၎င်း ထိုမိန်းမကိုလက်ရောက်မှု ကျူးလွန်လျှင်၊ သို့တည်းမဟုတ် ရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုကိုပြုလျှင်၊ ထိုသူအား နှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

မိန်းမ၏ ကာယိန္ဒြေပျက်စီးစေရန်အကြံဖြင့် လက်ရောက်မှုကျူးလွန်ခြင်း၊ သို့တည်းမဟုတ်ရာဇဝတ် မကင်းသော အနိုင်အထက်ပြုမှုကိုပြုခြင်း။

၃၅၅။ ။မည်သူမဆို၊ မိမိအား တဦးတယောက်သောသူက ရုတ်တရက် အကြီးအကျယ် ဒေါသထွက်အောင် ပြုမှုကြောင့်မဟုတ်ဘဲ အခြားအကြောင်းကြောင့်၊ ထိုသူကို အရှက်တကွဲအကျိုးနဲဖြစ်စေရန်အကြံဖြင့်လက်ရောက်မှုကျူးလွန်လျှင်၊ သို့တည်းမဟုတ် ရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုကိုပြုလျှင်၊ ထိုသူအား နှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အကြီး အကျယ် ဒေါသထွက်အောင် ပြုမှု ကြောင့် မဟုတ်ဘဲ အခြားအကြောင်းကြောင့် တဦး တယောက်သော သူအား အရှက်တကွဲအကျိုးနဲ ဖြစ်စေရန် အကြံဖြင့် လက်ရောက်မှု ကျူးလွန်ခြင်း၊ သို့တည်းမဟုတ် ရာဇဝတ် မကင်းသော အနိုင် အထက်ပြုမှုကိုပြုခြင်း။

၃၅၆။ ။မည်သူမဆို၊ တဦးတယောက်သောသူ ဝတ်ဆင်သော၊သို့တည်းမဟုတ် သယ်ယူလာသောပစ္စည်းကို ခိုးယူရန်အားထုတ်ရာတွင် ထိုသူကို လက်ရောက်မှုကျူးလွန်လျှင်၊ သို့တည်းမဟုတ် ရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုကိုပြုလျှင်၊ ထိုသူအားနှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ဒဏ်နှစ်ရပ်လုံးဖြစ်စေချမှတ်ရမည်။

တဦးတယောက်သော သူ သယ်ယူလာသော ပစ္စည်းကို ခိုးယူရန် အားထုတ် ရာတွင် လက်ရောက်မှု ကျူးလွန်ခြင်း၊ သို့တည်းမဟုတ် ရာဇဝတ် မကင်းသော အနိုင် အထက် ပြုမှုကိုပြုခြင်း။

၃၅၇။ ။မည်သူမဆို၊ တဦးတယောက်သောသူကို မတရားချုပ်နှောင်ထားရန် အားထုတ်ရာတွင် ထိုသူကို လက်ရောက်မှုကျူးလွန်လျှင်၊ သို့တည်းမဟုတ် ရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုကိုပြုလျှင်၊ ထိုသူအား တနှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊* တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

တဦးတယောက်သော သူကို မတရား ချုပ်နှောင်ထားရန် အားထုတ်ရာတွင် လက်ရောက်မှု ကျူးလွန်ခြင်း၊ သို့တည်းမဟုတ် ရာဇဝတ် မကင်းသော အနိုင်အထက် ပြုမှုကို ပြုခြင်း။

၃၅၈။ ။မည်သူမဆို၊ မိမိအားတဦးတယောက်သောသူက ရုတ်တရက် အကြီးအကျယ် ဒေါသထွက်အောင်ပြုမှုကြောင့် ထိုသူကို လက်ရောက်မှု ကျူးလွန်လျှင်၊ သို့တည်းမဟုတ် ရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုကိုပြုလျှင်၊ ထိုသူအား တလထိအလုပ်မဲ့ထောင်ဒဏ်ဖြစ်စေ၊ နှစ်ရာထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အကြီး အကျယ် ဒေါသထွက်အောင် ပြုမှု ခံရ၍၊ လက်ရောက်မှု ကျူးလွန်ခြင်း၊ သို့တည်းမဟုတ် ရာဇဝတ်မှု မကင်းသော အနိုင် အထက် ပြုမှုကိုပြုခြင်း။

ရှင်းလင်းချက်။ ။အထက်ပုဒ်မ ၃၅၈ ကို ပုဒ်မ ၃၅၂ နှင့် ထပ်တူအဓိပ္ပါယ်ကောက်ယူရမည်။

### လူခိုးမှု၊ သွေးဆောင်ဆွဲခေါ်မှု၊ ကျွန်ပြုမှုနှင့် အနိုင်အထက်ခိုင်းစေမှု။

၃၅၉။ ။လူခိုးမှုဆိုသည်မှာ၊ ပြည်ထောင်စု မြန်မာနိုင်ငံမှအပသို့လူကိုခိုးယူမှုနှင့် ဥပဒေနှင့်အညီ အုပ်ထိန်းသူထံမှ လူကိုခိုးယူမှုဟူ၍ နှစ်မျိုးရှိသည်။

လူခိုးမှု။

၃၆၀။ ။မည်သူမဆို၊ တဦးတယောက်သောသူအား ထိုသူကိုယ်တိုင်ကဖြစ်စေ၊ ထိုသူကိုယ်စားဥပဒေနှင့်အညီသဘောတူနိုင်ခွင့်ရှိသူကဖြစ်စေ၊ သဘောမတူဘဲပြည်ထောင်စု မြန်မာနိုင်ငံမှအပသို့ထုတ်ဆောင်သွားလျှင်၊ ပြည်ထောင်စု မြန်မာနိုင်ငံမှအပသို့ လူကိုခိုးယူသည်မည်၏။

ပြည်ထောင်စု မြန်မာနိုင်ငံမှအပသို့ လူခိုးမှု။

၃၆၁။ ။မည်သူမဆို၊ ဥပဒေနှင့်အညီ အုပ်ထိန်းသူ၏ ထိန်းသိမ်းခြင်းမှ အသက်ဆယ့်လေးနှစ်အောက် ယောကျ်ားကလေးကိုဖြစ်စေ၊ အသက်ဆယ့်ခြောက်နှစ်အောက် မိန်းကလေးကိုဖြစ်စေ၊ စိတ်ပေါ့သွပ်သူကိုဖြစ်စေ ထိုအုပ်ထိန်းသူကသဘောမတူဘဲ ဆောင်ယူလျှင်၊ သို့တည်းမဟုတ် ဖြားယောင်းခြင်းအားဖြင့် ထွက်သွားစေလျှင်၊ ထိုအရွယ်မရောက်သေးသူကို၊ သို့တည်းမဟုတ် ထိုစိတ်ပေါ့သွပ်သူကို ဥပဒေနှင့်အညီ အုပ်ထိန်းသူထံမှ ခိုးယူသည်မည်၏။

ဥပဒေနှင့် အညီအုပ်ထိန်းသူထံမှ လူခိုးမှု။

ရှင်းလင်းချက်။ ။ဤပုဒ်မ၌ "ဥပဒေနှင့်အညီ အုပ်ထိန်းသူ" ဆိုသော စကားများတွင် ဆိုခဲ့သော အရွယ်မရောက်သေးသူကို၊ သို့တည်းမဟုတ် အခြားသူကို ထိန်းသိမ်းစောင့်ရှောက်ရန်ဖြစ်စေ၊ အုပ်ထိန်းရန်ဖြစ်စေ ဥပဒေနှင့်အညီ အပ်နှံခံရသူလည်းပါဝင်သည်။

ကင်းလွတ်ချက်။ ။မိမိသည် တရားမဝင်သောကလေး၏ အဘဖြစ်သည်ဟု သဘောရိုးဖြင့် ယုံကြည်သောသူ၏ ပြုလုပ်မှုသည်၊ သို့တည်းမဟုတ် ထိုကလေးကို ဥပဒေနှင့်အညီ မိမိအုပ်ထိန်းပိုင်ခွင့်ရှိသည်ဟု သဘောရိုးဖြင့် ယုံကြည်သောသူ၏ပြုလုပ်မှုသည် အကျင့်ဖေါက်ပြားသောကိစ္စအလို့ငှါဖြစ်စေ၊ ဥပဒေနှင့် ဆန့်ကျင်သောကိစ္စအလို့ငှါဖြစ်စေပြုသော ပြုလုပ်မှုမဟုတ်လျှင်၊ ဤပုဒ်မနှင့် မသက်ဆိုင်စေရ။

၃၆၂။ ။မည်သူမဆို၊ တဦးတယောက်သောသူအား တနေရာရာမှ သွားစေရန် အနိုင်အထက်ပြုခြင်းဖြင့် အတင်းအဓမ္မပြုလျှင်၊ သို့တည်းမဟုတ် လှည့်ဖြားသောနည်းဖြင့် သွေးဆောင်လျှင်၊ ထိုသူသည် သွေးဆောင်ဆွဲခေါ်သည်မည်၏။

လူကို သွေးဆောင်ဆွဲခေါ်မှု။

လူခိုးမှုအတွက်ပြစ်ဒဏ်။

၃၆၃။ ။မည်သူမဆို၊ တဦးတယောက်သောသူအား၊ ပြည်ထောင်စု မြန်မာနိုင်ငံမှအပသို့ဖြစ်စေ၊ ဥပဒေနှင့်အညီ အုပ်ထိန်းသူထံမှဖြစ်စေ ခိုးယူလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

လူကို သတ်ရန် ခိုးယူမှု၊ သို့တည်းမဟုတ် သွေးဆောင်ဆွဲခေါ်မှု။

၃၆၄။ ။မည်သူမဆို၊ တဦးတယောက်သောသူအား သတ်ရန်သော်၎င်း၊ အသတ်ခံရမည့်ဘေးရောက်လောက်အောင် စီမံခန့်ခွဲနိုင်ရန်သော်၎င်း ခိုးယူလျှင်၊ သို့တည်းမဟုတ် သွေးဆောင်ဆွဲခေါ်လျှင်၊ ထိုသူကိုတသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိအလုပ်ကြမ်းနှင့်ထောင်ဒဏ်ဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

### ဥပမာများ။

(က) မောင်မဲအားယစ်ပူဇော်ရန်ကြံရွယ်၍သော်၎င်း၊ ယစ်ပူဇော်ခြင်းခံရတန်သည်ကိုသိလျက်နှင့်သော်၎င်း မောင်ဖြူသည် မောင်မဲကို ပြည်ထောင်စု မြန်မာနိုင်ငံမှအပသို့ ခိုးယူ၏။ မောင်ဖြူသည် ဤပုဒ်မတွင် အဓိပ္ပါယ်ဖေါ်ပြထားသော ပြစ်မှုကိုကျူးလွန်၏။

(ခ) မောင်ဖြူသည် မောင်မဲကိုသတ်ရန် မောင်မဲ၏အိမ်မှ မောင်မဲအားအနိုင်အထက်ဆောင်ယူသွား၏။ သို့တည်းမဟုတ်ဖြားယောင်းခြင်းအားဖြင့် ထွက်သွားစေ၏။ မောင်ဖြူသည် ဤပုဒ်မတွင် အဓိပ္ပါယ်ဖေါ်ပြသော ပြစ်မှုကိုကျူးလွန်သည်။

လူကို လျှို့ဝှက်စွာမတရားသဖြင့် ချုပ်နှောင်ထားရန် အကြံဖြင့် ခိုးယူမှု၊ သို့တည်းမဟုတ် သွေးဆောင် ဆွဲခေါ်မှု။

၃၆၅။ ။မည်သူမဆို၊ တဦးတယောက်သောသူအား လျှို့ဝှက်စွာ မတရားသဖြင့် ချုပ်နှောင်ထားခြင်းခံရစေရန်အကြံဖြင့် ခိုးယူလျှင်၊ သို့တည်းမဟုတ် သွေးဆောင်ဆွဲခေါ်လျှင်၊ ထိုသူကို ခုနစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

အတင်း အဓမ္မ ထိမ်းမြားပေးစားရန် စသည်တို့အတွက် မိန်းမကို ခိုးယူမှု၊ သို့တည်းမဟုတ် သွေးဆောင် ဆွဲခေါ်မှု၊ သို့တည်းမဟုတ် သွေးဆောင်မှု။

၃၆၆။ ။မိန်းမက အလိုမတူဘဲ ထိုမိန်းမကို တဦးတယောက်သောသူနှင့် ထိမ်းမြားပေးစားခြင်းငှါ အတင်းအဓမ္မပြုရန်အကြံနှင့်သော်၎င်း၊ ထိုသို့အတင်းအဓမ္မပြုခြင်းခံရမည့်ဖြစ်တန်ရာသည်ကို သိလျက်နှင့်သော် ၎င်း၊ အနိုင်အထက်ပြုခြင်းဖြင့်ဖြစ်စေ၊ ကာမသွေးဆောင် အကျင့်ဖျက်ဆီးခြင်းဖြင့်ဖြစ်စေ၊ မတရားသဖြင့် ကာမစပ်ယှက်စေရန်သော်၎င်း၊ ထိုသို့အနိုင်အထက်ပြုခြင်း၊ သို့တည်းမဟုတ် ကာမသွေးဆောင် အကျင့်ဖျက်ဆီးခြင်းခံရမည့်ဖြစ်တန်ရာသည်ကို သိလျက်နှင့်သော်၎င်း မည်သူမဆို၊ မိန်းမတဦးတယောက်အားခိုးယူလျှင်၊ သို့တည်းမဟုတ် သွေးဆောင်ဆွဲခေါ်လျှင်၊ ထိုသူကို ဆယ်နှစ်ထိထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ထို့ပြင် ဤရာဇသတ်ကြီးတွင် အဓိပ္ပါယ်ဖော်ပြသည့် ရာဇဝတ်မကင်းသော ခြောက်လှန့်ခြင်းနည်းဖြင့်သော်၎င်း၊ မိမိအခွင့်အာဏာကိုအလွဲသုံးစားပြုခြင်းဖြင့်သော်၎င်း၊ အခြားအတင်းအဓမ္မနည်း တနည်းနည်းဖြင့်သော်၎င်း အနိုင်အထက်ပြုခြင်းဖြင့်ဖြစ်စေ၊ ကာမသွေးဆောင် အကျင့်ဖျက်ဆီးခြင်းဖြင့်ဖြစ်စေ မိန်းမတဦးတယောက်ကို အခြားသူတဦးတယောက် နှင့် မတရားသဖြင့် ကာမစပ်ယှက်စေရန်အကြံနှင့်သော်၎င်း၊ ထိုသို့ကာမစပ်ယှက်ခြင်းခံရမည်ဖြစ်တန်ရာသည်ကိုသိလျက်နှင့်သော်၎င်း မည်သူမဆို၊ ထိုမိန်းမအားတနေရာရာမှ ထွက်သွားစေရန်သွေးဆောင်လျှင်၊ ထိုသူကိုအထက်ကဖော်ပြသည့်အတိုင်း ပြစ်ဒဏ်ချမှတ်ရမည်။

ကာမ ပွဲစား အဖြစ်ဖြင့် အရွယ် မရောက် သေးသော မိန်းကလေးကိုရှာပေးခြင်း။

၃၆၆-က။ ။အနိုင်အထက်ပြုခြင်းဖြင့်ဖြစ်စေ၊ ကာမသွေးဆောင် အကျင့်ဖျက်ဆီးခြင်းဖြင့်ဖြစ်စေ ဆယ့်ရှစ်နှစ်အောက် မိန်းကလေးတယောက်ကို အခြားသူတဦးတယောက်နှင့် မတရားသဖြင့် ကာမစပ်ယှက်စေရန် အကြံဖြင့်သော်၎င်း၊ ထိုသို့အနိုင်အထက်ပြုခြင်း၊ သို့တည်းမဟုတ် ကာမသွေးဆောင်ခြင်းခံရမည် ဖြစ်တန်ရာသည်ကိုသိလျက်နှင့်သော်၎င်း ထိုမိန်းကလေးအား တနေရာရာမှထွက်သွားစေရန်၊ သို့တည်းမဟုတ် ပြုလုပ်မှုတခုခုကိုပြုစေရန် မည်သူမဆို၊ တနည်းနည်းဖြင့် ထိုမိန်းကလေးကို သွေးဆောင်လျှင်၊ ထိုသူကို ဆယ်နှစ်ထိထောင်ဒဏ်ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

နိုင်ငံခြားမှ မိန်းကလေးကို နိုင်ငံတွင်းသွင်းမှု။

၃၆၆-ခ။ ။အသက်နှစ်ဆယ့်တနှစ်အောက်မိန်းကလေးတဦးကို အခြားသူတဦးတယောက်နှင့် မတရားသဖြင့် ကာမစပ်ယှက်စေအောင် မိမိကသော်၎င်း၊ တပါးသူကသော်၎င်း အနိုင်အထက်ပြုရန်၊ သို့တည်းမဟုတ် ကာမသွေးဆောင် အကျင့်ဖျက်ဆီး ရန် အကြံဖြင့်ဖြစ်စေ၊ ထိုသို့အနိုင်အထက်ပြုခြင်း၊ သို့တည်းမဟုတ် ကာမသွေးဆောင်အကျင့်ဖျက်ဆီးခြင်း ခံရမည်ဖြစ်တန်ရာသည်ကို သိလျက်နှင့်ဖြစ်စေ မည်သူမဆို၊ ထိုမိန်းကလေးကို ပြင်ပနိုင်ငံတခုခုမှ ပြည်ထောင်စုမြန်မာနိုင်ငံတွင်းသို့သွင်းလျှင်၊ ထိုသူကို ဆယ်နှစ်ထိထောင်ဒဏ် တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

အပြင်း အထန် နာကျင်စေခြင်း၊ ကျွန် ပြုခြင်းစသည်တို့ကို ခံစေရန် လူကိုခိုးမှု၊ သို့တည်းမဟုတ် သွေးဆောင်ဆွဲခေါ်မှု။

၃၆၇။ ။အပြင်းအထန်နာကျင်စေခြင်းကို၊ သို့တည်းမဟုတ် ကျွန်ပြုခြင်းကို၊ သို့တည်းမဟုတ် ဓမ္မတာအတိုင်းမဟုတ်သည့် တဏှာရာဂဒဏ်ကို ခံစေရန်သော်၎င်း၊ ထိုသို့ခံရမည့်ဘေးရောက်လောက်အောင် စီမံခန့်ခွဲနိုင်ရန်သော်၎င်း၊ ထိုသို့ခံရမည်ဖြစ်တန်ရာသည်ကို၊ သို့တည်းမဟုတ် ထိုသို့စီမံခန့်ခွဲခြင်းခံရမည် ဖြစ်တန်ရာသည်ကို သိလျက်နှင့်သော်၎င်း မည်သူမဆို၊ တဦးတယောက်သောသူအား ခိုးယူလျှင်၊ သို့တည်းမဟုတ် သွေးဆောင်ဆွဲခေါ်လျှင်၊ ထိုသူကိုဆယ်နှစ် ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

၃၆၈။ ။တဦးတယောက်သောသူအား ခိုးယူခဲ့ကြောင်း၊ သို့တည်းမဟုတ် သွေးဆောင်ဆွဲခေါ်ခဲ့ကြောင်းကိုသိလျက်နှင့် မည်သူမဆို၊ ထိုသူကို မတရားသဖြင့် ဝှက်သိမ်းလျှင်၊ သို့တည်းမဟုတ် ချုပ်နှောင်ထားလျှင် မိမိကိုယ်တိုင်ကဝှက်သိမ်းရန်၊ သို့တည်းမဟုတ် ချုပ်နှောင်ထားရန်အကြံဖြင့်သော်ငင်း၊ ထိုသို့ဝှက်သိမ်းသည်ကို၊ သို့တည်းမဟုတ် ချုပ်နှောင်ထားသည်ကို သိလျက်နှင့်သော်ငင်း၊ ထိုသို့ဝှက်သိမ်းရန်၊ သို့တည်းမဟုတ် ချုပ်နှောင်ထားရန်ကိစ္စအလို့ငှါ သော်ငင်း ခိုးယူဘိသကဲ့သို့၊ သို့တည်းမဟုတ် သွေးဆောင်ဆွဲခေါ်ဘိသကဲ့သို့ ထိုသူကို ထပ်တူပြစ်ဒဏ် ချမှတ်ရမည်။

ခိုးယူခြင်း၊ သို့တည်းမဟုတ် သွေးဆောင်ဆွဲခေါ်ခြင်း ခံရသူကို မတရားသဖြင့် ဝှက်သိမ်းမှု၊ သို့တည်းမဟုတ် ချုပ်နှောင်ထားမှု။

၃၆၉။ ။အသက်ဆယ်နှစ်အောက် ကလေး၏ကိုယ်မှ ရွှေ့ပြောင်းနိုင်သည့် ပစ္စည်းတခုခုကို မရိုးမဖြောင့်သောသဘောဖြင့် ယူရန်အကြံဖြင့် မည်သူမဆို၊ ထိုကလေးအားခိုးယူလျှင်၊ သို့တည်းမဟုတ် သွေးဆောင်ဆွဲခေါ်လျှင်၊ ထိုသူကို ခုနစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

အသက် ဆယ်နှစ်အောက် ကလေး၏ ကိုယ်မှ ပစ္စည်းကို ခိုးရန် အကြံဖြင့် ထိုကလေးကို ခိုးယူမှု၊ သို့တည်းမဟုတ် သွေးဆောင်ဆွဲခေါ်မှု။

၃၇၀။ ။မည်သူမဆို၊ တဦးတယောက်သောသူအား ကျွန်အဖြစ်ဖြင့် နိုင်ငံအတွင်းသို့ သွင်းလျှင်၊ သို့တည်းမဟုတ် နိုင်ငံအပသို့ထုတ်လျှင်၊ သို့တည်းမဟုတ် ရွှေ့ပြောင်းလျှင်၊ သို့တည်းမဟုတ် ဝယ်လျှင်၊ သို့တည်းမဟုတ်ရောင်းလျှင်၊ သို့တည်းမဟုတ် လက်လွှဲပြောင်းလျှင် သော်ငင်း၊ တဦးတယောက်သောသူအား ထိုသူကခွင့်မပြုဘဲ ကျွန်အဖြစ်လက်ခံလျှင်၊သို့တည်းမဟုတ်ရရှိလျှင်၊ သို့တည်းမဟုတ်တားဆီးလျှင်သော်ငင်း၊ ထိုသူကို ခုနစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

တဦး တယောက် သော သူကို ကျွန်အဖြစ် ဝယ်ယူမှု၊ သို့တည်းမဟုတ် စီမံခန့်ခွဲမှု။

၃၇၁။ ။မည်သူမဆို၊ ကျွန်များကို အမြဲတစေနိုင်ငံတွင်းသို့သွင်းလျှင်၊ သို့တည်းမဟုတ် အမြဲတစေ နိုင်ငံပသို့ထုတ်လျှင်၊ သို့တည်းမဟုတ် အမြဲတစေ ရွှေ့ပြောင်းလျှင်၊ သို့တည်းမဟုတ် အမြဲတစေဝယ်လျှင်၊ သို့တည်းမဟုတ် အမြဲတစေ ရောင်းလျှင်၊ သို့တည်းမဟုတ် အမြဲတစေ အရောင်းအဝယ်ပြုလျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထက်မပိုသောထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ချမှတ် ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

အမြဲတစေ ကျွန် ရောင်း ဝယ်မှု။

၃၇၂။ ။ပြည့်တန်ဆာကိစ္စအလို့ငှါဖြစ်စေ၊ တဦးတယောက်သောသူနှင့် မတရားသဖြင့် ကာမစပ်ယှက်စေရန်ကိစ္စအလို့ငှါဖြစ်စေ၊ ဥပဒေနှင့်ဆန့်ကျင်သည့် အကျင့်ဖေါက်ပြားသော ကိစ္စအလို့ငှါဖြစ်စေ၊ မည်သည့်အသက်အရွယ်၌မဆို စေခိုင်းရန်၊ သို့တည်းမဟုတ် အသုံးပြုရန် အကြံနှင့်သော်ငင်း၊ ထိုကိစ္စတရပ်ရပ်အလို့ငှါ စေခိုင်းခြင်းခံရမည်ဖြစ်တန်ရာသည်ကို၊ သို့တည်းမဟုတ် အသုံးပြုခြင်းခံရမည်ဖြစ်တန်ရာသည်ကို သိလျက်နှင့်သော်ငင်း မည်သူမဆို၊ အသက် ဆယ့်ရှစ်နှစ်အောက်ရှိသူကို ရောင်းလျှင်၊ သို့တည်းမဟုတ်ထုတ်ငှါးလျှင်၊

အရွယ် မရောက် သေးသူကို ပြည့်တန်ဆာကိစ္စ စသည်များ အလို့ငှါ ရောင်းမှု။

သို့တည်းမဟုတ် အခြားနည်းလက်လွှဲပြောင်းလျှင်၊ ထိုသူကိုဆယ်နှစ်ထိထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ရှင်းလင်းချက် ၁။ ။မည်သူမဆို၊ အသက် ဆယ့်ရှစ်နှစ်အောက် မိန်းမတဦးကို ပြည့်တန်ဆာတဦးတယောက်သို့ဖြစ်စေ၊ ပြည့်တန်ဆာအိမ်ထားရှိသူ၊ သို့တည်းမဟုတ် စီမံကြီးကြပ်သူသို့ဖြစ်စေ ရောင်းလျှင်၊ သို့တည်းမဟုတ် အခကြေးငွေအတွက် ထုတ်ငှါးလျှင်၊ သို့တည်းမဟုတ် အခြားနည်းလက်လွှဲပြောင်းလျှင်၊ ထိုသူကိုထိုသို့မပြုကြောင်း သက်သေ ထင်ရှား မရှိသမျှ ထိုမိန်းမအား ပြည့်တန်ဆာကိစ္စအလို့ငှါ အသုံးပြုရန် အကြံဖြင့် လက်လွှဲပြောင်းသည်ဟု မှတ်ယူရမည်။

ရှင်းလင်းချက် ၂။ ။ဤပုဒ်မကိစ္စအလို့ငှါ "မတရားသဖြင့်ကာမစပ်ယှက်ခြင်း" ဆိုသည်မှာ တရားဝင်ထိမ်းမြားခြင်းဖြင့်သော်၎င်း၊ တရားဝင်ထိမ်းမြားခြင်းပင် မမြောက်သော်လည်း သက်ဆိုင်ရာသူတို့၏ မျိုးရိုးဘာသာ ဥပဒေအရဖြစ်စေ၊ ဓလေ့ထုံးစံအရဖြစ်စေ သက်ဆိုင်သူတို့သည် လူမျိုးစုကွဲများဖြစ်လျှင်၊ ထိုလူမျိုးစု နှစ်စုတို့၏ မျိုးရိုးဘာသာ ဥပဒေအရဖြစ်စေ၊ ဓလေ့ထုံးစံအရဖြစ်စေ ထိမ်းမြားခြင်းမြောက်ဘိသကဲ့သို့ အသိအမှတ်ပြုသော စုံဖက်ခြင်းဖြင့်၊ သို့တည်းမဟုတ် နှောင်ဖွဲ့ခြင်းဖြင့်သော်၎င်း ပေါင်းဖက်ခြင်းမဟုတ်သော ကာမစပ်ယှက်ခြင်းကို ဆိုလိုသည်။

၃၇၃။ ။ပြည့်တန်ဆာကိစ္စအလို့ငှါဖြစ်စေ၊ တဦးတယောက်သောသူနှင့် မတရားသဖြင့် ကာမစပ်ယှက်စေရန် ကိစ္စအလို့ငှါဖြစ်စေ၊ ဥပဒေနှင့် ဆန့်ကျင်သည့် အကျင့်ပေါက်ပြားသော ကိစ္စအလို့ငှါဖြစ်စေ မည်သည့် အသက်အရွယ်၌မဆို စေခိုင်းရန်၊ သို့တည်းမဟုတ် အသုံးပြုရန် အကြံဖြင့်သော်၎င်း၊ အဆိုပါကိစ္စတခုခုအလို့ငှါ ထိုသို့စေခိုင်းခြင်းခံရမည်ဖြစ်တန်ရာသည်ကို၊ သို့တည်းမဟုတ် ထိုသို့အသုံးပြုခြင်းခံရမည်ဖြစ်တန်ရာသည်ကို သိလျက်နှင့် သော်၎င်း မည်သူမဆို၊ အသက် ဆယ့်ရှစ်နှစ်အောက် ရှိသူအား ဝယ်လျှင်၊ သို့တည်းမဟုတ် ငှါးယူလျှင်၊ သို့တည်းမဟုတ် အခြားနည်းလက်ရှိ ရယူလျှင်၊ ထိုသူကို ဆယ်နှစ်ထိထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

အရွယ် မရောက်သေး သူကို ပြည့်တန်ဆာ ကိစ္စ စသည်များအလို့ငှါ ဝယ်မှု။

ရှင်းလင်းချက် ၁။ ။အသက်ဆယ့်ရှစ်နှစ်အောက် မိန်းမတဦးကို ဝယ်သော၊ သို့တည်းမဟုတ် ငှါးယူသော၊ သို့တည်းမဟုတ် အခြားနည်း လက်ရှိရယူသော ပြည့်တန်ဆာဖြစ်စေ ပြည့်တန်ဆာ အိမ်ထားရှိသောသူ၊ သို့တည်းမဟုတ် စီမံကြီးကြပ်သောသူဖြစ်စေ ထိုသို့မပြုကြောင်း သက်သေထင်ရှား မရှိသမျှ၊ ထိုမိန်းမအား ပြည့်တန်ဆာ ကိစ္စအလို့ငှါ အသုံးပြုရန် အကြံဖြင့် လက်ရှိရယူသည်ဟု မှတ်ယူရမည်။

ရှင်းလင်းချက် ၂။ ။ "မတရားသဖြင့် ကာမစပ်ယှက်ခြင်း" ဆိုသည်မှာ ပုဒ်မ ၃၇၂ ပ
အဓိပ္ပါယ်နှင့် ထပ်တူဖြစ်သည်။

၃၇၄။ ။မည်သူမဆို၊ တဦးတယောက်သောသူအား ထိုသူအလိုမတူဘဲ ဥပဒေနှ
ဆန့်ကျင်၍ အတင်းအဓမ္မ ခိုင်းစေ လျှင်၊ ထိုသူကိုတနှစ်ထိ ထော
ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ခ
မှတ်ရမည်။

ဥပဒေ နှင့် ဆန့်ကျင်သော အတင်းအဓမ္မခိုင်းစေမှု။

## မုဒိမ်းမှု။

၃၇၅။ ။ဤမှနောက်တွင် ကင်းလွတ်ချက်ပြုထားသည့်မှတပါး၊ အောက်ပေါ်ပြပါ အကြောင်းငါးရပ်တွင် သက်ဝင်သော အကြောင်းတရပ်ရပ်ဖြင့် ယောကျ်ားသည် မိန်းမနှင့် ကာမစပ်ယှက်လျှင်၊ ထိုသူသည် "မုဒိမ်းမှု"ကို ကျူးလွန်သည်မည်၏။

မုဒိမ်းမှု။

ပဌမ။ ။မိန်းမကအလိုမတူငြင်းဆန်ခြင်း။

ဒုတိယ။ ။မိန်းမကခွင့်မပြုခြင်း။

တတိယ။ ။မိန်းမကခွင့်ပြုသော်လည်း၊ ထိုသို့ခွင့်ပြုရခြင်းမှာ၊ ထိုမိန်းမအား သေစေမည်ဟုသော်၎င်း၊ နာကျင်စေမည်ဟုသော်၎င်း ကြောက်ရွံ့အောင် ပြုသဖြင့် ခွင့်ပြုရခြင်း။

စတုတ္ထ။ ။မိန်းမက ခွင့်ပြုသော်လည်း၊ ယောကျ်ားက မိမိသည် ထိုမိန်းမ၏ လင်မဟုတ်ကြောင်း သိသည့်ပြင် ထိုမိန်းမက ခွင့်ပြုခြင်းမှာလည်း မိမိကိုဥပဒေနှင့်အညီ လက်ထပ်ထားသော၊ သို့တည်းမဟုတ် ထိုသို့ လက်ထပ်ထားသည်ဟု ယုံကြည်သော အခြားယောကျ်ားဖြစ်သည်ဟု ယုံကြည်၍သာ ခွင့်ပြုကြောင်းကို ထိုယောကျ်ားကသိခြင်း။

ပဉ္စမ။ ။မိန်းမကခွင့်ပြုသည်ဖြစ်စေ၊ ခွင့်မပြုသည်ဖြစ်စေ ထိုမိန်းမသည် အသက်ဆယ့်လေးနှစ်အောက် အရွယ်ရှိသူဖြစ်ခြင်း။

ရှင်းလင်းချက်။ ။ယောကျ်ား၏အင်္ဂါဇာတ်သည် မိန်းမ၏ အင်္ဂါဇာတ်တွင် သွင်းဝင်မိလျှင်၊ မုဒိမ်းမှုကျူးလွန်ခြင်းအတွက် လိုအပ်သော ကာမစပ်ယှက်မှုမြောက်ရန် လုံလောက်သည်။

ကင်းလွတ်ချက်။ ။ယောကျ်ားသည် အသက်ဆယ့်သုံးနှစ်အောက် မဟုတ်သော မိမိ၏ မယားနှင့် ကာမစပ်ယှက်ခြင်းမှာ မုဒိမ်းမှုမဟုတ်။

မုဒိမ်းမှုအတွက်ပြစ်ဒဏ်။

၃၇၆။ ။မုဒိမ်းမှု ကျူးလွန်သူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။ မုဒိမ်းကျင့်ခံရသောမိန်းမသည် မိမိ၏မယားဖြစ်၍၊ အသက်တဆယ့်နှစ်နှစ်အောက် မဟုတ်လျှင်မူကား မုဒိမ်းကျင့်သောထိုလင်ကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

## ဓမ္မတာနှင့်ဆန့်ကျင်သောပြစ်မှုများ။

ဓမ္မတာနှင့် ဆန့်ကျင်သော ပြစ်မှု။

၃၇၇။ ။ယောကျ်ားနှင့်ဖြစ်စေ၊ မိန်းမနှင့်ဖြစ်စေ၊ တိရစ္ဆာန်နှင့်ဖြစ်စေ မည်သူမဆို၊ မိမိအလိုအလျောက် ဓမ္မတာနှင့်ဆန့်ကျင်သော ကာမစပ်ယှက်မှုကိုပြုလျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ရှင်းလင်းချက်။ ။အင်္ဂါဇာတ်တခုသည် အခြားအင်္ဂါဇာတ်တခုအတွင်းသို့ ဝင်မိလျှင်၊ ဤပုဒ်မ၌ ဖေါ်ပြထားသော ပြစ်မှုကျူးလွန်ခြင်းအတွက် လိုအပ်သော မေထုန်နှင့်ဆန့်ကျင်ယှဉ်ကာမ စပ်ယှက်မှုမြောက်ရန် လုံလောက်သည်။

## အခန်း ၁၇ ။

## ပစ္စည်းကိုထိခိုက်သည့်ပြစ်မှုများ။

### ခိုးမှု။

၃၇၈။ ။တဦးတယောက်သောသူ၏ လက်ရှိမှ ထိုသူသဘောမတူဘဲ မည်သူမဆို၊ မရိုးမဖြောင့်သော သဘောဖြင့်ရွှေ့ပြောင်းနိုင်သော ပစ္စည်းတခုခုကို ယူရန်ကြံရွယ်၍၊ ထိုသို့ယူရန် ကိစ္စအလို့ငှါ ထိုပစ္စည်းကို ရွှေ့စေလျှင်၊ ထိုသူသည် ခိုးမှုကျူးလွန်သည်မည်၏။

ခိုးမှု။

**ရှင်းလင်းချက် ၁။** ။တခုခုသော အရာဝတ္ထုသည် မြေ၌စွဲကပ်နေသမျှ ကာလပတ်လုံး ရွှေ့ပြောင်းနိုင်သော ပစ္စည်းမဟုတ်သဖြင့် ခိုးမှုကျူးလွန်သော ပစ္စည်းမဟုတ်။ သို့ရာတွင် ထိုအရာဝတ္ထုသည် မြေမှကွာလျှင် ကွာခြင်းခိုးမှုကျူးလွန်နိုင်သော ပစ္စည်းဖြစ်လာနိုင်သည်။

**ရှင်းလင်းချက် ၂။** ။မြေမှကွဲကွာအောင် ပြုလုပ်မှုဖြင့် ရွှေ့စေခြင်းသည် ခိုးမှုဖြစ်နိုင်သည်

**ရှင်းလင်းချက် ၃။** ။တဦးတယောက်သောသူသည် အရာဝတ္ထု တခု မရွှေ့အောင် တားဆီးပိတ်ဆို့ထားသော အရာကို ရွှေ့ပြောင်းလျှင်၊ သို့တည်းမဟုတ် အရာဝတ္ထု တခုကို အခြားအရာဝတ္ထုတခုမှခွဲလျှင်၊ သို့တည်းမဟုတ် တကယ်ရွှေ့စေလျှင်၊ ထိုအရာဝတ္ထုကို ရွှေ့စေသည်မည်၏။

**ရှင်းလင်းချက် ၄။** ။တဦးတယောက်သောသူသည် တိရစ္ဆာန်တကောင်ကို တနည်းနည်းဖြင့်ရွှေ့စေလျှင်၊ ထိုသူသည် ထိုတိရစ္ဆာန်ကို ရွှေ့စေသည်မည်၏။ ထို့ပြင် ထိုတိရစ္ဆာန်ကို ရွှေ့စေခြင်းကြောင့် ရွှေ့သွားသည့် အရာဝတ္ထုတခုခုကိုလည်း ထိုသူပင် ရွှေ့စေသည်မည်၏။

**ရှင်းလင်းချက် ၅။** ။အဓိပ္ပါယ်ဖေါ်ပြချက်တွင် သဘောတူချက်ဆိုသည်မှာ အတည့်အလင်းသော်၎င်း၊ သဘောသက်ရောက်ခြင်းဖြင့်သော်၎င်း ဖြစ်နိုင်သည့်ပြင် ထိုသဘောတူချက်ကို လက်ရှိဖြစ်သူကဖြစ်စေ၊ ထိုကိစ္စအလို့ငှါ အတည့်အလင်းသော်၎င်း၊ သဘောသက်ရောက်ခြင်းဖြင့်သော်၎င်း အခွင့်အာဏာ ရှိသူကဖြစ်စေ ပေးနိုင်သည်။

### ဥပမာများ။

(က) မောင်ဖြူသည် မရိုးမဖြောင့်သော သဘောနှင့် မောင်မဲ၏ လက်ရှိသစ်ပင်ကို မောင်မဲသဘောမတူဘဲယူရန် အကြံဖြင့်၊ မောင်မဲ၏ မြေပေါ်မှ သစ်ပင်တပင်ကို ခုတ်လှဲ၏။ ဤတွင်မောင်ဖြူသည်ထိုသို့ယူရန်အလို့ငှါ သစ်ပင်ကို ဖြတ်ပင်စ်သည်နှင့်တပြိုင်နက် မောင်ဖြူသည် ခိုးမှုကိုကျူးလွန်၏။

(ခ) မောင်ဖြူသည်ခွေးစာကို မိမိအိတ်တွင်ထည့်၍၊ မောင်မဲ၏ခွေးကို ထိုအစာနောက်သို့လိုက်စေရန် သွေးဆောင်၏။ ဤတွင် မောင်ဖြူ၏ အကြံသည် မောင်မဲ သဘောမတူဘဲ

မောင်မဲ၏လက်မှ မရိုးမဖြောင့်သောသဘောနှင့် ခွေးကိုယူရန်ကြံရွယ်လျှင်၊ မောင်မဲ၏ခွေးသည် မောင်ဖြူနောက်သို့ လိုက်စပြုသည်နှင့်တပြိုင်နက်၊ မောင်ဖြူသည်ခိုးမှုကို ကျူးလွန်၏။

(ဂ) မောင်ဖြူသည် အဘိုးတန် ဘဏ္ဍာသေတ္တာသယ်ယူလာသော နွားတကောင်ကို တွေ့၏။ မရိုးမဖြောင့်သောသဘောနှင့် အဘိုးတန် ဘဏ္ဍာကိုယူရန် အလို့ငှါ မောင်ဖြူသည် နွားကိုတဖက်သို့မောင်းနှင်လိုက်၏။ နွားသည် ရွေ့စပြုသည်နှင့် တပြိုင်နက် မောင်ဖြူသည် အဘိုးတန်ဘဏ္ဍာ ခိုးမှုကိုကျူးလွန်၏။

(ဃ) မောင်ဖြူသည် မောင်မဲ၏ အစေခံ ဖြစ်၍ မောင်မဲက မောင်ဖြူ ထိန်းသိမ်းထားရန် မိမိ၏ ပန်းကန်ခွက်ယောက်များကို အပ်နှံထား၏။ မောင်မဲသဘောမတူဘဲ မရိုးမဖြောင့်သော သဘောနှင့် ပန်းကန်ခွက်ယောက်များနှင့်တကွ မောင်ဖြူထွက်ပြေး၏။ မောင်ဖြူသည် ခိုးမှုကိုကျူးလွန်၏။

(င) မောင်မဲသည် ခရီးသွားရန်ရှိ၍ မိမိပြန်ရောက်သည့်တိုင်အောင် သိန်းသိမ်းထားစေရန် ပန်းကန်ခွက်ယောက်များကို ကုန်ရုံမှူး မောင်ဖြူထံ၌ အပ်နှံထား၏။ မောင်ဖြူသည် ထိုပန်းကန်ခွက်ယောက်များကို ပန်းထိမ်သည်ထံသို့ ယူသွား၍ရောင်း၏။ ဤတွင်ထိုပန်းကန်ခွက်ယောက်များသည် မောင်မဲ၏လက်၌မရှိချေ။ ထို့ကြောင့် မောင်မဲလက်ဝယ်မှ ပန်းကန်ခွက်ယောက်များကို ယူသည်ဟုမဖြစ်နိုင်၍၊ မောင်ဖြူသည် ရာဇဝတ်မကင်းသော ယုံကြည်အပ်နှံရေး ဖေါက်ဖျက်မှုကို ကျူးလွန်ရာ ရောက်ချင်လျှင် ရောက်နိုင်သော်လည်း၊ ခိုးမှုကို မကျူးလွန်။

(စ) မောင်ဖြူသည် မောင်မဲနေထိုင်သော အိမ်ရှိစားပွဲပေါ်တွင် မောင်မဲပိုင်လက်စွပ်တကွင်းကိုတွေ့၏။ ဤတွင်လက်စွပ်သည် မောင်မဲ၏ လက်ရှိပစ္စည်းဖြစ်၏။ မောင်ဖြူသည် မရိုးမဖြောင့်သောသဘောနှင့် ထိုလက်စွပ်ကို ရွှေပြောင်းလျှင်၊ ခိုးမှုကို ကျူးလွန်၏။

(ဆ) မောင်ဖြူသည် တဦးတယောက်သောသူ၏ လက်ရှိမဟုတ်သော လက်စွပ်တကွင်းကိုလမ်းမပေါ်တွင်တွေ့၏။ မောင်ဖြူသည်ထိုလက်စွပ်ကို ရယူခြင်းအားဖြင့် ရာဇဝတ်မကင်းသောအလွဲသုံးစားမှုကို ကျူးလွန်ရာရောက်ချင်လျှင် ရောက်နိုင်သော်လည်း၊ ခိုးမှုကိုမကျူးလွန်။

(ဇ) မောင်ဖြူသည် မောင်မဲ၏အိမ်ရှိ စားပွဲပေါ်တွင် မောင်မဲပိုင်လက်စွပ်တကွင်းကိုတွေ့၏။ ရှာဖွေသဖြင့်အမှုပေါ်မည်ကို ကြောက်၍ မိမိလက်တွင်း၌ ချက်ခြင်းယူမထားဝံ့သောကြောင့် မောင်မဲမေ့လောက်မှ ထိုလက်စွပ်ကို ဝှက်ထားသောနေရာမှယူ၍ ရောင်းရန်အကြံနှင့် မောင်မဲ မတွေ့နိုင်လောက်သော နေရာ၌မောင်ဖြူသည် ထိုလက်စွပ်ကို ဝှက်ထား၏။ ဤတွင်မောင်ဖြူသည် ထိုလက်စွပ်ကို မူလက ရွေ့စေသောအချိန်မှစ၍ ခိုးမှုကိုကျူးလွန်၏။

(ဈ) မောင်ဖြူသည် မိမိ၏နာရီကို ပြင်ပေးစေရန် ရွှေကုန်သည် မောင်မဲသို့ ပေးအပ်၏။ မောင်မဲသည် ထိုနာရီကို မိမိဆိုင်သို့ ယူသွား၏။ နာရီကို မောင်မဲက ကြွေးအတွက် အာမခံအနေဖြင့် ဥပဒေနှင့်အညီထိန်းသိမ်းထားနိုင်အောင် မောင်ဖြူက မောင်မဲသို့ ကြွေးဆပ်ရန်မရှိ၊ မောင်ဖြူသည် မောင်မဲ၏ ဆိုင်ထဲသို့ ပြောင်ဝင်ကာ မောင်မဲ၏ လက်မှ ထိုနာရီကို အနိုင်အထက်ယူသွားရာတွင်၊ မောင်ဖြူသည် ရာဇဝတ်မကင်းသော ကျော်နင်းမှုနှင့် လက်ရောက်မှုကို ကျူးလွန်ရာရောက်ချင်လျှင် ရောက်နိုင်သော်လည်း၊ မရိုးမဖြောင့်သောသဘောနှင့် ပြုခြင်းမဟုတ်သဖြင့် ခိုးမှုကိုမကျူးလွန်။

(ည) မောင်မဲက မောင်ဖြူအပေါ်တွင် နာရီပြင်ခငွေ ရရန်ရှိ၍ နာရီကို ထိုပြင်ခငွေအတွက် အာမခံအနေဖြင့် ဥပဒေနှင့် အညီဆက်လက် ထားရှိ၏။ အကယ်၍ မောင်မဲလက်မှ နာရီပြင်ခအတွက် အာမခံဖြစ်သော ပစ္စည်းလက်လွှတ်စေရန် အကြံနှင့် မောင်ဖြူ

သည်မောင်မဲ၏ လက်ရှိမှ ထိုနာရီကိုယူလျှင်၊ မောင်ဖြူသည် မရိုးမဖြောင့်သောသဘောနှင့် ရယူခြင်းဖြစ်သောကြောင့် ခိုးမှုကိုကျူးလွန်၏။

(ဋ) မောင်ဖြူသည် မောင်မဲ၏ထံတွင် မိမိ၏နာရီကို ပေါင်၏။ အပေါင်ငွေ မပေးဆပ်သေးမီ မောင်မဲကသဘောမတူဘဲ မောင်ဖြူသည် မောင်မဲ၏ လက်ရှိမှ နာရီကိုရယူ၏။ မိမိပိုင် နာရီပင်ဖြစ်သော်လည်း၊ မောင်ဖြူသည်မရိုးမဖြောင့်သော သဘောဖြင့် ရယူခြင်းဖြစ်သောကြောင့် ခိုးမှုကိုကျူးလွန်၏။

(ဌ) ပစ္စည်းရှင်သို့ ပစ္စည်းပြန်ပေးသည့်အတွက် ပစ္စည်းရှင်ထံမှ ဆုငွေကို ရနိုင်သည့်တိုင်အောင် ပစ္စည်းတခုခုကို မိမိ၏လက်၌ ထားရန်အကြံနှင့် မောင်ဖြူသည် မောင်မဲ၏ လက်ဝယ်မှ၊ မောင်မဲသဘောမတူဘဲ မောင်မဲပိုင်ပစ္စည်းတခုကို ရယူ၏။ ဤတွင်မောင်ဖြူသည် မရိုးမဖြောင့်သော သဘောနှင့် ရယူခြင်းဖြစ်သောကြောင့် ခိုးမှုကိုကျူးလွန်၏။

(ဍ) မောင်ဖြူသည် မောင်မဲ၏ မိတ်ဆွေဖြစ်သည့်အလျောက်၊ မောင်မဲမရှိခိုက်မောင်မဲ၏ စာကြည့်တိုက်သို့သွား၍၊ မောင်မဲ၏အတည့်အလင်းသဘောတူချက် မရရှိဘဲ ဖတ်ပြီးပြန်ပေးရန်အကြံဖြင့် စာအုပ်တအုပ်ကိုဖတ်ဘို့အတွက်သာ ယူသွား၏။ ဤတွင်မောင်မဲ၏ စာအုပ်ကို အသုံးပြုရန်မောင်ဖြူသည် မောင်မဲ၏သဘောတူချက်ရကြောင်း သက်ရောက်သည်ဟု ထင်မှတ်နိုင်လောက်သည်။ ဤသို့ထင်မှတ်နိုင်လောက်လျှင်၊ မောင်ဖြူသည် ခိုးမှုကိုမကျူးလွန်။

(ဎ) မောင်ဖြူသည် မောင်မဲ၏မယားထံမှ အလှူခံ၏။ မောင်မဲ၏မယားက မောင်မဲပိုင်ငွေကြေး၊ အစားအစာနှင့် အဝတ်များကို မောင်ဖြူသို့ လှူလိုက်၏။ ထိုပစ္စည်းများသည်လင်ဖြစ်သူ မောင်မဲပိုင်ပစ္စည်းများဖြစ်ကြောင်းကို မောင်ဖြူသိသော်လည်း၊ မောင်မဲ၏မယား၌ ပေးလှူပိုင်ခွင့်ရှိသည်ဟု မောင်ဖြူ ထင်မှတ်လောက်သည်။ ဤသို့ထင်မှတ်နိုင်လောက်လျှင်၊ မောင်ဖြူသည် ခိုးမှုကိုမကျူးလွန်။

(ဏ) မောင်ဖြူသည် မောင်မဲမယား၏လင်မြှောင်ဖြစ်၏။ မောင်မဲ၏ မယားသည် မောင်ဖြူအား အဖိုးတန်ပစ္စည်းကိုပေး၏။ ထိုပစ္စည်းသည် မောင်မဲပိုင် ဖြစ်ကြောင်းကို၎င်း၊ မောင်မဲ၏မယားသည် ပေးကမ်းပိုင်ခွင့်ကို မောင်မဲထံမှ မရရှိကြောင်းကို၎င်း မောင်ဖြူ သိ၏။ မောင်ဖြူသည် မရိုးမဖြောင့်သောသဘောနှင့် ထိုပစ္စည်းကို ရယူလျှင်၊ ခိုးမှုကိုကျူးလွန်၏။

(တ) မောင်ဖြူသည် သဘောရိုးဖြင့် မောင်မဲပိုင်ပစ္စည်းကို မိမိပိုင် ပစ္စည်းဟု ယုံကြည်၍ ထိုပစ္စည်းကို မောင်နီ၏လက်ရှိမှရယူ၏။ ဤတွင်မောင်ဖြူသည် မရိုးမဖြောင့်သောသဘောနှင့် ရယူခြင်းမဟုတ်သောကြောင့် ခိုးမှုကိုမကျူးလွန်။

၃၇၉။ ။မည်သူမဆို၊ ခိုးမှုကိုကျူးလွန်လျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ခိုးမှုအတွက်ပြစ်ဒဏ်။**

၃၈၀။ ။လူနေထိုင်ရန်သော်၎င်း၊ ပစ္စည်းသိုလှောင်ရန်သော်၎င်း အသုံးပြုသော အဆောက်အအုံ၊ သို့တည်းမဟုတ်တဲ၊ သို့တည်းမဟုတ် ရေယာဉ် တခုခုအတွင်းတွင် မည်သူမဆို ခိုးမှုကိုကျူးလွန်လျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**နေအိမ် စသည်တို့ အတွင်း တွင်ခိုးမှု။**

၃၈၁။ ။စာရေးဖြစ်စေ၊ အစေခံဖြစ်စေ၊ စာရေးအနေနှင့်သော်၎င်း၊ အစေခံအနေနှင့်သော်၎င်း စေခိုင်းခြင်းခံရသောသူဖြစ်စေ မိမိအားစေခိုင်းသူ၏၊ သို့တည်းမဟုတ် မိမိအလုပ်ရှင်၏ လက်ရှိပစ္စည်းတခုခုနှင့် စပ်လျဉ်း၍ ခိုးမှုကို ကျူးလွန်လျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

စေခိုင်းသူ၏ လက်ရှိပစ္စည်းကိုစာရေး၊ သို့တည်းမဟုတ် အစေခံက ခိုးမှု။

၃၈၂။ ။ခိုးမှုကို ကျူးလွန်ရန် အလို့ငှါသော်၎င်း၊ ခိုးမှုကို ကျူးလွန်ပြီးနောက်ထွက်ပြေးလွတ်မြောက်ရန် အလို့ငှါသော်၎င်း၊ ခိုးမှုကိုကျူးလွန်၍ ရရှိသောပစ္စည်းကို ဆက်လက်ထားရှိနိုင်ရန် အလို့ငှါသော်၎င်း တဦးတယောက်သောသူကို သေစေရန်၊ သို့တည်းမဟုတ် နာကျင်စေရန်၊ သို့တည်းမဟုတ် တားဆီးရန်၊ သို့တည်းမဟုတ် သေစေမည်ဟု ဖြစ်စေ၊ နာကျင်စေမည်ဟုဖြစ်စေ၊ တားဆီး ခံရမည်ဟု ဖြစ်စေ ကြောက်ရွံ့စေရန် ပြင်ဆင်ပြီးမှ မည်သူမဆို၊ ခိုးမှုကို ကျူးလွန်လျှင်၊ ထိုသူကို အလုပ်ကြမ်းနှင့် ဆယ်နှစ်ထိ ထောင်ဒဏ်ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ခိုးမှုကို ကျူးလွန်ရန် အလို့ငှါ၊ သေစေရန် ဖြစ်စေ၊ နာကျင်စေရန် ဖြစ်စေ၊ တားဆီးရန်ဖြစ်စေ ပြင်ဆင်ပြီးမှ ကျူးလွန်သော ခိုးမှု။

## ဥပမာများ။

(က) မောင်ဖြူသည် မောင်မဲ၏ လက်ရှိမှုပစ္စည်းကိုခိုးယူ၏။ ထိုသို့ခိုးယူရာတွင် အကယ်၍ မောင်မဲက ခုခံခဲ့သော် မောင်မဲကို နာကျင်စေရန် အလို့ငှါ ယမ်းထိုးပြီး ပစ္စတိုသေနတ်တလက်ကို မိမိ၏ အဝတ်အတွင်း၌ ထားရှိ၏။ မောင်ဖြူသည် ဤပုဒ်မတွင် အဓိပ္ပါယ်ဖေါ်ပြထားသောပြစ်မှုကိုကျူးလွန်သည်မည်၏။

(ခ) ဖြစ်ပျက်ပုံအခြေအနေကို မောင်မဲကမြင်၍ ခုခံခဲ့လျှင်သော်၎င်း၊ မိမိအား မောင်မဲက ဖမ်းဆီးရန် အားထုတ်ခဲ့လျှင်သော်၎င်း မောင်မဲကိုတားဆီးရန် အလို့ငှါ မိမိ၏အပေါင်းအဖေါ်များကို အနီးအပါးတွင် နေရာချထား၍ မောင်ဖြူသည် မောင်မဲကို ခါးပိုက်နှိုက်၏။ မောင်ဖြူသည် ဤပုဒ်မတွင် အဓိပ္ပါယ်ဖေါ်ပြထားသော ပြစ်မှုကိုကျူးလွန်သည်မည်၏။

## ခြောက်လှန့်ကောင်းယူမှု။

၃၈၃။ ။မည်သူမဆို၊ တဦးတယောက်သောသူအား၊ သို့တည်းမဟုတ် အခြားသူတဦးတယောက်အား နစ်နာစေမည်ဟု ကြောက်အောင် တမင်ပြု၍၊ ပစ္စည်းတခုခုကိုဖြစ်စေ၊ အဘိုးတန်စာတမ်းအမှတ် အသား တခုခုကိုဖြစ်စေ၊ အဘိုးတန်စာတမ်း အမှတ်အသားအဖြစ်သို့ ပြောင်းလဲနိုင်သော လက်မှတ် ရေးထိုးထားသည့်၊ သို့တည်းမဟုတ် တံဆိပ်ခတ်နှိပ်ထားသည့် အရာဝတ္ထု တခုခုကိုဖြစ်စေ တဦးတယောက်သောသူသို့ ပေးအပ်စေရန် ကြောက်အောင် တမင်ပြုခြင်းခံရသော အဆိုပါသူအား မရိုးမဖြောင့်သော သဘောနှင့် သွေးဆောင်လျှင်၊ ထိုသို့ ကြောက်အောင်ပြု၍ သွေးဆောင်သူသည် "ခြောက်လှန့်တောင်းယူမှု" ကို ကျူးလွန်သည်မည်၏။

ခြောက်လှန့်တောင်းယူမှု။

## ဥပမာများ။

(က) ငွေမပေးလျှင် မောင်မဲ၏ အသရေပျက်စေမည့် စာကို ကျေညာမည်ဟု မောင်ဖြူသည် မောင်မဲကို ခြိမ်းခြောက်၏။ ဤနည်းဖြင့် မိမိအားငွေပေးစေရန် မောင်ဖြူသည်

မောင်မဲကို သွေးဆောင်၏။ ဤတွင် မောင်ဖြူသည် "ချောက်လှန့်တောင်းယူမှု" ကို ကျူးလွန်၏။

(ခ) မောင်မဲက မောင်ဖြူသို့ ငွေပေးရန်ရှိကြောင်း မောင်မဲအား တာဝန် ထားသည့် ငွေပေးကတိ စာချုပ်တခုကို မောင်မဲက လက်မှတ်ရေးထိုး၍ မောင်ဖြူသို့ မပေးလျှင် မောင်မဲ၏ ကလေးကို မတရားချုပ်နှောင် ထားမည်ဟု မောင်ဖြူက မောင်မဲကို ခြိမ်းခြောက်၏။ ထို့ကြောင့် မောင်မဲသည် ငွေပေး ကတိစာချုပ်ကို လက်မှတ် ရေးထိုး၍ မောင်ဖြူသို့ ပေးရ၏။ ဤတွင်မောင်ဖြူသည် "ချောက်လှန့် တောင်းယူမှု" ကို ကျူးလွန်၏။

(ဂ) မောင်နီအား ကောက်ပဲသီးနှံမည်မျှမည်မျှ ပေးပါမည်ဆိုသည့်ခံဝန်ချုပ်တစောင်ကို မောင်မဲက လက်မှတ်ရေးထိုး၍ မောင်နီသို့ မပေးအပ်လျှင်၊ မောင်မဲ၏ လယ်ယာကို ဖျက်ဆီးပစ်စေရန် တုတ်လက်နက် စွဲကိုင်သူတို့ကို စေလွှတ်မည်ဟု မောင်ဖြူက ခြိမ်းခြောက်၏။ ထိုသို့ ခြိမ်းခြောက်၍ ခံဝန်ချုပ်ကို မောင်မဲက လက်မှတ် ရေးထိုး၍မောင်နီအား ပေးအပ်ရန် မောင်မဲကို သွေးဆောင်၏။ မောင်ဖြူသည် "ချောက်လှန့်တောင်းယူမှု" ကို ကျူးလွန်၏။

(ဃ) မောင်ဖြူက မောင်မဲအား အပြင်းအထန်နာကျင်စေမည်ဟု ကြောက်အောင်ပြု၍၊ စက္ကူလွှတ်တချပ်တွင် လက်မှတ်ရေးထိုးစေပြီးလျှင်၊ သို့တည်းမဟုတ် တံဆိပ်ခတ်နှိပ်စေပြီးလျှင် မိမိအား ပေးအပ်စေရန် မောင်မဲကို မရိုးမဖြောင့်သော သဘောနှင့် သွေးဆောင်၏။ ထိုသို့သွေးဆောင်သဖြင့် မောင်မဲက ထိုစက္ကူကို လက်မှတ်ရေးထိုး၍ မောင်ဖြူသို့ ပေးအပ်၏။ ဤတွင် ထိုသို့ လက်မှတ် ထိုးလိုက်ရသည့် စက္ကူကို အဘိုးတန် စာတမ်း အမှတ်အသားအဖြစ်သို့ ပြောင်းလဲချင်လျှင် ပြောင်းလဲနိုင်သည်ဖြစ်၍၊ မောင်ဖြူသည် "ချောက်လှန့်တောင်းယူမှု" ကို ကျူးလွန်၏။

၃၈၄။ ။မည်သူမဆို၊ ချောက်လှန့် တောင်းယူမှုကို ကျူးလွန်လျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

ချောက်လှန့် တောင်းယူမှု အတွက် ပြစ်ဒဏ်။

၃၈၅။ ။မည်သူမဆို၊ ချောက်လှန့်တောင်းယူမှုကို ကျူးလွန်ရန် တဦးတယောက်သော သူအား နစ်နာစေမည်ဟု ကြောက်အောင် ပြုလျှင်၊ သို့တည်း မဟုတ် ထိုသို့ပြုရန် အားထုတ်လျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ချောက်လှန့် တောင်းယူမှုကို ကျူးလွန်ရန် တဦး တယောက်အား နစ်နာစေမည်ဟု ကြောက်အောင်ပြုခြင်း။

၃၈၆။ ။မည်သူမဆို၊ တဦးတယောက်သော သူကိုဖြစ်စေ၊ သူတပါးကိုဖြစ်စေ သေစေမည်ဟု၊ သို့တည်းမဟုတ် အပြင်းအထန် နာကျင် စေမည်ဟု ကြောက်အောင်ပြု၍ ချောက်လှန့်တောင်းယူမှုကို ကျူးလွန်လျှင်၊ ထိုသူကို ဆယ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

တဦး တယောက်သော သူအား သေစေမည်ဟု၊ သို့တည်း မဟုတ်အပြင်းအထန် နာကျင်စေမည်ဟုကြောက်အောင် ပြု၍ ချောက်လှန့်တောင်းယူမှု။

၃၈၇။ ။မည်သူမဆို၊ ချောက်လှန့်တောင်းယူမှုကို ကျူးလွန်ရန် တဦးတယောက်သော သူကိုဖြစ်စေ၊ သူတပါးကိုဖြစ်စေ သေစေမည်ဟု၊ သို့တည်းမဟုတ် အပြင်းအထန် နာကျင်စေမည်ဟု ကြောက်အောင်ပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့ပြုရန် အားထုတ်လျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ချောက်လှန့် တောင်းယူမှုကို ကျူးလွန်ရန် တဦး တယောက်သော သူအား သေစေမည်ဟု၊ သို့တည်း မဟုတ် အပြင်း အထန် နာကျင်စေမည်ဟု ကြောက် အောင်ပြုခြင်း။

၃၈၈။ ။မည်သူမဆို၊ တဦးတယောက်သော သူကိုဖြစ်စေ၊ သူတပါးကိုဖြစ်စေ သေဒဏ်၊ တသက်တကျွန်းဒဏ်၊ ဆယ်နှစ်ထိ ထောင်ဒဏ် တခုခုထိုက်သော ပြစ်မှုမျိုး ကျူးလွန်ကြောင်းနှင့်၊ သို့တည်းမဟုတ် ထိုပြစ်မှုမျိုးကို ကျူးလွန်ရန် အားထုတ်ကြောင်းနှင့်၊ သို့တည်းမဟုတ် ထိုပြစ်မှုမျိုးကို ကျူးလွန် စိမ့်သောငှါ အခြားသူ တဦးတယောက်အား သွေးဆောင်ရန် အားထုတ်ကြောင်းနှင့် စွပ်စွဲမည်ဟု ကြောက်အောင်ပြု၍၊ ချောက်လှန့် တောင်းယူမှုကို ကျူးလွန်လျှင်၊ ထိုသူကို ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ် နိုင်သည်။

သေဒဏ်၊ တသက်တကျွန်း ဒဏ်မှ စ၍ ပြစ်ဒဏ်ချမှတ်ခြင်း ခံထိုက်သော ပြစ်မှုမျိုး နှင့် စွပ်စွဲမည်ဟု ခြိမ်းချောက်၍ ချောက်လှန့်တောင်းယူမှု။

ထို့ပြင် အထက်ပါ ပြစ်မှုမျိုးသည် ပုဒ်မ ၃၇၇ အရ ပြစ်ဒဏ်ထိုက်သော ပြစ်မှုဖြစ်လျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ချမှတ် နိုင်သည်။

၃၈၉။ ။မည်သူမဆို၊ ချောက်လှန့် တောင်းယူမှုကို ကျူးလွန်ရန် တဦးတယောက်သော သူကိုဖြစ်စေ၊ သူတပါးကိုဖြစ်စေ သေဒဏ်၊ တသက်တကျွန်းဒဏ်၊ ဆယ်နှစ်ထိ ထောင်ဒဏ်တခုခုထိုက်သော ပြစ်မှုမျိုး ကျူးလွန်ကြောင်းနှင့်၊ သို့တည်းမဟုတ် ထိုပြစ်မှုမျိုးကို ကျူးလွန်ရန် အားထုတ်ကြောင်းနှင့် စွပ်စွဲမည်ဟု ကြောက်အောင်ပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့ပြုရန် အားထုတ်လျှင်၊ ထိုသူကို ဆယ်နှစ်ထိထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ချောက်လှန့် တောင်းယူမှု ကို ကျူးလွန်ရန် တဦး တ ယောက်သော သူအား ပြစ် မှုတခုနှင့်စွပ်စွဲမည်ဟုကြောက် အောင်ပြုခြင်း။

ထို့ပြင် အထက်ပါပြစ်မှုမျိုးသည် ပုဒ်မ ၃၇၇ အရ ပြစ်ဒဏ်ထိုက်သော ပြစ်မှုဖြစ်လျှင်၊ ထိုသူကို တသက်တကျွန်းဒဏ် ချမှတ်နိုင်သည်။

## လုယက်မှုနှင့် ဓါးပြမှု။

၃၉၀။ ။လုယက်မှု ဟူသမျှတွင် ခိုးမှုသော်၎င်း၊ ချောက်လှန့် တောင်းယူမှုသော်၎င်း ပါသည်။

လုယက်မှု။

ခိုးမှု ကျူးလွန်ရန်သော်၎င်း၊ ခိုးမှုကို ကျူးလွန်ရာတွင် သော်၎င်း၊ ခိုးမှုကျူးလွန်၍ ရရှိသော ပစ္စည်းကို သယ်ယူရာတွင်၊ သို့တည်းမဟုတ် သယ်ယူရန် အားထုတ်ရာတွင်သော်၎င်း အထမြောက်စေရေးအတွက်၊ ပြစ်မှု ကျူးလွန်သူသည် မိမိအလိုအလျောက် တဦးတယောက်သော သူအား သေစေခြင်းကိုဖြစ်စေ၊ နာကျင်စေခြင်းကိုဖြစ်စေ၊ မတရားတားဆီးခြင်းကိုဖြစ်စေ၊ တမဟုတ်ခြင်း သေစေ

ခိုးမှု လုယက်မှုဖြစ်လာခြင်း။

မည်ဟု၊ သို့တည်းမဟုတ် တမုဟုတ်ခြင်း နာကျင်စေမည်ဟု၊ သို့တည်းမဟုတ်တမုဟုတ်ခြင်း မတရား တားဆီးခြင်း ခံရစေမည်ဟု ကြောက်အောင် ဖြစ်စေ ပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့ ပြုရန် အားထုတ်လျှင်၊ ထိုခိုးမှုသည် လုယက်မှု ဖြစ်လာသည်။

ချောက်လှန့် တောင်းယူမှုမှ လုယက်မှုဖြစ်လာခြင်း။

ချောက်လှန့် တောင်းယူမှုကို ကျူးလွန်စဉ်တွင် ချောက်လှန့်ခံရသူ၏ မျက်မှောက်၌ ပြစ်မှုကျူးလွန်သူ ရှိနေပြီးလျှင်၊ ချောက်လှန့် ခံရသူကို သေ၍ငင်း၊ သူတပါးကိုသေ၍ငင်း၊ တမုဟုတ်ခြင်း သေစေမည်ဟု၊ သို့တည်း မဟုတ် တမုဟုတ်ခြင်းနာကျင်စေမည်ဟု၊ သို့တည်းမဟုတ် တမုဟုတ်ခြင်း မတရားတားဆီးခြင်းခံရစေမည်ဟု ပြစ်မှုကျူးလွန်သူကကြောက်ရွံ့အောင်ပြု၍၊ ထိုသို့ပြုခြင်းဖြင့် ချောက်လှန့်ခြင်း ခံရသူအား၊ ချောက်လှန့်တောင်းယူခြင်း ခံရသော ပစ္စည်းကို ထိုအခါ ထိုနေရာ၌ ပေးအပ်စေရန် သွေးဆောင်လျှင်၊ ချောက်လှန့်တောင်းယူမှုသည် လုယက်မှု ဖြစ်လာသည်။

ရှင်းလင်းချက်။ ။ပြစ်မှုကျူးလွန်သူသည် ချောက်လှန့် ခံရသူအား တမုဟုတ်ခြင်း သေစေခြင်းကိုဖြစ်စေ၊ တမုဟုတ်ခြင်း နာကျင်စေခြင်းကိုဖြစ်စေ၊ တမုဟုတ်ခြင်း မတရား တားဆီးခြင်းကိုဖြစ်စေ ပြုနိုင်လောက်အောင် ချောက်လှန့်ခံရသူ၏ အနီးအပါး၌ ရှိနေလျှင်၊ ပြစ်မှုကျူးလွန်သူသည် ချောက်လှန့်ခံရသူ၏ မျက်မှောက်တွင် ရှိသည်မည်၏။

## ဥပမာများ။

(က) မောင်ဖြူသည် မောင်မဲကို နှိမ်ထားပြီးလျှင်၊ မောင်မဲက သဘောမတူဘဲ မောင်မဲ၏ အဝတ်ထဲမှ ငွေနှင့် ကျောက်မျက်ရတနာများကို လိမ်လည်လှည့်ဖြားလိုသော သဘောနှင့် ယူ၏။ ဤတွင် မောင်ဖြူသည် ခိုးမှုကို ကျူးလွန်၏။

ထို့ပြင် ထိုခိုးမှုကို ကျူးလွန်ရန် မောင်မဲအား မတရားတားဆီးခြင်းကို မိမိအလိုအလျောက် ပြုခဲ့သဖြင့် မောင်ဖြူသည် လုယက်မှုကို ကျူးလွန်သည်မည်၏။

(ခ) မောင်ဖြူသည် မောင်မဲကို လမ်းတွင် တွေ့ရ၊ သေနတ်ပြပြီးလျှင် မောင်မဲ၏ငွေ အိတ်ကို တောင်း၏။ ထိုသို့တောင်းသဖြင့် မောင်မဲက မောင်ဖြူသို့ ငွေအိတ်ကို ပေးလိုက်ရ၏။ ဤတွင် မောင်ဖြူသည် မောင်မဲအား တမုဟုတ်ခြင်း နာကျင်စေမည်ဟု ကြောက်အောင်ပြု၍၊ မောင်မဲထံမှ ငွေအိတ်ကို ချောက်လှန့် တောင်းယူသည့်ပြင် ထိုသို့ချောက်လှန့်တောင်းယူစဉ် အခါကလည်း၊ မောင်ဖြူသည် မောင်မဲ၏ မျက်မှောက်၌ရှိ၏။ ထို့ကြောင့် မောင်ဖြူသည် လုယက်မှုကို ကျူးလွန်သည်မည်၏။

(ဂ) မောင်ဖြူသည် မောင်မဲနှင့် မောင်မဲ၏ ကလေးကို လမ်းတွင်တွေ့၏။ မောင်ဖြူသည် မောင်မဲ၏ကလေးကို ယူ၍၊ မောင်မဲက ငွေအိတ်ကို မပေးလျှင်၊ ထိုကလေးကို ချောက်ကမ်းပါးသို့ ပစ်ချလိုက်မည်ဟု ခြိမ်းခြောက်၏။ ထိုသို့ ခြိမ်းခြောက်ခြင်းကြောင့် မောင်မဲသည်မောင်ဖြူသို့ ငွေအိတ်ကို ပေးလိုက်ရ၏။ ဤတွင် ထိုနေရာ၌ရှိနေသော မောင်မဲ၏ ကလေးကို တမုဟုတ်ခြင်း နာကျင်စေမည်ဟု မောင်ဖြူက မောင်မဲကို ကြောက်အောင်ပြု၍၊ မောင်မဲထံမှ ငွေအိတ် ချောက်လှန့် တောင်းယူသောကြောင့်၊ မောင်ဖြူသည် လုယက်မှုကို ကျူးလွန်သည်မည်၏။

(ဃ) မောင်ဖြူက မောင်မဲအား "သင်၏ကလေးသည် ငါ၏လူစုလက်တွင်ရှိသည်၊ ငွေ တသောင်းမပို့လိုက်လျှင် ထိုကလေးကို သတ်မည်" ဟုပြောဆို၍၊ မောင်မဲထံမှ ငွေကို ငွေယူ၏။ ထိုအမှုသည် ချောက်လှန့် တောင်းယူမှုမျှသာဖြစ်သောကြောင့်၊ ထိုပြစ်မှုနှင့်သာ ပြစ်ဒဏ်ခံ

ထိုက်သည်။ ကလေးကို တမုဟုတ်ခြင်း သေစေမည်ဟု မောင်မဲအား ကြောက်အောင် ပြုခြင်း မဟုတ်လျှင်၊ ထိုအမှုသည် လုယက်မှုမမြောက်။

**ဓါးပြမှု။**

၃၉၁။ ။ငါးဦးဖြစ်စေ၊ ငါးဦးထက်ပိုသူတို့က ဖြစ်စေ လုယက်မှုကို ပူးပေါင်းကျူးလွန်လျှင်၊ သို့တည်းမဟုတ် ထိုသို့ကျူးလွန်ရန် အားထုတ်လျှင်၊ သို့တည်းမဟုတ် လုယက်မှုကို ပူးပေါင်း ကျူးလွန်သူတို့နှင့်တကွ၊ သို့တည်းမဟုတ် ထိုသို့ကျူးလွန်ရန်အားထုတ် သူတို့နှင့်တကွ လုယက်မှု ကျူးလွန်ခြင်းကို ဖြစ်စေ၊ ထိုသို့ကျူးလွန်ရန် အားထုတ်ခြင်းကိုဖြစ်စေ ကိုယ်တိုင်ရှိလျက် ကူညီကြသော သူတို့ အားလုံးပေါင်း ဦးရေသည် ငါးဦး၊ သို့တည်းမဟုတ် ငါးဦးထက်ပိုလျှင်၊ ထိုလုယက်မှု ကျူးလွန်သူဖြစ်စေ၊ ထိုသို့ကျူးလွန်ရန် အားထုတ်သူဖြစ်စေ၊ ထိုသို့ကျူးလွန်ခြင်းကို၊ သို့တည်း မဟုတ် ကျူးလွန်ရန် အားထုတ်ခြင်းကို ကူညီသူဖြစ်စေ အသီးသီးသည် "ဓါးပြမှု" ကို ကျူးလွန်သည်မည်၏။

**လုယက်မှုအတွက် ပြစ်ဒဏ်။**

၃၉၂။ ။မည်သူမဆို၊ လုယက်မှုကို ကျူးလွန်လျှင်၊ ထိုသူကို အလုပ်ကြမ်းနှင့် ဆယ်နှစ်ထိ ထောင်ဒဏ် ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။ ထို့ပြင် ထိုလုယက်မှုကို နေဝင်နှင့် နေထွက် အကြား၌ပြည်သူသွားလာရာလမ်းတွင် ကျူးလွန်လျှင်၊ ထိုထောင်ဒဏ်ကို ဆယ့်လေးနှစ်ထိ တိုးမြှင့် ချမှတ်နိုင်သည်။

**လုယက်မှုကို ကျူးလွန်ရန် အားထုတ်မှု။**

၃၉၃။ ။မည်သူမဆို၊ လုယက်မှုကို ကျူးလွန်ရန် အားထုတ်လျှင်၊ ထိုသူကို အလုပ်ကြမ်းနှင့် ခုနစ်နှစ်ထိ ထောင်ဒဏ် ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ် နိုင်သည်။

**လုယက်မှုကို ကျူးလွန်ရာတွင် မိမိ အလို အလျောက် နာကျင်စေမှု။**

၃၉၄။ ။တဦးတယောက်သောသူသည် လုယက်မှုကို ကျူးလွန်ရာတွင် ဖြစ်စေ၊ ကျူးလွန်ရန် အားထုတ်ရာတွင် ဖြစ်စေတဦးတယောက်သောသူကို မိမိ အလို အလျောက် နာကျင်စေလျှင်၊ ထိုသို့ နာကျင် စေသူကိုငင်း၊အဆိုပါ၊ လုယက်မှုကိုကျူးလွန်ရာတွင်ဖြစ်စေ၊ ကျူးလွန်ရန် အားထုတ်ရာတွင်ဖြစ်စေ ထိုသူနှင့် ဖက်စပ်ပါဝင်သောသူတို့ကိုငင်း၊ တသက်တကျွန်းဒဏ်ဖြစ်စေ၊ အလုပ်ကြမ်းနှင့် ဆယ်နှစ်ထိ ထောင်ဒဏ်ဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**ဓါးပြမှုအတွက် ပြစ်ဒဏ်။**

၃၉၅။ ။မည်သူမဆို၊ ဓါးပြမှုကို ကျူးလွန်လျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ အလုပ်ကြမ်းနှင့် ဆယ်နှစ်ထိ ထောင်ဒဏ်ဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**လူသတ်မှုပါသော ဓါးပြမှု။**

၃၉၆။ ။ဓါးပြမှုကို ပူးပေါင်း ကျူးလွန်သောသူ ငါးဦး၊ သို့တည်းမဟုတ် ငါးဦးထက် ပိုသော သူများအနက် တဦးတယောက်သောသူသည် အဆိုပါ ဓါးပြမှု ကျူးလွန်ရာ၌ လူသတ်မှုကိုပါ ကျူးလွန်လျှင်၊ ထိုသူ အသီးသီးကို သေဒဏ်ဖြစ်စေ၊ တသက်တကျွန်း ဒဏ်ဖြစ်စေ၊ အလုပ်ကြမ်းနှင့် ဆယ်နှစ်ထိ ထောင်ဒဏ်ဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

၃၉၇။ ။လုယက်မှုကိုဖြစ်စေ၊ ဓါးပြမှုကိုဖြစ်စေ ကျူးလွန်သော အခါတွင် ပြစ်မှုကျူးလွန်သူသည် တဦးတယောက်သောသူကို အပြင်းအထန်နာကျင်စေလျှင်၊ သို့တည်းမဟုတ် တဦးတယောက်သောသူအားသေစေရန်သော်၎င်း၊ အပြင်းအထန် နာကျင်စေရန်သော်၎င်း အားထုတ်လျှင်၊ ထိုသူကို ချမှတ်သော ထောင်ဒဏ်သည် ခုနစ်နှစ်အောက် မလျော့စေရ။

သေစေရန် ဖြစ်စေ၊အပြင်းအထန်နာကျင်စေရန် ဖြစ်စေ အားထုတ်မှု ပါသော လုယက်မှု၊ သို့တည်းမဟုတ် ဓါးပြမှု။

၃၉၈။ ။ • • • •

၃၉၉။ ။မည်သူမဆို၊ ဓါးပြမှုကို ကျူးလွန်ရန် ပြင်ဆင်လျှင်၊ ထိုသူကို အလုပ်ကြမ်းနှင့် ဆယ်နှစ်ထိ ထောင်ဒဏ်ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ဓါးပြမှုကို ကျူးလွန်ရန်ပြင်ဆင်မှု။

၄၀၀။ ။မည်သူမဆို၊ ဓါးပြမှုကို အမြဲတစေ ကျူးလွန်ရန်အလို့ငှါ ဖွဲ့စည်းထားသော ဂိုဏ်းတခုခု၌ ပါဝင်သူဖြစ်လျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ အလုပ်ကြမ်းနှင့် ဆယ်နှစ်ထိ ထောင်ဒဏ်ဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ် နိုင်သည်။

ဓါးပြဂိုဏ်း၌ ပါဝင်သူအတွက် ပြစ်ဒဏ်။

၄၀၁။ ။လူသတ် ဓါးပြဂိုဏ်း၊ သို့တည်းမဟုတ် ဓါးပြဂိုဏ်းမဟုတ်သည့် ခိုးမှုကို၊ သို့တည်းမဟုတ် လုယက်မှုကို အမြဲတစေ ကျူးလွန်ရန်အလို့ငှါ ဖွဲ့စည်းထားသည့် လှည့်ပတ်သွားလာနေသော လူဆိုးဂိုဏ်း၌သော်၎င်း၊ အခြားလူဆိုးဂိုဏ်း၌သော်၎င်း ပါဝင်သူဖြစ်လျှင်၊ ထိုသူကို အလုပ်ကြမ်းနှင့် ခုနစ်နှစ်ထိ ထောင်ဒဏ် ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

သူခိုးဂိုဏ်း၌ ပါဝင်သူအတွက်ပြစ်ဒဏ်။

၄၀၂။ ။ဓါးပြမှု ကျူးလွန်ရန်အလို့ငှါ စုဝေးသော လူငါးဦး၊ သို့တည်းမဟုတ် ငါးဦးထက်ပိုသော သူများအနက် အပါအဝင် တဦးဖြစ်လျှင်၊ ထိုသူကို အလုပ်ကြမ်းနှင့် ခုနစ်နှစ်ထိ ထောင်ဒဏ် ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ဓါးပြမှုကျူးလွန်ရန် စုဝေးမှု။

**ရာဇဝတ်မကင်းသောပစ္စည်း အလွဲသုံးစားမှု။**

၄၀၃။ ။မည်သူမဆို၊ ရွှေ့ပြောင်းနိုင်သော ပစ္စည်းကို မရိုးမဖြောင့်သော သဘောဖြင့် အလွဲသုံးစားပြုလျှင်၊ သို့တည်းမဟုတ် မိမိ၏ ပစ္စည်းအဖြစ်ပြောင်းလွဲခြင်းပြုလျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ပစ္စည်းကို မရိုး မဖြောင့်သောသဘောဖြင့် အလွဲသုံးစားမှု။

**ဥပမာများ။**

(က) မောင်မပိုင် ပစ္စည်းကို မောင်ဖြူက မိမိပိုင်ပစ္စည်းဟု ယုံကြည်၍၊ မောင်မဲ၏ လက်ရှိမှ ထိုပစ္စည်းကို သဘောရိုးဖြင့်ယူ၏။ ထိုသို့ယူသဖြင့် မောင်ဖြူသည် ခိုးမှုမကျူးလွန်။ သို့ရာတွင် မောင်ဖြူသည် မိမိပစ္စည်းမဟုတ်ကြောင်း သိပြီးနောက်၊ ထိုပစ္စည်းကို မရိုးမဖြောင့်သောသဘောဖြင့် မိမိ၏ ပစ္စည်းအဖြစ်ဖြင့် အသုံးပြုလျှင်၊ ဤပုဒ်မအရ ပြစ်မှုကျူးလွန်သည်။

(ခ) မောင်ဖြူသည် မောင်မဲနှင့် မိတ်ဆွေဖြစ်သည့်အလျောက် မောင်မဲမရှိခိုက် မောင်မဲ၏ စာကြည့်တိုက်သို့သွား၍၊ မောင်မဲ၏အတည့်အလင်းသဘောတူချက် မရရှိဘဲ စာအုပ်တအုပ်ကိုယူသွား၏။ ဤတွင် မောင်ဖြူသည် မောင်မဲ၏ စာအုပ်ကို ဖတ်ရန် အလို့ငှါ ရယူခြင်းအတွက် မောင်မဲသဘောတူရာ ရောက်သည်ဟု ထင်မြင်လျှင်ခိုးမှုကို မကျူးလွန်။ သို့ရာတွင် မိမိအကျိုးအတွက် ထိုစာအုပ်ကို နောင်အခါတွင် ရောင်းစားလျှင်၊ မောင်ဖြူသည် ဤပုဒ်မအရ ပြစ်မှုကို ကျူးလွန်သည်။

(ဂ) မောင်ဖြူနှင့် မောင်နီတို့သည် မြင်းတကောင်ကို အတူပိုင်ကြ၏။ မောင်ဖြူသည် အသုံးပြုရန် အကြံနှင့် မောင်နီ၏ လက်ရှိမှ ထိုမြင်းကို ရယူ၏။ ဤတွင် မောင်ဖြူသည် ထိုမြင်းကို သုံးစွဲပိုင်ခွင့် ရှိသဖြင့် မရိုးမဖြောင့်သောသဘောဖြင့် အလွဲသုံးစားပြုသည်မမည်။ သို့ရာတွင် မောင်ဖြူသည် မြင်းကိုရောင်း၍၊ မိမိအသုံးပြုမှုအတွက် ရောင်းရငွေအားလုံးကို သုံးစားခြင်းပြုလျှင်၊ ဤပုဒ်မအရ ပြစ်မှုကျူးလွန်သည်။

**ရှင်းထင်းချက် ၁။** ။မရိုးမဖြောင့်သော သဘောဖြင့် ခဏမျှသာ အလွဲသုံးစားပြုခြင်းသည်လည်း ဤပုဒ်မအရ အလွဲသုံးစားပြုသည်မည်၏။

**ဥပမာ။**

မောင်ဖြူသည် ကန့်သတ်မဲ့ လက်မှတ်ထိုးချက်ပါသော မောင်မဲပိုင် အစိုးရငွေပေးကတိစာချုပ်ကို တွေ့၏။ ထိုငွေပေးကတိစာချုပ်ကို မောင်မဲပိုင်ကြောင်း သိလျက်နှင့်၊ နောက်အခါမှသာ မောင်မဲအား ပြန်ပေးမည်ကြံ၍ယုံ၍၊ ဘဏ်တိုက်စိုးတဦးထံ၌ ချေးငွေအတွက် အာမခံအဖြစ် ပေါင်နှံ၏။ မောင်ဖြူသည် ဤပုဒ်မအရ ပြစ်မှုကျူးလွန်သည်။

**ရှင်းထင်းချက် ၂။** ။တဦးတယောက်သောသူသည် အခြားသူ၏ လက်ရှိ မဟုတ်သော ပစ္စည်းတခုကိုတွေ့၏။ ထိုပစ္စည်းကို ပစ္စည်းရှင်အတွက် စောင့်ရှောက်ထားရန် အလို့ငှါဖြစ်စေ၊ ပစ္စည်းရှင်သို့ ပြန်ပေးရန် အလို့ငှါဖြစ်စေ ရယူထား၏။ ထိုသို့ ရယူထားခြင်းသည် မရိုးမဖြောင့်သောသဘောနှင့် ရယူထားခြင်းမဟုတ်သောကြောင့်၊ သို့တည်းမဟုတ် အလွဲသုံးစားပြုခြင်းမဟုတ်သောကြောင့် ပြစ်မှုကို ကျူးလွန်သည်မမည်။ သို့ရာတွင် ပစ္စည်းပိုင်ရှင်ကို သိလျက်နှင့် ဖြစ်စေ၊ ပစ္စည်းပိုင်ရှင်ကို ရှာဖွေတွေ့ရှိနိုင်လောက်သော နည်းလမ်းရှိလျက်နှင့် ဖြစ်စေ၊ ပစ္စည်းပိုင်ရှင်ကို တွေ့အောင်ရှာဖွေ အကြောင်းကြားရန် အကြောင်းလုံလောက်သော နည်းလမ်းကို သုံး၍ ပစ္စည်းကို ပိုင်ရှင်က တောင်းဆိုသာအောင် သင့်တော်သော အချိန်ကာလအထိ သိမ်းဆည်းထားခြင်းမပြုသေးမီဖြစ်စေ မိမိအသုံးပြုမှုအတွက် သုံးစွဲလျှင်၊ ထိုသူသည် အထက်တွင် ဖော်ပြထားသော ပြစ်မှုကို ကျူးလွန်သည်မည်၏။

ထိုကဲ့သို့သော အမှုမျိုးတွင်၊ အကြောင်းလုံလောက်သော နည်းလမ်းများ ဆိုသည်မှာ၊ သို့တည်းမဟုတ် သင့်တော်သော အချိန်ကာလ ဆိုသည်မှာ ကြောင်းချင်းရာ ပြဿနာဖြစ်သည်။

ပစ္စည်းပိုင်ရှင် မည်သူဖြစ်ကြောင်းကို၊ သို့တည်းမဟုတ် တဦးတယောက်သောသူသည် ပစ္စည်းပိုင်ရှင်ဖြစ်ကြောင်းကို ပစ္စည်းတွေ့သူက သိရမည်ဟူသော အချက်သည်မလို။ ပစ္စည်းကို သုံးစွဲအခါ၊ မိမိပိုင်ပစ္စည်းဖြစ်ကြောင်း မယုံလျှင်၊ သို့တည်းမဟုတ် ပစ္စည်းပိုင်ရှင် အစစ်ကို ရှာမတွေ့နိုင်ကြောင်း သဘောရိုးနှင့် ယုံလျှင် လုံလောက်သည်။

ဥပမာများ။

(က) မောင်ဖြူသည် မည်သူပိုင်ဖြစ်ကြောင်း မသိသော ငွေတကျပ်ကို လမ်းပေါ်တွင် တွေ့၍ ကောက်ယူ၏၊ မောင်ဖြူသည် ဤပုဒ်မတွင် ဖေါ်ပြထားသောပြစ်မှုကို ကျူးလွန်ရာ မရောက်။

(ခ) မောင်ဖြူသည် ဘဏ်ငွေလက်မှတ်ပါသော စာတစောင်ကို လမ်းပေါ်၌ ကောက်ရ၏။ စာတွင်ပါသောလိပ်စာနှင့် စာသားများကိုထောက်သဖြင့် မောင်ဖြူသည် ထိုဘဏ်ငွေလက်မှတ်ကို မည်သူပိုင်ဖြစ်ကြောင်းသိလျက်နှင့် သုံးစားလိုက်၏။ မောင်ဖြူသည် ဤပုဒ်မအရ ပြစ်မှုကို ကျူးလွန်သည်။

(ဂ) မောင်ဖြူသည် ဆောင်ယူလာသူအား ငွေပေးရန် ညွှန်ကြားချက်ပါသော ချက်လက်မှတ်တစောင်ကို ကောက်ရ၏။ ထိုချက်လက်မှတ်သည် မည်သူ့လက်က ပျောက်ဆုံးကြောင်းကို မောင်ဖြူသည် မှန်းဆ၍မသိနိုင်။ သို့ရာတွင် ထိုချက်လက်မှတ်ကို ထုတ်ပေးလိုက်သူ၏ အမည်သည် ချက်လက်မှတ်ပေါ်တွင် ပါရှိသဖြင့် ထိုချက်လက်မှတ် ထုတ်ပေးလိုက်သူက၊ ထိုချက်လက်မှတ်ကို မည်သူ့အား ထုတ်ပေးလိုက်ကြောင်း ညွှန်ပြနိုင်သည်ကို သိ၏။ ထိုသို့ သိပါလျက် မောင်ဖြူသည် ပိုင်ရှင်ကို အားထုတ်၍မရှာဘဲ ထိုချက်လက်မှတ်ကိုသုံးစားလျှင်၊ ဤပုဒ်မအရ ပြစ်မှုကိုကျူးလွန်သည်။

(ဃ) မောင်ဖြူသည် ငွေပါသော ငွေအိတ်တအိတ် မောင်မဲမှ ကျရစ်သည်ကိုမြင်၏။ ထိုငွေအိတ်ကို မောင်မဲသို့ပြန်ပေးရန် ကြံရွယ်ချက်နှင့်ကောက်ယူ၏။ သို့ရာတွင် နောင်အခါ၌ မောင်မဲသို့ ပြန်မပေးဘဲ မောင်ဖြူသည် ထိုငွေကို မိမိအသုံးပြုမှုအတွက် သုံးစား၏။ မောင်ဖြူသည် ဤပုဒ်မအရ ပြစ်မှုကိုကျူးလွန်သည်။

(င) မောင်ဖြူသည် ငွေပါသော ငွေအိတ်တအိတ်ကို ကောက်ရ၏။ မူလက မည်သူပိုင်ကြောင်း မသိသော်လည်း၊ နောင်အခါ မောင်မဲပိုင်ကြောင်းကိုသိရ၏။ မောင်ဖြူသည် ထိုငွေကို မိမိအသုံးပြုမှုအတွက် သုံးစား၏။ မောင်ဖြူသည် ဤပုဒ်မအရ ပြစ်မှုကိုကျူးလွန်သည်။

(စ) မောင်ဖြူသည် အဘိုးတန် လက်စွပ်တကွင်းကိုကောက်ရ၏။ ထိုလက်စွပ်ကိုမည်သူပိုင်ကြောင်း မောင်ဖြူမသိ။ ထိုလက်စွပ် ပိုင်ရှင်ကို ရှာဖွေရန်အားထုတ်ခြင်းကို မပြုဘဲ လက်ငှပ်ကိုချက်ခြင်း ရောင်းချလိုက်၏။ မောင်ဖြူသည် ဤပုဒ်မအရ ပြစ်မှုကိုကျူးလွန်သည်။

သေစဉ်ကကျန်ရစ်ခဲ့သည့် သေသူလက်ရှိပစ္စည်းကိုမရိုးမဖြောင့်သော သဘောဖြင့် အလွဲသုံးစားပြုမှု။

၄၀၄။ ။တဦးတယောက်သောသူ သေစဉ်က ကျန်ရစ်ခဲ့သော သေသူ၏ လက်ရှိပစ္စည်းဖြစ်ကြောင်းသိလျက်နှင့်ငင်း၊ ထိုပစ္စည်းသည် ဥပဒေနှင့်ညီစွာ လက်ရှိ ဖြစ်ပိုင်ခွင့်ရှိသူ တဦးတယောက်၏ လက်သို့မရောက်သေးကြောင်း သိသျက်နှင့်ငင်း မည်သူမဆို၊ ထိုပစ္စည်းကို မရိုးမဖြောင့်သော သဘောဖြင့် အလွဲသုံးစားပြုလျှင်၊သို့တည်းမဟုတ် မိမိ၏ပစ္စည်းအဖြစ် ပြောင်းလဲလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။ ထို့ပြင် ထိုပစ္စည်းရှင် သေဆုံးစဉ်အခါက၊ ပြစ်မှုကျူးလွန်သူသည် သေသူ၏စာရေးအဖြစ်၊ သို့တည်းမဟုတ် အစေခံအဖြစ် ခစားခံရသူဖြစ်လျှင်၊ ထိုသူကို ထောင်ဒဏ်ခုနစ်နှစ်ထိ တိုးမြှင့်ချမှတ်နိုင်သည်။

ဥပမာ။

အိမ်ထောင်ပရိဘောဂနှင့် ငွေလက်ရှိဖြစ်သူ မောင်မဲသေ၏။ ထိုငွေသည်လက်ရှိဖြစ်ပိုင်ခွင့်ရှိသူ၏ လက်သို့မရောက်မီ မောင်မဲ၏အစေခံ မောင်ဖြူသည် မရိုးမဖြောင့်သော သဘောဖြင့်

ထိုငွေကို အလွဲသုံးစားပြု၏။ မောင်ဖြူသည် ဤပုဒ်မ၌ ဖော်ပြထားသောပြစ်မှုကို ကျူးလွန်သည်။

## ရာဇဝတ်မကင်းသော ယုံကြည်အပ်နှံရေးဖေါက်ဖျက်မှု။

ရာဇဝတ်မကင်းသော ယုံကြည်အပ်နှံရေးဖေါက်ဖျက်မှု။

၄၀၅။ ။မည်သူမဆို၊ ပစ္စည်းကို၊သို့တည်းမဟုတ် ပစ္စည်းစီမံခန့်ခွဲပိုင်ခွင့်ကို တနည်းနည်းဖြင့် ယုံကြည်အပ်နှံခြင်း ခံရသည်တွင် ထိုပစ္စည်းကို မရိုးမဖြောင့်သော သဘောဖြင့် အလွဲသုံးစားပြုလျှင်၊ သို့တည်းမဟုတ် မိမိ၏ပစ္စည်းအဖြစ် ပြောင်းလွှဲလျှင်၊ သို့တည်းမဟုတ် ယုံကြည်အပ်နှံခြင်းခံရသည့်အတိုင်း ဆောင်ရွက်ရန် နည်းလမ်းကို ပြဋ္ဌာန်းသည့်ဥပဒေ ညွှန်ကြားချက်ကို ကျူးလွန်၍သော်၎င်း၊ ယုံကြည်အပ်နှံခြင်း ခံရသည့်အတိုင်း ဆောင်ရွက်ရန်ကိစ္စနှင့် စပ်လျဉ်း၍ အတည့်အလင်းဖြစ်စေ၊ သဘောသက်ရောက်စေခြင်းဖြင့်ဖြစ်စေ မိမိချုပ်ဆိုသော ဥပဒေနှင့်ညီသည့်ပဋိညာဉ်ကို ကျူးလွန်၍သော်၎င်း ထိုပစ္စည်းကို မရိုးမဖြောင့်သော သဘောဖြင့်သုံးစွဲခြင်းကို၊သို့တည်းမဟုတ် စီမံခန့်ခွဲခြင်းကိုပြုလျှင်၊ သို့တည်းမဟုတ် အခြားသူက ထိုသို့ပြုသည်ကို တမင်ခွင့်ပြုလျှင်၊ ထိုသူသည်ရာဇဝတ်မကင်းသော ယုံကြည်အပ်နှံရေး ဖေါက်ဖျက်မှုကို ကျူးလွန်သည်မည်၏။

### ဥပမာများ။

(က) မောင်ဖြူသည် သေသူတဦး၏ အမွေပစ္စည်းကို ထိန်းသိမ်းစီမံခန့်ခွဲရန်သေတမ်းစာဖြင့် လွှဲအပ်ခြင်းခံရသည်ဖြစ်၏။ သို့ရာတွင် အမွေပစ္စည်း အရပ်ရပ်ကို သေတမ်းစာအရ ခွဲဝေပေးရန် ညွှန်ကြားသည့်ဥပဒေကို မရိုးမဖြောင့်သော သဘောနှင့် ဖီဆန်၍၊ထိုပစ္စည်းအရပ်ရပ်ကို မိမိ၏ ပစ္စည်းအဖြစ်ဖြင့် သုံးစွဲလိုက်၏၊ မောင်ဖြူသည် ရာဇဝတ်မကင်းသော ယုံကြည်အပ်နှံရေး ဖေါက်ဖျက်မှုကို ကျူးလွန်သည်။

(ခ) မောင်ဖြူသည် ကုန်ရုံမှူးဖြစ်၏။ မောင်မဲသည် ခရီးထွက်သည့်အခါ၊ ကုန်ရုံမှူး မောင်ဖြူထံ၌ မိမိပြန်ရောက်သည့်အခါ သတ်မှတ်သော ကုန်ရုံအခန်းခကို ပေး၍ ပစ္စည်းပြန်ယူမည်ဟူသော ပဋိညာဉ်ကိုပြုပြီးလျှင်၊ မိမိ၏အိမ်ထောင်ပရိဘောဂကို အပ်နှံထား၏။ မောင်ဖြူသည် မရိုးမဖြောင့်သော သဘောဖြင့် အပ်နှံထားသော ထိုပစ္စည်းများကို ရောင်းချလိုက်၏။ ဤတွင် မောင်ဖြူသည် ရာဇဝတ်မကင်းသော ယုံကြည်အပ်နှံရေး ဖေါက်ဖျက်မှုကို ကျူးလွန်သည်။

(ဂ) ရန်ကုန်မြို့နေ မောင်ဖြူသည် မန္တလေးမြို့နေ မောင်မဲ၏ ကိုယ်စားလှယ်ဖြစ်၏။ မောင်မဲက မောင်ဖြူထံသို့ပို့သော ငွေအားလုံးကို မောင်မဲ၏ ညွှန်ကြားချက်အတိုင်း မောင်ဖြူက ရင်းနှီးရန် မောင်မဲနှင့်မောင်ဖြူတို့သည် အတည့်အလင်းဖြစ်စေ၊ သဘောသက်ရောက်စေခြင်းဖြင့်ဖြစ်စေ ပဋိညာဉ်ပြုထား၏။ မောင်မဲက အစိုးရငွေလက်မှတ်များကိုဝယ်ယူစေရန် ညွှန်ကြား၍ မောင်ဖြူထံသို့ ငွေတသိန်းပို့လိုက်၏။ မောင်ဖြူသည် မရိုးမဖြောင့်သော သဘောဖြင့် မောင်မဲညွှန်ကြားချက်ကို ဖီဆန်၍၊ ထိုငွေများကိုမိမိကိုယ်ပိုင်လုပ်ငန်း၌ သုံးစွဲ၏။ ဤတွင် မောင်ဖြူသည် ရာဇဝတ်မကင်းသော ယုံကြည်အပ်နှံရေး ဖေါက်ဖျက်မှုကို ကျူးလွန်သည်။

(ဃ) သို့သော်လည်း အထက်ပါ ဥပမာ (ဂ)၌ မောင်ဖြူသည်၊ အစုစပ်ဘဏ်၌ ရှယ်ယာများကို ဝယ်ယူခြင်းဖြင့် မောင်မဲမှာ ပို၍အကျိုးဖြစ်ထွန်းလိမ့်မည်ဟု ယုံကြည်၍၊ မရိုးမဖြောင့်သော သဘောနှင့် မဟုတ်ဘဲ ရိုးဖြောင့်သောသဘောဖြင့်မောင်မဲ၏ ညွှန်ကြားချက်ကို ဖီဆန်လျက် အစိုးရငွေလက်မှတ်များကို ဝယ်ယူမည့်အစား၊အစုစပ်ဘဏ်၌ရှယ်ယာများကို မောင်မဲအတွက် ဝယ်ယူလိုက်သည်တွင် မောင်မဲမှာဆုံးရှုံးခြင်းသို့ရောက်၍၊ထိုသို့ဆုံးရှုံးသည့်အတွက် မောင်မဲက မောင်ဖြူအပေါ်၌ တရားမကြောင်း တရားစွဲဆိုခွင့်ရှိသော်လည်း၊ မောင်ဖြူသည် မရိုးမဖြောင့်သော သဘောနှင့် ပြုလုပ်ခြင်းမဟုတ်သောကြောင့်၊ ရာဇဝတ်မကင်းသော ယုံကြည်အပ်နှံရေး ဖေါက်ဖျက်မှုကို ကျူးလွန်သည်မမည်။

(င) အခွန်တော်အရာရှိ ဦးဖြူထံတွင် အစိုးရငွေများကို အပ်နှံထား၏။ ဥပဒေအရဖြစ်စေ၊ အစိုးရနှင့် အတည့်အလင်းသော်၎င်း၊ သဘောသက်ရောက်စေခြင်းဖြင့်သော်၎င်း ပြုထားသည့် ပဋိညာဉ်အရဖြစ်စေ၊ မိမိထံတွင် အပ်နှံထားသော အစိုးရငွေကို အစိုးရငွေတိုက်သို့ ပေးသွင်းရန် ဦးဖြူ၌ တာဝန်ရှိ၏။ ဦးဖြူက ထိုငွေများကို မရိုးမဖြောင့်သော သဘောဖြင့် သုံးစားလိုက်၏။ ဦးဖြူသည် ရာဇဝတ်မကင်းသော ယုံကြည်အပ်နှံရေး ဖေါက်ဖျက်မှုကို ကျူးလွန်၏။

(စ) မောင်မဲသည် မိမိ၏ပစ္စည်းများကိုကုန်းကြောင်းခရီးဖြင့်သော်၎င်း၊ ရေကြောင်းခရီးဖြင့်သော်၎င်း သယ်ယူစေရန် သယ်ဆောင်သူ မောင်ဖြူထံ၌ အပ်နှံထားခဲ့၏။ ထိုပစ္စည်းများကို မောင်ဖြူက မရိုးမဖြောင့်သော သဘောဖြင့် အလွဲသုံးစားပြု၏။ မောင်ဖြူသည် ရာဇဝတ်မကင်းသော ယုံကြည်အပ်နှံရေး ဖေါက်ဖျက်မှုကို ကျူးလွန်၏။

၄၀၆။ ။မည်သူမဆို၊ ရာဇဝတ်မကင်းသော ယုံကြည်အပ်နှံရေးဖေါက်ဖျက်မှုကို ကျူးလွန်လျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ရာဇဝတ် မကင်းသော ယုံကြည် အပ်နှံရေး ဖေါက်ဖျက်မှုအတွက်ပြစ်ဒဏ်။

၄၀၇။ ။မည်သူမဆို၊ သယ်ဆောင်သူအဖြစ်ဖြင့်သော်၎င်း၊ ဆိပ်ခံတံတားပိုင်ရှင်အဖြစ်ဖြင့်သော်၎င်း၊ ဂိုဒေါင်ရုံမှူးအဖြစ်ဖြင့်သော်၎င်း ပစ္စည်းအပ်နှံခြင်းခံရသည်တွင်၊ ထိုပစ္စည်းနှင့် စပ်လျဉ်း၍ ရာဇဝတ်မကင်းသော ယုံကြည်အပ်နှံရေး ဖေါက်ဖျက်မှုကို ကျူးလွန်လျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

သယ်ဆောင်သူ စသည်တို့က ရာဇဝတ် မကင်းသော ယုံကြည် အပ်နှံရေး ဖေါက်ဖျက်မှုကို ကျူးလွန်ခြင်း။

၄၀၈။ ။မည်သူမဆို၊ စာရေးသော်၎င်း၊ အစေခံသော်၎င်းဖြစ်၍၊ သို့တည်းမဟုတ် စာရေးအဖြစ်ဖြင့်သော်၎င်း၊ အစေခံအဖြစ်ဖြင့်သော်၎င်း စေခိုင်းခြင်းခံရ၍၊ ထိုသို့သောအနေဖြင့်ပစ္စည်းကို၊သို့တည်းမဟုတ် ပစ္စည်းစီမံခန့်ခွဲပိုင်ခွင့်ကို တနည်းနည်းဖြင့် အပ်နှံခြင်း ခံရသည်တွင်၊ ထိုပစ္စည်းနှင့် စပ်လျဉ်း၍ ရာဇဝတ်မကင်းသော ယုံကြည်အပ်နှံရေး ဖေါက်ဖျက်မှုကို ကျူးလွန်လျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

စာရေးကဖြစ်စေ၊ အစေခံကဖြစ်စေ ရာဇဝတ် မကင်းသော ယုံကြည် အပ်နှံရေး ဖေါက်ဖျက်မှုကို ကျူးလွန်ခြင်း။

၄၀၉။ ။မည်သူမဆို၊ ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့်သော်၎င်း၊ ဘဏ်တိုက်စိုး၊ သို့တည်းမဟုတ် ကုန်သည်၊ သို့တည်းမဟုတ် အရောင်းအဝယ်ကိုယ်စားလှယ်၊ သို့တည်းမဟုတ် ပွဲစား၊ သို့တည်းမဟုတ် ကိုယ်စားလှယ်ပြုသူ၊ သို့တည်းမဟုတ် ကိုယ်စားလှယ်အလုပ်ကို လုပ်ကိုင်လျက်သော်၎င်း ပစ္စည်းကို၊ သို့တည်းမဟုတ် ပစ္စည်းစီမံခန့်ခွဲပိုင်ခွင့်ကို တနည်းနည်းဖြင့် အပ်နှံခြင်းခံရသည်တွင်၊ ထိုပစ္စည်းနှင့် စပ်လျဉ်း၍ ရာဇဝတ်မကောင်းသော ယုံကြည်အပ်နှံရေး ဖေါက်ဖျက်မှုကို ကျူးလွန်လျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ပြည်သူ့ ဝန်ထမ်းက ဖြစ်စေ၊ ဘဏ်တိုက်စိုးက ဖြစ်စေ၊ ကုန်သည်က ဖြစ်စေ၊ ကိုယ်စားလှယ်ကဖြစ်စေ ရာဇဝတ်မကောင်းသော ယုံကြည် အပ်နှံရေး ဖေါက်ဖျက်မှုကို ကျူးလွန်ခြင်း။

## ခိုးရာပါပစ္စည်း လက်ခံမှု။

၄၁၀။ ။ခိုးယူခြင်းဖြင့်သော်၎င်း၊ ချောက်လှန့် တောင်းယူခြင်းဖြင့်သော်၎င်း၊ လုယက်ခြင်းဖြင့်သော်၎င်း၊ လက်ပြောင်းသွားသော ပစ္စည်းသည်၊ ထို့ပြင် ရာဇဝတ်မကောင်းသော အလွဲသုံးစားမှုပြုခြင်းခံရသော၊ သို့တည်း မဟုတ် ရာဇဝတ်မကောင်းသော ယုံကြည်အပ်နှံရေး ဖေါက်ဖျက်မှု ကျူးလွန်ခြင်းခံရသောပစ္စည်း သည်၊ ထိုသို့လက်ပြောင်းခြင်းကို၊ သို့တည်းမဟုတ် အလွဲသုံးစားပြုခြင်းကို၊သို့တည်းမဟုတ် ယုံကြည်အပ်နှံရေးဖေါက်ဖျက်မှု ကျူးလွန်ခြင်းကို ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း၌ဖြစ်စေ၊ အပ၌ဖြစ်စေ ခံရသည်ဖြစ်လျှင် ခိုးရာပါပစ္စည်းမည်၏။ သို့ရာတွင် ထိုပစ္စည်းသည် ဥပဒေအရ လက်ရှိဖြစ်ထိုက်သူ၏လက်သို့ နောင်ပြန်လည်ရောက်ရှိသည့်အခါ၊ ခိုးရာပါပစ္စည်းအဖြစ်မှ ရပ်စဲ၏။

ခိုးရာပါပစ္စည်း။

၄၁၁။ ။မည်သူမဆို၊ ခိုးရာပါပစ္စည်းဖြစ်ကြောင်း သိလျက်နှင့်၊သို့တည်းမဟုတ် ထိုသို့ ယုံကြည်ရန် အကြောင်းရှိလျက်နှင့် ထိုပစ္စည်းကို မရိုးမဖြောင့်သော သဘောဖြင့် လက်ခံခြင်းသော်၎င်း၊ ဆက်လက်ထားရှိခြင်းသော်၎င်း ပြုလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ခိုးရာပါပစ္စည်းကို မရိုးမဖြောင့်သောသဘောနှင့်လက်ခံခြင်း။

၄၁၂။ ။မည်သူမဆို၊ ခိုးရာပါပစ္စည်းသည် ဓါးပြတိုက်မှုကျူးလွန်ခြင်းဖြင့် လက်ပြောင်း ခဲ့ကြောင်းကို သိလျက်နှင့်ဖြစ်စေ၊ ထိုသို့ယုံကြည်ရန် အကြောင်း ရှိလျက်နှင့်ဖြစ်စေ ထိုပစ္စည်းကို မရိုးမဖြောင့်သော သဘောဖြင့် လက်ခံခြင်းသော်၎င်း၊ ဆက်လက် ထားရှိခြင်းသော်၎င်း ပြုလျှင်၊ သို့တည်းမဟုတ် ဓါးပြဂိုဏ်းတွင် ပါဝင်သူ၊ သို့တည်းမဟုတ် ပါဝင် ခဲ့သူဖြစ်ကြောင်း မိမိသိသော၊ သို့တည်းမဟုတ် ထိုသို့ယုံကြည်ရန် အကြောင်းရှိသော သူထံမှ ခိုးရာပါပစ္စည်းဖြစ်ခဲ့ကြောင်း မိမိသိသော၊ သို့တည်းမဟုတ် ယုံကြည် ရန် အကြောင်းရှိသော ပစ္စည်းကို မရိုးမဖြောင့်သော သဘောနှင့် လက်ခံလျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိအလုပ်ကြမ်းနှင့်ထောင်ဒဏ်ဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ဓါးပြတိုက်မှု ကျူးလွန်ရာတွင် ရရှိသည့် ခိုးရာပါပစ္စည်းကို မရိုး မဖြောင့်သော သဘောဖြင့်လက်ခံခြင်း။

၄၁၃။ ။မည်သူမဆို၊ ခိုးရာပါပစ္စည်းမှန်း သိလျက်နှင့်ဖြစ်စေ၊ ထိုသို့ယုံကြည်ရန် အကြောင်းရှိလျက်နှင့်ဖြစ်စေ ထိုပစ္စည်းကိုအမြဲ တစေလက်ခံလျှင်၊ သို့တည်းမဟုတ် ရောင်းဝယ်ဆက်ဆံလျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ခိုးရာပါ ပစ္စည်းကို အမြဲတစေ ရောင်းဝယ် ဆက်ဆံခြင်း။

၄၁၄။ ။မည်သူမဆို၊ ခိုးရာပါ ပစ္စည်းမှန်း သိလျက်နှင့်သော်၎င်း၊ ထိုသို့ယုံကြည်ရန် အကြောင်း ရှိလျက်နှင့်သော်၎င်း ထိုပစ္စည်းကို ဝှက်သိမ်းရာတွင်၊ သို့တည်းမဟုတ် စီမံခန့်ခွဲရာတွင်၊ သို့တည်းမဟုတ် ဖျောက်ဖျက်ရာတွင် မိမိအလိုအလျောက် ကူညီလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ခိုးရာပါ ပစ္စည်းကို ဝှက်သိမ်းရာတွင် ကူညီခြင်း။

## လိမ်လည်မှု။

၄၁၅။ ။မည်သူမဆို၊ တဦးတယောက်သောသူအား လှည့်ဖြားခြင်းဖြင့် ထိုသို့လှည့်ဖြားခံရသောသူက သူတပါးအား ပစ္စည်းတခုခုကို ပေးအပ်စေရန်ဖြစ်စေ၊ သူတပါးထံတွင် ပစ္စည်းတခုခုကို ဆက်လက်ထားရှိသည်ကို သဘောတူစေရန်ဖြစ်စေ ထိုသို့လှည့်ဖြားခြင်းခံရသောသူအား လိမ်လည်လှည့်ဖြားလိုသော သဘောဖြင့်သော်၎င်း၊ မရိုးမဖြောင့်သော သဘောဖြင့်သော်၎င်း သွေးဆောင်လျှင်၊ သို့တည်းမဟုတ် တဦးတယောက်သောသူအား လှည့်ဖြားခြင်းဖြင့် ထိုသို့လှည့်ဖြားခြင်းခံရသောသူက အကယ်၍ လှည့်ဖြားခြင်းမခံရခဲ့သော် မိမိပြုမည်မဟုတ်သော၊ သို့တည်းမဟုတ် မိမိပျက်ကွက်မည်မဟုတ်သော အရာကို ပြုစေရန်သော်၎င်း၊ မပြုဘဲ ပျက်ကွက်စေရန်သော်၎င်း ထိုသို့လှည့်ဖြားခြင်းခံရသောသူအား တမင်သွေးဆောင်လျှင်၊ ထိုပြင် ထိုပြုလုပ်မှုက၊ သို့တည်းမဟုတ် ထိုပျက်ကွက်မှုက ထိုသူ၏ ကိုယ်ကိုဖြစ်စေ၊ စိတ်ကိုဖြစ်စေ၊ ဂုဏ်သရေကိုဖြစ်စေ၊ ပစ္စည်းကိုဖြစ်စေ ပျက်စီးနစ်နာစေခြင်းသော်၎င်း၊ အန္တရာယ်သော်၎င်း ဖြစ်စေလျှင်၊ သို့တည်းမဟုတ် ထိုသို့ဖြစ်စေတန်ရာလျှင်၊ ထိုသူသည် လိမ်လည်သည်မည်၏။

လိမ်လည်မှု။

**ရှင်းလင်းချက်။** ။မရိုးမဖြောင့်သော သဘောနှင့် ကြောင်းချင်းရာများကို ထိမ်ချန်ခြင်းသည် ဤပုဒ်မ၏ အဓိပ္ပါယ်အရ လှည့်ဖြားခြင်းမည်၏။

## ဥပမာများ။

(က) မောင်ဖြူသည် နိုင်ငံဝန်ထမ်း အဖွဲ့ဝင်မဟုတ်ဘဲ ဟုတ်မှန်ယောင်ဆောင်လျက် မောင်မဲကို တမင်လှည့်ဖြားပြီးလျှင်၊ ကုန်ဘိုးငွေကို ပေးချေရန် သဘောမထားဘဲ မိမိအား ကုန်အကြွေးပေးစေရန် မောင်မဲကို မရိုးမဖြောင့်သော သဘောနှင့် သွေးဆောင်၏။ ဤတွင် မောင်ဖြူသည် လိမ်လည်သည်မည်၏။

(ခ) မောင်ဖြူသည် တံဆိပ်အတုကို ပစ္စည်းတခုပေါ်၌ပြု၍၊ထိုပစ္စည်းကို ထင်ရှားသော ကုန်ထုတ်လုပ်သူက ပြုလုပ်ကြောင်း မောင်မဲယုံကြည်အောင် တမင်လှည့်ဖြားပြီးလျှင်၊မောင်မဲအား အဘိုးပေးဝယ်ယူစေရန် မရိုးမဖြောင့်သော သဘောနှင့် သွေးဆောင်၏။ ဤတွင် မောင်ဖြူသည် လိမ်လည်သည်မည်၏။

(ဂ) မောင်ဖြူသည် မောင်မဲအား ပစ္စည်းနှင့်မတူသော နမူနာကိုပြ၍၊ ပစ္စည်းသည် နမူနာအတိုင်းဖြစ်ကြောင်း မောင်မဲယုံကြည်အောင် တမင်လှည့်ဖြားပြီးလျှင်၊ မောင်မဲအား ပစ္စည်းကို အဘိုးပေးဝယ်ယူစေရန် မရိုးမဖြောင့်သောသဘောနှင့် သွေးဆောင်၏။ ဤတွင် မောင်ဖြူသည် လိမ်လည်သည်မည်၏။

(ဃ) မောင်ဖြူသည် အစုစပ် လုပ်ငန်းတွင် ငွေအပ်နှံထားခြင်းမရှိ၊ ထိုကြောင့် ထိုလုပ်ငန်းက မိမိ၏ ငွေလွှဲလက်မှတ်ကို ပယ်မည် ဖြစ်ကြောင်းသိထား၏။ ထိုသို့ သိထားပြီးလျက်နှင့် ပစ္စည်းတခုအတွက် ငွေပေးချေရန် အဆိုပါအစုစပ်လုပ်ငန်း၌ ငွေထုတ်ယူရမည့်ငွေလွှဲလက်မှတ်ကိုမောင်မဲအား ပေးခြင်းဖြင့် မောင်မဲကို တမင်လှည့်ဖြားပြီးလျှင်၊ ထိုပစ္စည်း၏ တန်ဘိုးကို ပေးရန် မကြံရွယ်ဘဲ မောင်မဲက မိမိအား ထိုပစ္စည်းကို ပေးအပ်စေရန် မောင်မဲအား မရိုးမဖြောင့်သော သဘောဖြင့် သွေးဆောင်၏။ ဤတွင် မောင်ဖြူသည် လိမ်လည်သည် မည်၏။

(င) မောင်ဖြူသည် ပစ္စည်းတခုကို စိန်မဟုတ်ကြောင်း သိလျက်နှင့် ထိုပစ္စည်းကို စိန်ထည် အဖြစ်ဖြင့် ပေါင်နှံကာ မောင်မဲအား တမင် လှည့်ဖြားပြီးလျှင်၊ မောင်မဲက မိမိအား ငွေချေး စေရန် မောင်မဲကို မရိုးမဖြောင့် သော သဘောနှင့် သွေးဆောင်၏။ ဤတွင် မောင်ဖြူသည် လိမ်လည်သည် မည်၏။

(စ) မောင်ဖြူသည် ချေးယူသည့်ငွေကို ပြန်ဆပ်ရန် ကြံရွယ်ခြင်း မရှိဘဲ မောင်မဲထံမှ ချေးယူသည့် ငွေများကို ပြန်ဆပ်မည် ဖြစ်ကြောင်း ယုံကြည်အောင် ပြု၍၊ မောင်မဲကို တမင်လှည့်ဖြားပြီးလျှင်၊ မောင်မဲက မိမိအား ငွေထုတ်ချေးရန် မောင်မဲအား မရိုးမဖြောင့်သော သဘောနှင့် သွေးဆောင်၏။ ဤတွင် မောင်ဖြူသည် လိမ်လည်သည် မည်၏။

(ဆ) မောင်ဖြူသည် မဲနယ်ပင် ပေးအပ်ရန် ကြံရွယ်ခြင်း မရှိဘဲ မောင်မဲအား မဲနယ်ပင် များ ပေးမည်ဖြစ်ကြောင်းယုံကြည်အောင်တမင်လှည့်ဖြား၏။ ထိုသို့ လှည့်ဖြားခြင်းကို မောင်မဲ သည် ယုံကြည်ရာ၊ မောင်ဖြူသည် မောင်မဲက မိမိအား ငွေထုတ်ပေးစေရန် မောင်မဲကို မရိုးမဖြောင့် သော သဘောနှင့် သွေးဆောင်၏။ ဤတွင် မောင်ဖြူသည် လိမ်လည်သည် မည်၏။ သို့ရာတွင် မောင်ဖြူသည် ငွေကိုရစဉ် အခါက မဲနယ်ပင်များကို ပေးအပ်ရန် ကြံရွယ်ခြင်းရှိ၍၊ နောင်အခါမှာမှ ပဋိညာဉ်ကို ဖေါက်ဖျက်ကာ မပေးအပ်ဘဲ နေလျှင် မောင်ဖြူသည် လိမ်လည်ရာ မရောက်။ ပဋိညာဉ် ဖေါက်ဖျက်သည့် အတွက် တရားမ ကြောင်းစွဲဆိုခြင်းကိုသာလျှင် ခံထိုက်သည်။

(ဇ) မောင်ဖြူသည် မောင်မဲနှင့် ပြုလုပ်ထားသည့် ပဋိညာဉ်တွင် မိမိဆောင်ရွက်ရန် ဖြစ်သော အမှုကိစ္စကို မဆောင်ရွက်ဘဲလျက်၊ ဆောင်ရွက် ပြီးစီးကြောင်း ယုံကြည်အောင် တမင်လှည့်ဖြား၍ မိမိအား မောင်မဲက ငွေပေးစေရန် မောင်မဲကို မရိုးမဖြောင့် သော သဘော နှင့် သွေးဆောင်၏။ ဤတွင် မောင်ဖြူသည် လိမ်လည်သည် မည်၏။

(ဈ) မောင်ဖြူသည် မြေနေရာတခုကို မောင်နီအား ရောင်းချ၍ လွှဲပြောင်းပေး၏။ ထိုသို့ ရောင်းချပြီးဖြစ်သဖြင့် ထိုမြေနေရာနှင့် စပ်လျဉ်း၍ မိမိ၌ ပိုင်ဆိုင်ခွင့် မရှိကြောင်း သိလျက်နှင့် မောင်ဖြူသည် ထိုသို့ ရောင်းချ လွှဲပြောင်းပေးပြီး ဖြစ်ကြောင်းကို ထုတ်ဖေါ်ပြောဆိုခြင်း မပြုဘဲ ထိုမြေနေရာကို မောင်မဲအား ရောင်းချခြင်းကိုသော်၎င်း၊ ပေါင်နှံခြင်းကိုသော်၎င်း ပြု၍ မောင်မဲထံမှ ရောင်းရငွေကို၊ သို့တည်းမဟုတ် အပေါင်ငွေကို လက်ခံ၏။ ဤတွင် မောင်ဖြူသည် လိမ်လည်သည် မည်၏။

၄၁၆။ ။လူတဦးတယောက်သည် သူတပါးယောင်ဆောင်၍ သော်၎င်း၊ သိလျက်နှင့်လူစားသွင်း၍သော်၎င်း၊ မိမိသည် သူတပါးဖြစ်ကြောင်း၊ သို့တည်းမဟုတ် တဦးတယောက်သောသူသည် ထိုသူအစစ်အမှန်မဟုတ်သော အခြားသူဖြစ်ကြောင်း ပြောဆို၍သော်၎င်း လိမ်လည်လျှင်၊ ထိုသူသည် သူတပါးအယောင်ဆောင်၍ လိမ်လည်သည်မည်၏။

သူတပါးအယောင်ဆောင်၍လိမ်လည်ခြင်း။

ရှင်းလင်းချက်။ ။အယောင်ဆောင်ခြင်း ခံရသူသည် တကယ်ရှိသည်ဖြစ်စေ၊ စိတ်ကူး၍သာ ရှိသည်ဖြစ်စေ အယောင်ဆောင်သူမှာ ဤပြစ်မှုကို ကျူးလွန်ရာရောက်သည်။

## ဥပမာများ။

(က) မောင်ဖြူသည် မိမိနှင့် အမည်တူလူချမ်းသာ ဘဏ်တိုက်စိုး ဟန်ဆောင်၍ လိမ်လည်၏။ ဤတွင် မောင်ဖြူသည် သူတပါးယောင်ဆောင်၍ လိမ်လည်သည် မည်၏။

(ခ) မောင်ဖြူသည် သေဆုံးသွားသူ မောင်မဲဟန်ဆောင်၍ လိမ်လည်၏။ ဤတွင် မောင်ဖြူသည် သူတပါးယောင်ဆောင်၍ လိမ်လည်သည်မည်၏။

၄၁၇။ ။မည်သူမဆို၊ လိမ်လည်မှု ကျူးလွန်လျှင်၊ ထိုသူကို တနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးကိုဖြစ်စေ ချမှတ်ရမည်။

လိမ်လည်မှုအတွက်ပြစ်ဒဏ်။

၄၁၈။ ။မည်သူမဆို၊ လိမ်လည်မှုကျူးလွန်ရာ၌ ထိုသို့ကျူးလွန်ခြင်းနှင့် သက်ဆိုင်သောကိစ္စတခုတွင် တဦးတယောက်၏ အကျိုးကို ဥပဒေအရဖြစ်စေ၊ ဥပဒေနှင့်အညီပြုသည့်ပဋိညာဉ်အရဖြစ်စေ ကာကွယ်စောင့်ရှောက်ရန်တာဝန်ရှိသော်လည်း၊ ထိုသူအား မတရားသဖြင့် ဆုံးရှုံးခြင်းဖြစ်စေတန်ရာသည်ကိုသိလျက်နှင့် လိမ်လည်လျှင်၊ ထိုသူကို သုံးနှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

ပြစ်မှု ကျူးလွန် သူသည် မိမိက ကာကွယ် စောင့်ရှောက်ရန် တာဝန်ရှိသူအား မတရားသဖြင့် ဆုံးရှုံးခြင်းဖြစ်စေမည်ကို သိလျက်နှင့်လိမ်လည်ခြင်း။

၄၁၉။ ။မည်သူမဆို၊ သူတပါးယောင်ဆောင်၍ လိမ်လည်လျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

သူတပါး ယောင်ဆောင်၍ လိမ်လည်မှုအတွက် ပြစ်ဒဏ်။

၄၂၀။ ။မည်သူမဆို၊ လှည့်ဖြားခြင်းခံရသောသူအား တခုခုသောပစ္စည်းကို သူတဦးတယောက်သို့ ပေးအပ်စေရန်သော်၎င်း၊ အဘိုးတန်စာတမ်း အမှတ်အသား အားလုံးကို၊ သို့တည်းမဟုတ် တစိတ်တဒေသကိုဖြစ်စေ၊ လက်မှတ်ရေးထိုးခြင်းသော်၎င်း၊ တံဆိပ်ခတ်နှိပ်ခြင်းသော်၎င်း ရှိသည်လည်းဖြစ်၍၊ အဘိုးတန် စာတမ်း အမှတ်အသားအဖြစ်သို့ ပြောင်းလဲ နိုင်သည်လည်းဖြစ်သော အရာအားလုံးကို၊ သို့တည်းမဟုတ် တစိတ်တဒေသကိုဖြစ်စေ ပြုစေရန်၊ သို့တည်းမဟုတ် ပြင်ဆင်စေရန်၊ သို့တည်းမဟုတ် ဖျက်ဆီးစေရန်သော်၎င်း ထိုလှည့်ဖြားခြင်းခံရသူအား လိမ်လည်၍ မရိုးမဖြောင့်သောသဘောနှင့်

ပစ္စည်းကို ပေးအပ် စေရန် လိမ်လည်၍မရိုးမဖြောင့်သော သဘောနှင့်သွေးဆောင်ခြင်း။

ဒေသွးဆောင်လျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

## စာချုပ်စာတမ်းကို လိမ်လည်လှည့်ဖြား ချုပ်ဆိုခြင်းနှင့် ပစ္စည်းကို လိမ်လည်လှည့်ဖြား စီမံခန့်ခွဲခြင်း။

မြီရှင်တို့ ဝေငှခွဲယူခြင်းကို တားဆီးရန် ပစ္စည်းကို မရိုးမဖြောင့်သော သဘောနှင့် ဖြစ်စေ၊ လိမ်လည် လှည့်ဖြားလုသည့် သဘောနှင့် ဖြစ်စေ ဖယ်ရှားခြင်း၊ သို့တည်း မဟုတ် ဝှက်သိမ်းခြင်း။

၄၂၁။ ။မည်သူမဆို၊ မိမိ၏မြီရှင်တို့၊ သို့တည်းမဟုတ် အခြားသူ တဦးတယောက်၏မြီရှင်တို့ ဥပဒေအရ ပစ္စည်း ဝေငှခွဲယူခြင်းကို တားဆီးရန် ကြံရွယ်၍သော်ငြား၊ ထိုသို့ ဝေငှခွဲယူခြင်းကို မိမိက တားဆီးခြင်း ပြုကန်ရာသည်ဟု သိလျက်နှင့်သော်ငြား ပစ္စည်းတခုခုကို မရိုးမဖြောင့်သောသဘောနှင့် ဖြစ်စေ၊ လိမ်လည်လှည့်ဖြားလိုသော သဘောနှင့်ဖြစ်စေ ဖယ်ရှားခြင်း၊သို့တည်းမဟုတ် ဝှက်သိမ်းခြင်း၊ သို့တည်းမဟုတ် သူတပါးလက်သို့ ပေးအပ်ခြင်းပြုလျှင်၊ သို့တည်း မဟုတ် လုံလောက်သည့် အဘိုးစားနားမရှိဘဲ ထိုပစ္စည်းကို သူတပါးအား လွှဲပြောင်းလျှင်၊ သို့တည်းမဟုတ် လွှဲပြောင်းစေလျှင် ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

မြီရှင်များ ရရှိနိုင်သော အကြွေးပေး ဆပ်ခြင်းကို မရိုးမဖြောင့်သော သဘောနှင့် ဖြစ်စေ၊ လိမ်လည် လှည့်ဖြားလိုသော သဘောနှင့် ဖြစ်စေ တားဆီးခြင်း။

၄၂၂။ ။မည်သူမဆို၊ မိမိသို့ဖြစ်စေ၊ အခြားသူ တဦးတယောက်သို့ဖြစ်စေ၊ ပေးဆပ်ရန်ရှိသည့် ကြွေးကိုသော်ငြား၊ မိမိကဖြစ်စေ၊ အခြားသူ တဦးတယောက်ကဖြစ်စေ ရရန်ရှိသောရထိုက်ခွင့်ကိုသော်ငြား ဥပဒေအရ ပေးဆပ်နိုင်ခြင်းကို မရိုးမဖြောင့်သော သဘောနှင့်ဖြစ်စေ၊ လိမ်လည်လှည့်ဖြားလိုသော သဘောနှင့်ဖြစ်စေ တားဆီးလျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အဘိုး စားနားကို မဟုတ်မမှန် ဖော်ပြခြင်း ပါရှိသော အပြောင်းအလွှဲ စာချုပ် စာတမ်းကို မရိုး မဖြောင့်သော သဘောနှင့် ဖြစ်စေ၊ လိမ်လည် လှည့်ဖြား လိုသည့် သဘောနှင့် ဖြစ်စေ ချုပ်ဆိုခြင်း။

၄၂၃။ ။မည်သူမဆို၊ ပစ္စည်းကိုဖြစ်စေ၊ တင်ထားသောတာဝန်နှင့်တကွ ပစ္စည်းကိုဖြစ်စေ၊ ထိုပစ္စည်း၌ရှိသော အကျိုးခံစားခွင့်ကိုဖြစ်စေ လွှဲပြောင်းရာ ရောက်သည်လည်းဖြစ်၍၊ ထိုလွှဲပြောင်းခြင်းအတွက် ဖြစ်စေ၊ ထိုသို့တာဝန် ထားရှိခြင်းအတွက်ဖြစ်စေ အဘိုးစားနားနှင့် စပ်လျဉ်းသော မဟုတ်မမှန် ဖော်ပြခြင်း၊ သို့တည်းမဟုတ် အသုံးပြုမှုအတွက်ဖြစ်စေ၊ အကျိုးကျေးဇူးအတွက်ဖြစ်စေ စာချုပ်စာတမ်းအတိုင်းဖြစ်မြောက်စေရန်အကယ်ရည်ရွယ်ခြင်းခံရသောသူတဦးနှင့်သော်ငြား၊ အမျိုးနှင့်သော်ငြား စပ်လျဉ်းသော မဟုတ်မမှန် ဖော်ပြခြင်းပါရှိသည်လည်းဖြစ်သည့် စာချုပ်စာတမ်းကို မရိုးမဖြောင့်သော သဘောနှင့်ဖြစ်စေ၊ လိမ်လည်လှည့်ဖြားလိုသော သဘောနှင့်ဖြစ်စေ လက်မှတ်ရေးထိုးလျှင်၊ သို့တည်းမဟုတ် ချုပ်ဆိုလျှင်၊ သို့တည်းမဟုတ် ထိုစာချုပ်စာတမ်း၌ အပါအဝင် ပြုလုပ်လျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

၄၂၄။ ။မည်သူမဆို၊ မိမိကိုယ်ပိုင်၊ သို့တည်းမဟုတ် အခြားသူ တဦးတယောက်ပိုင် ပစ္စည်းကိုမရိုးမဖြောင့်သော သဘောနှင့်သော်၎င်း၊ လိမ်လည်လှည့်ဖြားလိုသည့် သဘောနှင့်သော်၎င်း ဝှက်သိမ်းခြင်း၊ သို့တည်းမဟုတ် ဖယ်ရှားခြင်းပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့ ဝှက်သိမ်းရာတွင်ဖြစ်စေ၊ ဖယ်ရှားရာတွင်ဖြစ်စေ မရိုးမဖြောင့်သော သဘောနှင့်သော်၎င်း၊ လိမ်လည်လှည့်ဖြားလိုသည့် သဘောနှင့်သော်၎င်း **ကူညီလျှင်**၊ သို့တည်းမဟုတ် မိမိရသင့် ရထိုက်သော **ရထိုက်ခွင့်ကို မရိုးမဖြောင့်**သောသဘောနှင့် စွန့်လွှတ်လျှင်၊ ထိုသူကို**နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ**၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

မရိုး မဖြောင့်သော သဘောနှင့် ဖြစ်စေ၊ လိမ်လည်လှည့်ဖြား လိုသော သဘောနှင့် ဖြစ်စေ ပစ္စည်းကိုဖယ်ရှားခြင်း၊ သို့တည်း မဟုတ် ဝှက်သိမ်းခြင်း။

## အကျိုးဖျက်ဆီးမှု။

၄၂၅။ ။မည်သူမဆို၊ အများပြည်သူကိုဖြစ်စေ၊ လူတဦး တယောက်ကို ဖြစ်စေ မတရား သဖြင့် ဆုံးရှုံးခြင်း၊ သို့တည်းမဟုတ် ပျက်စီး နစ်နာခြင်း ဖြစ်စေရန်အကြံနှင့်သော်၎င်း၊ ထိုသို့ဆုံးရှုံးခြင်း၊ သို့တည်းမဟုတ် ပျက်စီးနစ်နာခြင်း ဖြစ်စေတန်ရာသည်ကို သိလျက်နှင့်သော်၎င်း ပစ္စည်းတခုခုကိုဖျက်ဆီးလျှင်၊ သို့တည်းမဟုတ် ပစ္စည်း၏ တန်ဘိုးဖြစ်စေ၊ အသုံးဝင်မှုဖြစ်စေ ပျက်စီးအောင်၊ သို့တည်းမဟုတ် ယုတ်လျော့အောင်၊ သို့တည်းမဟုတ် နစ်နာလောက်အောင် ထိုပစ္စည်း၌၊ သို့တည်းမဟုတ် ထိုပစ္စည်း၏ အနေအထား၌ ပြောင်းလဲခြင်းကို ဖြစ်စေလျှင်၊ ထိုသူသည် "အကျိုး ဖျက်ဆီးမှု" ကို ကျူးလွန်သည်မည်၏။

အကျိုးဖျက်ဆီးမှု။

ရှင်းလင်းချက် ၁။ ။ပြစ်မှုကျူးလွန်သူက၊ နစ်နာခြင်း၊ သို့တည်းမဟုတ် ဖျက်ဆီးခြင်း ခံရသည့် ပစ္စည်းရှင်အား ဆုံးရှုံးခြင်းသို့၊ သို့တည်းမဟုတ် ပျက်စီးနစ်နာခြင်းသို့ ရောက်အောင် ကြံရွယ်ရမည်ဟူသော အချက်သည် အကျိုးဖျက်ဆီးမှုတွင် လိုရင်းမဟုတ်။ ပစ္စည်းတခုခုသည် တဦးတယောက်သောသူ ပိုင်သည်ဖြစ်စေ၊ မပိုင်သည်ဖြစ်စေ ထိုပစ္စည်းကို နစ်နာစေခြင်းဖြင့် ထိုသူကို မတရားသဖြင့် ဆုံးရှုံးခြင်း၊ သို့တည်းမဟုတ် ပျက်စီး နစ်နာခြင်းဖြစ်စေရန် ကြံရွယ်လျှင်၊ သို့တည်းမဟုတ် ထိုသို့ ဖြစ်စေတန်ရာသည်ကိုသိလျှင်၊ ထိုသို့ကြံရွယ်ခြင်းသည်၊ သို့တည်းမဟုတ် ထိုသို့သိခြင်းသည် လုံလောက်သောအကြောင်းဖြစ်သည်။

ရှင်းလင်းချက် ၂။ ။ပစ္စည်းကို ထိခိုက်သော ပြုလုပ်မှုကို ကျူးလွန်သူသည် မိမိပိုင်ဆိုင်သည့် ပစ္စည်းကိုသော်၎င်း၊ အခြားသူများနှင့် တွဲဖက်ပိုင်ဆိုင်သည့်ပစ္စည်းကိုသော်၎င်း ထိခိုက်သော ပြုလုပ်မှုကို ကျူးလွန်လျှင်၊ အကျိုးဖျက်ဆီးမှုကို ကျူးလွန်ရာရောက်နိုင်သည်။

### ဥပမာများ။

(က) မောင်ဖြူသည် မောင်မဲကို မတရားသဖြင့် ဆုံးရှုံးစေရန်ကြံရွယ်၍၊ မောင်မဲပိုင်သော အဘိုးတန် စာတမ်း အမှတ်အသားကို မိမိအလိုအလျောက် မီးရှို့လိုက်၏။ မောင်ဖြူသည် အကျိုးဖျက်ဆီးမှုကို ကျူးလွန်သည်မည်၏။

(ခ) မောင်ဖြူသည် မောင်မဲကို မတရားသဖြင့် ဆုံးရှုံးစေရန် ကြံရွယ်၍၊ မောင်မဲပိုင် ရေခဲသိုလှောင်သည့်အိမ်တွင်းသို့ ရေများကို ဝင်ရောက်စေ၍၊ ရေခဲကိုပျော်စေ၏။ မောင်ဖြူသည် အကျိုးဖျက်ဆီးမှုကို ကျူးလွန်သည်မည်၏။

(ဂ) မောင်ဖြူသည် မောင်မဲကို မတရားသဖြင့် ဆုံးရှုံးစေရန် ကြံရွယ်၍၊ မောင်မဲပိုင် လက်စွပ်တကွင်းကို မိမိအလိုအလျောက် မြစ်ထဲသို့ ပစ်ချလိုက်၏။ မောင်ဖြူသည် အကျိုးဖျက်ဆီးမှုကို ကျူးလွန်သည်မည်၏။

(ဃ) မောင်မဲသို့ ပေးဆပ်ရမည့် ကြွေးမြီကို ပေးဆပ်စေရန် မိမိပိုင် ပစ္စည်းများကို ဇာရီပြုခြင်းခံရတော့မည်ကိုသိလျက်နှင့် မောင်ဖြူသည် ထိုကြွေးမြီများကို မောင်မဲမရရှိအောင် တားဆီးရန်အကြံဖြင့်၎င်း၊ မောင်မဲ ပျက်စီးနစ်နာစေရန် အကြံဖြင့်၎င်း ထိုပစ္စည်းများကို ဖျက်ဆီး၏။ မောင်ဖြူသည် အကျိုးဖျက်ဆီးမှုကို ကျူးလွန်သည်မည်၏။

(င) မောင်ဖြူသည် သင်္ဘောအာမခံသူတို့၏ အကျိုးကို ပျက်စီးစေရန် အကြံဖြင့် မိမိ အာမခံ ချုပ်ဆိုထားသော သင်္ဘောတစင်းကို မိမိအလိုအလျောက် လွှင့်ပါးပျက်စီးစေ၏။ မောင်ဖြူသည် အကျိုး ဖျက်ဆီးမှုကို ကျူးလွန်သည်မည်၏။

(စ) မောင်ဖြူသည် သင်္ဘောကို အပေါင်ထား၍ ငွေထုတ်ချေးသော မောင်မဲ၏ အကျိုးပျက်စီးစေရန် အကြံဖြင့်၊ ထိုအပေါင်ဝင်သင်္ဘောကို လွှင့်ပါး ပျက်စီးစေ၏။ မောင်ဖြူသည် အကျိုးဖျက်ဆီးမှုကို ကျူးလွန်သည်မည်၏။

(ဆ) မောင်ဖြူသည် မောင်မဲကို မတရားသဖြင့် ဆုံးရှုံးစေရန် ကြံရွယ်၍၊ မိမိတို့နှစ်ဦး ဖက်စပ် ပိုင်ဆိုင်သည့် မြင်းကို သေနတ်နှင့်ပစ်၏။ မောင်ဖြူသည် အကျိုး ဖျက်ဆီးမှုကို ကျူးလွန်သည်မည်၏။

(ဇ) မောင်ဖြူသည် မောင်မဲ၏ အသီးအနှံများကို ပျက်စီးစေရန် ကြံရွယ်၍၎င်း၊ ထိုသို့ပျက်စီးစေတန်ရာသည်ကို သိလျက်နှင့်၎င်း မောင်မဲပိုင်လယ်ထဲသို့ ကျွဲနွားများကို ဝင်ရောက်စေ၏။ မောင်ဖြူသည် အကျိုးဖျက်ဆီးမှုကို ကျူးလွန်သည်မည်၏။

**အကျိုးဖျက်ဆီးမှု အတွက် ပြစ်ဒဏ်။**

၄၂၆။ ။မည်သူမဆို၊ အကျိုးဖျက်ဆီးမှုကို ကျူးလွန်လျှင်၊ ထိုသူကို သုံးလထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**အဘိုးငွေ ငါးဆယ်ကျပ် အောက် မနည်း ပျက်စီးနစ်နာစေသော အကျိုး ဖျက်ဆီးမှု။**

၄၂၇။ ။မည်သူမဆို၊ အကျိုးဖျက်ဆီးမှုကို ကျူးလွန်၍ ထိုသို့ကျူးလွန်ခြင်းဖြင့် အဘိုးငွေ ငါးဆယ်ကျပ်အောက်မနည်း ဆုံးရှုံးစေလျှင်၊ သို့တည်းမဟုတ် ပျက်စီးနစ်နာစေလျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**အဘိုးငွေ တဆယ်ကျပ် အောက် မနည်း တန်ဘိုးရှိသော တိရစ္ဆာန်ကို သတ်ဖြတ်ခြင်းဖြင့် သော်၎င်း၊ အင်္ဂါ ပျက်ယွင်းစေခြင်းဖြင့် သော်၎င်း အကျိုးဖျက်ဆီးမှု။**

၄၂၈။ ။မည်သူမဆို၊ အဘိုးငွေ တဆယ်ကျပ်အောက်မနည်း တန်ဘိုးရှိသည့် တိရစ္ဆာန် တကောင်ကို၊ သို့တည်းမဟုတ် အများကို သတ်ခြင်းဖြင့်သော်၎င်း၊ အဆိပ်ခတ်ခြင်း ဖြင့်သော်၎င်း၊ အင်္ဂါပျက်ယွင်းစေခြင်း ဖြင့်သော်၎င်း၊ အသုံးမဝင်အောင် ပြုခြင်းဖြင့်သော်၎င်း အကျိုးဖျက်ဆီးမှုကို ကျူးလွန်လျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

**အဘိုး မည်မျှ ထိုက်တန်စေကာမူ ကျွဲ နွား တိရစ္ဆာန်စသည် တို့ကိုသော်၎င်း၊ ငါးဆယ်ကျပ်အောက် မနည်းတန်ဘိုးရှိသော တိရစ္ဆာန်ကို သော်၎င်း သတ်ခြင်းဖြင့်၊ သို့တည်းမဟုတ် အင်္ဂါပျက်ယွင်းစေခြင်းဖြင့် အကျိုး ဖျက်ဆီးမှု။**

၄၂၉။ ။မည်သူမဆို၊ အဘိုးမည်မျှ ထိုက်တန်စေကာမူ၊ ဆင်ကိုသော်၎င်း၊ ကုလားအုပ်ကိုသော်၎င်း၊ မြင်းကိုသော်၎င်း၊ လားကိုသော်၎င်း၊ ကျွဲကိုသော်၎င်း၊ နွားသိုးကိုသော်၎င်း၊ နွားမကိုသော်၎င်း၊ နွားထီးကိုသော်၎င်း၊ ငွေငါးဆယ်ကျပ်အောက် မနည်း တန်ဘိုးရှိသောအခြား တိရစ္ဆာန် ကိုသော်၎င်း သတ်ခြင်းဖြင့် ဖြစ်စေ၊ အဆိပ်ခတ်ခြင်းဖြင့် ဖြစ်စေ၊ အင်္ဂါ ပျက်ယွင်းစေခြင်းဖြင့်ဖြစ်စေ၊ အသုံးမဝင်အောင် ပြုခြင်းဖြင့်ဖြစ်စေအကျိုးဖျက်ဆီးမှုကိုကျူးလွန်လျှင်၊ ထိုသူကို ငါးနှစ်ထိ ထောင်ဒဏ် တမျိုးမျိုးသော်၎င်း၊ ငွေဒဏ်သော်၎င်း၊ ဒဏ်နှစ်ရပ်လုံးသော်၎င်း ချမှတ်ရမည်။

**ရေသွယ် လုပ်ငန်းကို ဖျက်ဆီးခြင်း ဖြင့်သော် ၎င်း၊ ရေကြောင်းကို မတရားလွှဲ ဖယ်ခြင်းဖြင့် သော်၎င်း အကျိုး ဖျက်ဆီးမှု။**

၄၃၀။ ။မည်သူမဆို၊ လယ်ယာလုပ်ကိုင်ခြင်း ကိစ္စအတွက်ဖြစ်စေ၊ လူများ၊ သို့တည်းမဟုတ် ပိုင်ရှင်ရှိ တိရစ္ဆာန်များ စားသောက်ခြင်း ကိစ္စအတွက်ဖြစ်စေ၊ သန့်ရှင်းရေးအတွက်ဖြစ်စေ၊ ကုန်ထုတ်လုပ်ငန်း အတွက်ဖြစ်စေ ရေရရှိရေး လျော့ပါးစေသော ပြုလုပ်မှုကို၊ သို့တည်းမဟုတ် ထိုသို့ လျော့ပါးစေ တန်ရာသည်ကို မိမိ သိသောပြုလုပ်မှုကို ပြုလုပ်ခြင်းဖြင့် အကျိုးဖျက်ဆီးမှုကို ကျူးလွန်လျှင်၊ ထိုသူကိုငါးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ပြည်သူသွား လာရာလမ်း၊ တံတား၊ မြစ်၊ ချောင်း၊ တူးမြောင်းများကို ဖျက်ဆီးခြင်းဖြင့် အကျိုး ဖျက်ဆီးမှု။**

၄၃၁။ ။မည်သူမဆို၊ ပြည်သူသွားလာရာ လမ်းကိုသော်၎င်း၊ တံတားကိုသော်၎င်း၊ ရေယာဉ်သွားလာနိုင်သည့်မြစ်၊ ချောင်း၊ တူးမြောင်းကို သော်၎င်း ခရီးသွားမှုအတွက်ဖြစ်စေ၊ ပစ္စည်း သယ်ယူပို့ဆောင်မှု အတွက် ဖြစ်စေ မသွားမလာနိုင်အောင်၊ သို့တည်းမဟုတ် လုံခြုံမှု လျော့ပါးအောင်ဖြစ်စေသော၊ သို့တည်းမဟုတ်ထိုသို့ဖြစ်စေ တန်ရာသည်ကို မိမိသိသော ပြုလုပ်မှုကို ပြုခြင်းဖြင့် အကျိုးဖျက်ဆီးမှုကို ကျူးလွန်လျှင်၊ ထိုသူကို ငါးနှစ်ထိထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ် ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ပြည်သူနှင့် သက်ဆိုင်သည့် ရေသွားလမ်းကို ရေလွှမ်းစေခြင်းဖြင့် ဖြစ်စေ၊ ပိတ်ဆို့စေခြင်းဖြင့်ဖြစ်စေ ဆုံးရှုံးခြင်းကိုဖြစ်စေသော အကျိုးဖျက်ဆီးမှု။**

၄၃၂။ ။မည်သူမဆို၊ ပြည်သူနှင့် သက်ဆိုင်သော ရေသွားလမ်းအား၊ ရေလွှမ်းစေသော၊ သို့တည်းမဟုတ် ပိတ်ဆို့စေသော၊ သို့တည်းမဟုတ် ထိုသို့ဖြစ်စေ တန်ရာသည်ကို မိမိသိသောပြုလုပ်မှုကိုပြုခြင်းဖြင့် နစ်နာခြင်းကို၊ သို့တည်းမဟုတ် ဆုံးရှုံးခြင်းကိုဖြစ်စေသော အကျိုးဖျက်ဆီးမှုကို ကျူးလွန်လျှင်၊ ထိုသူကို ငါးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**မီးပြတိုက်ကို၊ သို့တည်းမဟုတ် ပင်လယ် အမှတ် အသားကို ဖျက်ဆီးခြင်းဖြင့်ဖြစ်စေ၊ ရွှေ့ပြောင်း ခြင်းဖြင့်ဖြစ်စေ၊ အသုံးဝင်မှုလျော့ပါးစေခြင်း ဖြင့် ဖြစ်စေ အကျိုးဖျက်ဆီးမှု။**

**၄၃၃။** ။မည်သူမဆို၊ မီးပြတိုက်ကို ဖြစ်စေ၊ ပင်လယ်အမှတ် အသားအဖြစ် အသုံးပြုသောအခြားမီးပြကိုဖြစ်စေ၊ ပင်လယ်အမှတ်အသားကိုဖြစ်စေ၊ ရေကြောင်းပြ ဘောကိုဖြစ်စေ၊ ရေကြောင်းသွားလာသူတို့အတွက် လမ်းပြအဖြစ် ချမှတ်ထားသော အခြားအရာကိုဖြစ်စေ ဖျက်ဆီးခြင်းဖြင့်၊ သို့တည်းမဟုတ် ရွှေ့စေခြင်းဖြင့် သော်၎င်း၊ ဆိုခဲ့သော မီးပြတိုက်၊ ပင်လယ်အမှတ်အသား၊ ရေကြောင်းပြဘောနှင့် အခြားအရာ တခုခုအား ရေကြောင်းသွားလာသူများအတွက် လမ်းပြအဖြစ် အသုံးဝင်မှုလျော့ပါးစေသောပြုလုပ်မှုကိုပြုခြင်းဖြင့်သော်၎င်း အကျိုးဖျက်ဆီးမှုကို ကျူးလွန်လျှင် ထိုသူကိုခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ပြည်သူ့ အာဏာပိုင် အမိန့်နှင့် စိုက်ထူထားသော မြေမှတ်တိုင်ကို ဖျက်ဆီးခြင်း၊ သို့တည်းမဟုတ် ရွှေ့ပြောင်းခြင်း စသည်တို့ကိုပြုလုပ်ခြင်းဖြင့် အကျိုး ဖျက်ဆီးမှု။**

၄၃၄။ ။မည်သူမဆို၊ ပြည်သူ့ဝန်ထမ်း၏ အမိန့်အာဏာအရ မြေပေါ်၌ သတ်မှတ်စိုက်ထူထားသောမှတ်တိုင်ကို ဖျက်ဆီးခြင်းဖြင့်၊ သို့တည်းမဟုတ်၊ ရွှေ့စေခြင်းဖြင့်ဖြစ်စေ၊ ထိုမှတ်တိုင်၏ အသုံးဝင်မှုကို လျော့ပါးစေသော ပြုလုပ်မှုကို ပြုခြင်းဖြင့်ဖြစ်စေ အကျိုးဖျက်ဆီးမှုကို ကျူးလွန်လျှင်၊ ထိုသူကို တနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**အတိုးငွေ တရာအောက် မနည်းသောတန်ဘိုးကို၊ သို့တည်းမဟုတ် (စိုက်ပျိုးရေး လုပ်ငန်းထွက်ပစ္စည်းဖြစ်လျှင်) ငွေ တဆယ်အောက်မနည်းသော တန်ဘိုးကို ဆုံးရှုံးစေရန် အကြံနှင့် မီးဖြင့်သော်၎င်း၊ ပေါက်ကွဲတတ်သော အရာဖြင့်သော်၎င်း အကျိုးဖျက်ဆီးမှု။**

**၄၃၅။** ။မည်သူမဆို၊ ပစ္စည်းတခုခုတွင် အတိုးငွေ တရာအောက် မနည်းသောတန်ဘိုးကို၊ သို့တည်းမဟုတ် (စိုက်ပျိုး ရေး လုပ်ငန်းထွက် ပစ္စည်းဖြစ်လျှင်) ငွေတဆယ်အောက် မနည်းသော တန်ဘိုးကို ဆုံးရှုံးစေရန် အကြံဖြင့်၊ သို့တည်းမဟုတ် ထိုသို့ဆုံးရှုံးစေတန်ရာသည်ကို သိလျက်နှင့် မီးဖြင့်သော်၎င်း၊ ပေါက်ကွဲတတ်သော အရာဖြင့်သော်၎င်း အကျိုးဖျက်ဆီးမှုကို ကျူးလွန်လျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**အိမ် အစရှိသည် တို့ကို ဖျက်ဆီးရန် ကြံ၍ မီးဖြင့်၊ သို့တည်းမဟုတ် ပေါက်ကွဲတတ်သည့် အရာဖြင့် အကျိုး ဖျက်ဆီးမှု။**

၄၃၆။ ။မည်သူမဆို၊ ကိုးကွယ်ဝတ်ပြုသော နေရာအဖြစ်ဖြင့်သော်၎င်း၊ နေအိမ် အဖြစ်ဖြင့်သော်၎င်း၊ ပစ္စည်းများ သိုလှောင် ထိန်းသိမ်းသောနေရာအဖြစ်ဖြင့်သော်၎င်း သာမန်အားဖြင့် အသုံးပြုသော အဆောက်အအုံကိုဖျက်ဆီးရန် အကြံဖြင့်ဖြစ်စေ၊ မိမိကထိုသို့ ဖျက်ဆီးစေမည်ဖြစ်တန်ရာသည်ကို သိလျက်နှင့်ဖြစ်စေ မီးဖြင့်၊ သို့တည်းမဟုတ် ပေါက်ကွဲတတ်သော အရာဖြင့် အကျိုးဖျက်ဆီးမှုကို ကျူးလွန်လျှင်၊ ထိုသူကို တသက်တကျွန်းဒဏ် ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

၄၃၇။ ။မည်သူမဆို၊ ကုန်းပတ်ပါရှိသော ရေယာဉ်ကိုဖြစ်စေ၊ ဝန်စည်တန်ချိန် နှစ်ဆယ် အောက် မနည်းတင်ဆောင်နိုင်သော ရေယာဉ်ကိုဖြစ်စေ ပျက်စီးစေရန်၊ သို့တည်းမဟုတ် ဘေးမကင်းစေရန်အကြံဖြင့်သော်၎င်း၊ မိမိကထိုသို့ပျက်စီးစေမည်၊ သို့တည်းမဟုတ် ဘေးမကင်းစေမည် ဖြစ်တန်ရာသည်ကို သိလျက်နှင့်သော်၎င်း အကျိုးဖျက်ဆီးမှုကို ကျူးလွန်လျှင်၊ ထိုသူကို ဆယ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ကုန်းပတ်ပါရှိသော ရေယာဉ်ကို၊ သို့တည်းမဟုတ် ဝန်စည် တန်ချိန် နှစ်ဆယ် အောက် မနည်း တင်ဆောင်နိုင်သော ရေယာဉ်ကို ပျက်စီးစေရန်ဖြစ်စေ၊ ဘေးမကင်းစေရန် ဖြစ်စေ ကြံရွယ်၍ အကျိုးဖျက်ဆီးမှု။

၄၃၈။ ။မည်သူမဆို၊ မီးဖြင့်ဖြစ်စေ၊ ပေါက်ကွဲတတ်သော အရာဖြင့်ဖြစ်စေ တဆက်တည်းဖြစ်သော အထက်ပုဒ်မ၌ဖော်ပြထားသည့် အကျိုးဖျက်ဆီးမှုကိုကျူးလွန်လျှင်၊ သို့တည်းမဟုတ် ထိုသို့ကျူးလွန်ရန် အားထုတ်လျှင် ထိုသူကိုတသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

မီးဖြင့်၊ သို့တည်းမဟုတ် ပေါက်ကွဲတတ်သော အရာဖြင့် ကျူးလွန်သည့် ပုဒ်မ ၄၃၇ ရှိ အကျိုး ဖျက်ဆီးမှု အတွက် ပြစ်ဒဏ်။

၄၃၉။ ။မည်သူမဆို၊ ရေယာဉ်၌ပါရှိသောပစ္စည်းကို ခိုးရန်အကြံဖြင့်သော်၎င်း၊ မရိုးမဖြောင့်သော သဘောနှင့် ထိုပစ္စည်းကို အလွဲသုံးစားပြုရန် အကြံဖြင့်သော်၎င်း၊ ထိုသို့ခိုးခြင်းကို၊ သို့တည်းမဟုတ် ထိုသို့ အလွဲသုံးစားပြုခြင်းကို ကျူးလွန်နိုင်စေရန် အကြံဖြင့်သော်၎င်း ရေယာဉ်ကို တမင် သောင်တင်စေလျှင်၊ သို့တည်းမဟုတ် ကမ်းတင်စေလျှင် ထိုသူကို ဆယ်နှစ်ထိထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ခိုးမှု အစရှိသည့် ပြစ်မှုကို ကျူးလွန်ရန် အကြံဖြင့် ရေယာဉ်ကို တမင် သောင်တင်စေသည့် အတွက်၊ သို့တည်းမဟုတ် ကမ်း တင်စေသည့် အတွက် ပြစ်ဒဏ်။

၄၄၀။ ။မည်သူမဆို၊ တဦးတယောက်၏သေစေမှုကို၊ သို့တည်းမဟုတ် နာကျင်စေမှုကို၊ သို့တည်းမဟုတ် မတရားတားဆီးခံရမှုကိုပြုရန်ဖြစ်စေ၊ သေစေမည်ကို၊ သို့တည်းမဟုတ် နာကျင်စေမည်ကို၊ သို့တည်းမဟုတ် မတရားတားဆီးခံရမည်ကို ကြောက်စေရန်ဖြစ်စေ ပြင်ဆင်ပြီးနောက် အကျိုးဖျက်ဆီးမှုကိုကျူးလွန်လျှင်၊ ထိုသူကို ငါးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

သေစေမှုအတွက်၊ သို့တည်းမဟုတ် နာကျင် စေမှုအတွက် ပြင်ဆင်ပြီးနောက် ကျူးလွန်သည့် အကျိုးဖျက်ဆီးမှု။

## ရာဇဝတ်မကင်းသော ကျော်နင်းမှုများ။

၄၄၁။ ။မည်သူမဆို၊ ပြစ်မှုကို ကျူးလွန်ရန်၊ သို့တည်းမဟုတ် ပစ္စည်းလက်ရှိဖြစ်သော တဦးတယောက်ကို ခြောက်လှန့်ရန်၊ သို့တည်းမဟုတ် စော်ကားရန်၊ သို့တည်းမဟုတ် စိတ်ငိုငြင်စေရန်အကြံဖြင့် သူတပါး၏ လက်ရှိပစ္စည်းအတွင်းသို့ဖြစ်စေ၊ အပေါ်သို့ဖြစ်စေ ဝင်ရောက်လျှင်၊ သို့တည်းမဟုတ် ထိုပစ္စည်းအတွင်းသို့ဖြစ်စေ၊ အပေါ်သို့ဖြစ်စေ တရားသဖြင့် ဝင်ရောက်ပြီး

ရာဇဝတ် မကင်းသော ကျော်နင်းမှု။

သည့်နောက် ပစ္စည်းလက်ရှိဖြစ်သူကို ချောက်လှန့်ရန်၊ သို့တည်းမဟုတ် စော်ကားရန်၊ သို့တည်း
မဟုတ် စိတ်ငြိုငြင်စေရန်၊ သို့တည်းမဟုတ် ပြစ်မှုကိုကျူးလွန်ရန်အကြံဖြင့် ဥပဒေနှင့်ဆန့်ကျင်
ကာ ထိုပစ္စည်း၌ဆက်လက်၍နေလျှင်၊ ထိုသူသည် "ရာဇဝတ်မကင်းသော ကျော်နင်းမှု" ကို
ကျူးလွန်သည်မည်၏။

အိမ်ကျော်နင်းမှု။

၄၄၂။ ။မည်သူမဆို၊ လူနေအိမ်အဖြစ်အသုံးပြုသည့် အဆောက်အအုံကိုဖြစ်စေ၊တဲကို
ဖြစ်စေ၊ ရေယာဉ်ကိုဖြစ်စေ၊ ကိုးကွယ်ဝတ်ပြုသော နေရာအဖြစ်
ဖြင့်သော်၎င်း၊ ပစ္စည်းသိုလှောင်ထိန်းသိမ်းသော နေရာအဖြစ်ဖြင့်
သော်၎င်း အသုံးပြုသည့် အဆောက်အအုံကိုဖြစ်စေ ဝင်ရောက်ခြင်းဖြင့်၊ သို့တည်းမဟုတ်
ဆက်လက်နေခြင်းဖြင့် ရာဇဝတ်မကင်းသောကျော်နင်းမှုကို ကျူးလွန်လျှင်၊ ထိုသူသည်
"အိမ်ကျော်နင်းမှု" ကို ကျူးလွန်သည်မည်၏။

ရှင်းလင်းချက်။ ။ရာဇဝတ်မကင်းသော ကျော်နင်းမှုကျူးလွန်သူ၏ ကိုယ်အင်္ဂါအစိတ်
အပိုင်းဝင်ရောက်ခြင်းသည် အိမ်ကျော်နင်းမှုကိုကျူးလွန်ခြင်းမြောက်ရန် လုံလောက်သည်။

ပုန်းလျှိုးအိမ်ကျော်နင်းမှု။

၄၄၃။ ။အိမ်ကျော်နင်းမှုကိုကျူးလွန်ရာ၌၊ ထိုသို့ကျော်နင်းရာဖြစ်သော အဆောက်
အအုံမှဖြစ်စေ၊ တဲမှဖြစ်စေ၊ ရေယာဉ်မှဖြစ်စေ ကျော်နင်းကျူး
လွန်သူကို ထုတ်ပယ်ရန်၊ သို့တည်းမဟုတ် နှင်ရန်အခွင့်အရေးရှိ
သူက ထိုသို့ကျော်နင်းသည်ကို မသိမမြင်အောင်ကြိုတင်စီမံမှုပြု၍ မည်သူမဆို၊ အိမ်ကျော်နင်း
မှုကို ကျူးလွန်လျှင်၊ ထိုသူသည် "ပုန်းလျှိုးအိမ်ကျော်နင်းမှု" ကို ကျူးလွန်သည်မည်၏။

ညဉ့်အချိန် ပုန်းလျှိုး အိမ်ကျော်နင်းမှု။

၄၄၄။ ။မည်သူမဆို၊ နေဝင်ပြီးအချိန်မှစ၍ နေမထွက်မီအချိန်အတွင်း ပုန်းလျှိုးအိမ်
ကျော်နင်းမှုကိုကျူးလွန်လျှင်၊ ထိုသူသည်ညဉ့် အချိန် ပုန်းလျှိုး
အိမ်ကျော်နင်းမှုကို ကျူးလွန်သည်မည်၏။

အိမ်ဖေါက်ထွင်းမှု။

၄၄၅။ ။မည်သူမဆို၊ အိမ်ကျော်နင်းမှုကျူးလွန်ရာ၌ အိမ်အတွင်းသို့ဖြစ်စေ၊ အိမ် ၏
တစိတ်တဒေသတနေရာသို့ဖြစ်စေ၊အောက်ဖေါ်ပြပါနည်းခြောက်
မျိုးအနက် တနည်းနည်းဖြင့် ဝင်ရောက်ခြင်းပြုလျှင်၊ သို့တည်း
မဟုတ် ပြစ်မှုကျူးလွန်ရန်အလို့ငှါ အိမ်အတွင်းဖြစ်စေ၊အိမ်၏တစိတ်တဒေသတနေရာ၌ဖြစ်စေ
ရောက်ရှိပြီး၍၊ သို့တည်းမဟုတ် အိမ်အတွင်း၌ဖြစ်စေ၊ အိမ်၏တစိတ် တဒေသတနေရာ၌ဖြစ်စေ
ပြစ်မှုကိုကျူးလွန်ပြီး၍ ထိုသူသည် အိမ်မှသော်၎င်း၊ အိမ်၏တစိတ်တဒေသတနေရာမှသော်
၎င်း အောက်ပါနည်းခြောက်မျိုးအနက် တနည်းနည်းဖြင့် ထွက်ခွါလျှင်၊ ထိုသူသည် "အိမ်
ဖေါက်ထွင်းမှု" ကိုကျူးလွန်သည်မည်၏။

၄၄၆။ ။အိမ်ကျော်နင်းမှုကို ကျူးလွန်ရန်အလို့ငှါ ထိုသူသည် မိမိကိုယ်တိုင်ကဖြစ်
စေ၊ အိမ်ကျော်နင်းမှုကိုအားပေးကူညီသူကဖြစ်စေ ပြုလုပ်ထားသည့် ထွက်ဝင်ပေါက် ကဝင်
လျှင်၊ သို့တည်းမဟုတ် ထွက်လျှင်

ဒုတိယ။ ။မိမိကိုယ်တိုင်မှတပါး၊ သို့တည်းမဟုတ် ပြစ်မှုကို အားပေးကူညီသူမှတပါး၊
အခြားမည်သူမျှဝင်ထွက်ရန်ကြံရွယ်ခြင်းမရှိသော ထွက်ဝင်ပေါက်က ထိုသူဝင်လျှင်၊ သို့တည်း

မဟုတ်ထွက်လျှင်၊ သို့တည်းမဟုတ် နံရံကိုဖြစ်စေ၊ အဆောက်အအုံကိုဖြစ်စေ တွယ်တက်၍သော်၎င်း၊ ကျော်တက်၍သော်၎င်း ဝင်ရောက်ခဲ့သည့် ထွက်ဝင်ပေါက်ကဝင်လျှင်၊ သို့တည်းမဟုတ်ထွက်လျှင်။

**တတိယ။** ။ထွက်ဝင်ပေါက်ဖွင့်ရန် နေထိုင်သူမကြံရွယ်သည့်နည်းတခုခုဖြင့် မိမိကိုယ်တိုင်ကဖြစ်စေ၊ အိမ်ကျော်နင်းမှုကို အားပေးကူညီသူကဖြစ်စေ အိမ်ကျော်နင်းမှုကို ကျူးလွန်ရန်အလို့ငှါ ဖွင့်ခဲ့သည့် ထွက်ဝင်ပေါက်က ထိုသူဝင်လျှင်၊ သို့တည်းမဟုတ် ထွက်လျှင်။

**စတုတ္ထ။** ။အိမ်ကျော်နင်းမှုကိုကျူးလွန်ရန်အလို့ငှါ၊ သို့တည်းမဟုတ် အိမ်ကျော်နင်းမှုကိုကျူးလွန်ပြီးနောက် အိမ်မှထွက်ရန်အလို့ငှါ ထိုသူသည် သော့ခလောက်ကိုဖွင့်၍ဝင်လျှင်၊ သို့တည်းမဟုတ် ထွက်လျှင်။

**ပဥ္စမ။** ။ရာဇဝတ်မကင်းသော အနိုင်အထက်ပြုမှုကို သုံးခြင်းဖြင့်သော်၎င်း၊ လက်ရောက်မှုကျူးလွန်ခြင်းဖြင့်သော်၎င်း၊ လက်ရောက်မှုပြုမည်ဟု သူတဦးတယောက်အား ခြိမ်းချောက်ခြင်းဖြင့်သော်၎င်း ထိုသူသည် ဝင်လျှင်၊ သို့တည်းမဟုတ် ထွက်လျှင်။

**ဆဋ္ဌမ။** ။မဝင်မထွက်နိုင်အောင် ပိတ်ထားကြောင်းကိုသိလျက်နှင့် ထွက်ဝင်ပေါက်ကို မိမိကိုယ်တိုင်ဖွင့်၍ဖြစ်စေ၊ အိမ်ကျော်နင်းမှုကိုအားပေးကူညီသူက ဖွင့်၍ဖြစ်စေ ဝင်လျှင်၊ သို့တည်းမဟုတ် ထွက်လျှင်။

**ရှင်းလင်းချက်။** ။အိမ်မသို့အတွင်းလမ်းဖြင့် ဆက်သွယ်ထားသော အရံအိမ်သည်၊ သို့တည်းမဟုတ် အဖီဆောင်သည် ဤပုဒ်မ၏အဓိပ္ပါယ်အရ အိမ်မ၏တစိတ်တဒေသဖြစ်သည်။

## ဥပမာများ။

(က) မောင်ဖြူသည် မောင်မဲ၏အိမ်နံရံတွင် အပေါက်တပေါက်ကို ဖေါက်ထွင်း၍၊ ထိုအပေါက်က မိမိ၏လက်ကိုသွင်းခြင်းဖြင့် အိမ်ကျော်နင်းမှုကို ကျူးလွန်လျှင်၊ အိမ်ဖေါက်ထွင်းမှုကို ကျူးလွန်သည်မည်၏။

(ခ) မောင်ဖြူသည် သင်္ဘောကုန်းပတ်နှစ်ခုအကြားရှိ လေသာပေါက်ကတွား၍ ဝင်ခြင်းဖြင့် အိမ်ကျော်နင်းမှုကို ကျူးလွန်လျှင်၊ အိမ်ဖေါက်ထွင်းမှုကိုကျူးလွန်သည်မည်၏။

(ဂ) မောင်ဖြူသည် မောင်မဲ၏အိမ်အတွင်းသို့ ပြတင်းပေါက်ကဝင်ခြင်းဖြင့် အိမ်ကျော်နင်းမှုကိုကျူးလွန်လျှင်၊ အိမ်ဖေါက်ထွင်းမှုကို ကျူးလွန်သည်မည်၏။

(ဃ) မောင်ဖြူသည် မဝင်မထွက်နိုင်အောင် ပိတ်ထားသော တံခါးကိုဖွင့်ပြီးလျှင်၊ မောင်မဲ၏အိမ်အတွင်းသို့ ထိုတံခါးပေါက်ကဝင်ခြင်းဖြင့် အိမ်ကျော်နင်းမှုကို ကျူးလွန်လျှင်၊ အိမ်ဖေါက်ထွင်းမှုကိုကျူးလွန်သည်မည်၏။

(င) မောင်ဖြူသည် မောင်မဲအိမ်တံခါး၏ အပေါက်တပေါက်က နန်းကြိုးထိုးသွင်း၍ တံခါးမင်းတုန်းကို မ,ပြီးလျှင်၊ ထိုတံခါးပေါက်မှ ဝင်ရောက်ခြင်းဖြင့် အိမ်ကျော်နင်းမှု ကိုကျူးလွန်လျှင်၊ အိမ်ဖေါက်ထွင်းမှုကို ကျူးလွန်သည်မည်၏။

(စ) မောင်ဖြူသည် မောင်မဲပျောက်ဆုံးသော အိမ်တံခါးသော့ဖြင့် မောင်မဲ၏ အိမ်တံခါးကိုဖွင့်ပြီးလျှင်၊ မောင်မဲ၏အိမ်အတွင်းသို့ ဝင်ရောက်ခြင်းဖြင့် အိမ်ကျော်နင်းမှုကို ကျူးလွန်လျှင်၊ အိမ်ဖေါက်ထွင်းမှုကို ကျူးလွန်သည်မည်၏။

(ဆ) မောင်မဲသည် မိမိ၏အိမ်တံခါးဝမှာရပ်နေ၏။ မောင်ဖြူက မောင်မဲကို လဲအောင်ပြု၍၊ အိမ်တွင်းသို့ အတင်းဝင်ရောက်ခြင်းဖြင့် အိမ်ကျော်နင်းမှုကိုကျူးလွန်လျှင်၊ အိမ်ဖေါက်ထွင်းမှုကိုကျူးလွန်သည်မည်၏။

(ဇ) မောင်နီ၏ တံခါးစောင့် မောင်မဲသည် မောင်နီ၏ အိမ်တံခါးဝတွင် ရပ်နေ၏။ မောင်ဖြူက မောင်မဲကိုရိုက်နှက်မည်ဟု ခြိမ်းခြောက်၍၊ မိမိဝင်သည်ကို မတားဆီးနိုင်အောင် ပြုလုပ်ပြီးနောက်၊ အိမ်တွင်းသို့ဝင်ခြင်းဖြင့် အိမ်ကျော်နင်းမှုကိုကျူးလွန်လျှင်၊ အိမ်ဖေါက်ထွင်းမှုကိုကျူးလွန်သည်မည်၏။

ညဉ့်အချိန် အိမ်ဖေါက်ထွင်းမှု။

၄၄၆။ ။မည်သူမဆို၊ နေဝင်ပြီးအချိန်မှစ၍ နေမထွက်မီအချိန်အတွင်း၊ အိမ်ဖေါက်ထွင်းမှုကိုကျူးလွန်လျှင်၊ ထိုသူသည် "ညဉ့်အချိန် အိမ်ဖေါက်ထွင်းမှု" ကို ကျူးလွန်သည်မည်၏။

ရာဇဝတ် မကောင်းသော ကျော်နင်းမှုအတွက် ပြစ်ဒဏ်။

၄၄၇။ ။မည်သူမဆို၊ ရာဇဝတ်မကောင်းသော ကျော်နင်းမှုကိုကျူးလွန်လျှင်၊ ထိုသူကို သုံးလထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငါးရာထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အိမ်ကျော်နင်းမှု အတွက် ပြစ်ဒဏ်။

၄၄၈။ ။မည်သူမဆို၊ အိမ်ကျော်နင်းမှုကို ကျူးလွန်လျှင်၊ ထိုသူကို တနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ တထောင်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

သေဒဏ် ထိုက်သည့် ပြစ်မှုကို ကျူးလွန်ရန် အိမ်ကျော်နင်းမှု။

၄၄၉။ ။မည်သူမဆို၊ သေဒဏ်ထိုက်သော ပြစ်မှုကို ကျူးလွန်ရန်အလို့ငှါ အိမ်ကျော်နင်းမှုကိုကျူးလွန်လျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထက်မပိုသည့် အလုပ်ကြမ်းနှင့် ထောင်ဒဏ်ဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

တသက် တကျွန်း ဒဏ် ထိုက်သည့် ပြစ်မှုကို ကျူးလွန်ရန် အိမ်ကျော်နင်းမှု။

၄၅၀။ ။မည်သူမဆို၊ တသက်တကျွန်းဒဏ် ထိုက်သည့်ပြစ်မှုကို ကျူးလွန်ရန်အလို့ငှါ အိမ်ကျော်နင်းမှုကို ကျူးလွန်လျှင်၊ ထိုသူကို ဆယ်နှစ်ထက်မပိုသည့် ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ထောင် ဒဏ် ထိုက် သည့် ပြစ်မှုကို ကျူးလွန်ရန် အိမ်ကျော်နင်းမှု။

၄၅၁။ ။မည်သူမဆို၊ ထောင်ဒဏ်ထိုက်သည့် ပြစ်မှုကိုကျူးလွန်ရန်အလို့ငှါ အိမ်ကျော်နင်းမှုကိုကျူးလွန်လျှင်၊ ထိုသူကို နှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။ အကယ်၍ ကျူးလွန်ရန် ကြံရွယ်သည့်ပြစ်မှုသည် ခိုးမှုဖြစ်ခဲ့သော်၊ ထောင်ဒဏ်ကို ခုနစ်နှစ်ထိ တိုး၍ချမှတ်နိုင်သည်။

၄၅၂။ ။မည်သူမဆို၊ တဦးတယောက်အား နာကျင်စေမှုကျူးလွန်ရန်သော်၎င်း၊ လက်ရောက်မှုကျူးလွန်ရန်သော်၎င်း၊ မတရားတားဆီးမှု ကျူးလွန်ရန်သော်၎င်း၊ တဦးတယောက်သောသူကို နာကျင်စေမည်ဟု၊ သို့တည်းမဟုတ် လက်ရောက်မှုပြုမည်ဟု၊ သို့တည်းမဟုတ် မတရားတားဆီးမှုပြုမည်ဟု ကြောက်အောင်ပြုရန်သော်၎င်း ပြင်ဆင်ပြီးနောက် အိမ်ကျော်နင်းမှုကိုကျူးလွန်လျှင်၊ ထိုသူကို ခုနစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

နာကျင်စေမှုကို ဖြစ်စေ၊ လက်ရောက်မှုကို ဖြစ်စေ၊ မတရားတားဆီးမှုကို ဖြစ်စေ ကျူးလွန်ရန် ပြင်ဆင်၍ အိမ်ကျော်နင်းမှု။

၄၅၃။ ။မည်သူမဆို၊ ပုန်းလျှိုးအိမ်ကျော်နင်းမှုကိုဖြစ်စေ၊ အိမ်ဖေါက်ထွင်းမှုကို ဖြစ်စေ ကျူးလွန်လျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ပုန်း လျှိုး အိမ်ကျော်နင်းမှုအတွက်၊ သို့တည်းမဟုတ် အိမ်ဖေါက် ထွင်းမှု အတွက် ပြစ်ဒဏ်။

၄၅၄။ ။မည်သူမဆို၊ ထောင်ဒဏ်ထိုက်သည့် ပြစ်မှုကိုကျူးလွန်ရန်အလို့ငှါ ပုန်းလျှိုးအိမ်ကျော်နင်းမှုကိုဖြစ်စေ၊ အိမ်ဖေါက်ထွင်းမှုကိုဖြစ်စေ ကျူးလွန်လျှင်၊ထိုသူကို သုံးနှစ်ထိထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင်ငွေဒဏ်လည်းချမှတ်နိုင်သည်။ အကယ်၍ကျူးလွန်ရန်ကြံရွယ်သည့် ပြစ်မှုသည် ခိုးမှုဖြစ်ခဲ့သော်၊ ထောင်ဒဏ်ကိုဆယ်နှစ်ထိ တိုး၍ချမှတ်နိုင်သည်။

ထောင်ဒဏ် ထိုက် သည့် ပြစ်မှုကို ကျူးလွန်ရန် ပုန်းလျှိုး အိမ်ကျော်နင်းမှု၊ သို့တည်းမဟုတ် အိမ်ဖေါက်ထွင်းမှု။

၄၅၅။ ။မည်သူမဆို၊ သူတဦးတယောက်အား နာကျင်စေမှုကို ကျူးလွန်ရန်သော်၎င်း၊ လက်ရောက်မှုကိုကျူးလွန်ရန်သော်၎င်း၊ မတရားတားဆီးမှု ကို ကျူးလွန်ရန်သော်၎င်း၊ သူတဦးတယောက်ကိုနာကျင်စေမည်ဟု၊ သို့တည်းမဟုတ် လက်ရောက်မှုပြုမည်ဟု၊ သို့တည်းမဟုတ် မတရားတားဆီးမှုပြုမည်ဟုကြောက်အောင်ပြုရန်သော်၎င်း ပြင်ဆင်ပြီးနောက် ပုန်းလျှိုးအိမ်ကျော်နင်းမှုကိုဖြစ်စေ၊ အိမ်ဖေါက်ထွင်းမှုကိုဖြစ်စေ ကျူးလွန်လျှင်၊ ထိုသူကို ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

နာကျင်စေမှုကို ဖြစ်စေ၊ လက်ရောက်မှုကို ဖြစ်စေ၊ မတရားတားဆီးမှုကို ဖြစ်စေ ပြုရန် ပြင် ဆင်ပြီးနောက် ပုန်းလျှိုး အိမ်ကျော် နင်းမှု၊ သို့တည်းမဟုတ် အိမ်ဖေါက် ထွင်းမှု။

၄၅၆။ ။မည်သူမဆို၊ ညဉ့်အချိန်ပုန်းလျှိုးအိမ်ကျော်နင်းမှုကိုဖြစ်စေ၊ ညဉ့်အချိန်အိမ်ဖေါက်ထွင်းမှုကိုဖြစ်စေ ကျူးလွန်လျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ် နိုင်သည်။

ညဉ့်အချိန်ပုန်းလျှိုး အိမ်ကျော်နင်းမှု အတွက်၊ သို့တည်းမဟုတ် ညဉ့်အချိန် အိမ်ဖေါက်ထွင်းမှုအတွက်ပြစ်ဒဏ်။

ထောင်ဒဏ် ထိုက်သည့် ပြစ်မှုကို ကျူးလွန်ရန် ညဥ့်အချိန် ပုန်းလျှိုး အိမ်ကျော်နင်းမှု၊ သို့တည်းမဟုတ် ညဥ့်အချိန် အိမ်ဖေါက်ထွင်းမှု။

၄၅၇။ ။မည်သူမဆို၊ ထောင်ဒဏ်ထိုက်သည့်ပြစ်မှုကို ကျူးလွန်ရန်အလို့ငှါ ညဥ့်အချိန် ပုန်းလျှိုးအိမ်ကျော်နင်းမှုကိုဖြစ်စေ၊ ညဥ့်အချိန် အိမ်ဖေါက်ထွင်းမှုကိုဖြစ်စေ၊ ကျူးလွန်လျှင်၊ ထိုသူကို ငါးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။ အကယ်၍ ကျူးလွန်ရန် ကြံရွယ်သည့် ပြစ်မှုသည် ခိုးမှုဖြစ်ခဲ့သော်၊ ထောင်ဒဏ်ကို ဆယ့်လေးနှစ်ထိ တိုး၍ချမှတ်နိုင်သည်။

နာကျင်စေမှုကို ဖြစ်စေ၊ လက်ရောက် မှုကို ဖြစ်စေ၊ မတရား တားဆီးမှုကို ဖြစ်စေ၊ ကျူးလွန်ရန် ပြင်ဆင်ပြီးနောက် ညဥ့် အချိန် ပုန်းလျှိုး အိမ်ကျော်နင်းမှု၊ သို့တည်း မဟုတ် ညဥ့် အချိန် အိမ် ဖေါက်ထွင်းမှု။

၄၅၈။ ။မည်သူမဆို၊ သူတဦးတယောက်အား နာကျင်စေမှုကို ကျူးလွန်ရန်သော်၎င်း၊ လက်ရောက်မှုကို ကျူးလွန်ရန်သော်၎င်း၊ မတရားတားဆီးမှုကို ကျူးလွန်ရန်သော်၎င်း၊ သူတဦးတယောက်ကို နာကျင်စေမည်ဟု၊ သို့တည်းမဟုတ် လက်ရောက်မှု ပြုမည်ဟု၊ သို့တည်းမဟုတ် မတရားတားဆီးမှု ပြုမည်ဟု ကြောက်အောင် ပြုရန်သော်၎င်း ပြင်ဆင်ပြီးနောက် ညဥ့်အချိန် ပုန်းလျှိုး အိမ်ကျော်နင်းမှုကိုဖြစ်စေ၊ ညဥ့်အချိန် အိမ်ဖေါက်ထွင်းမှုကိုဖြစ်စေ ကျူးလွန်လျှင်၊ ထိုသူကို ဆယ့်လေးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ပုန်းလျှိုး အိမ်ကျော်နင်းမှုကို ဖြစ်စေ၊ အိမ်ဖေါက်ထွင်းမှုကို ဖြစ်စေ ကျူးလွန် စဉ် အပြင်း အထန် နာကျင်စေမှု။

၄၅၉။ ။မည်သူမဆို၊ ပုန်းလျှိုး အိမ်ကျော်နင်းမှုကိုသော်၎င်း၊ အိမ်ဖေါက်ထွင်းမှုကိုသော်၎င်း ကျူးလွန်စဉ် သူတဦးတယောက်အား အပြင်းအထန် နာကျင်စေမှုကိုဖြစ်စေလျှင်၊ သို့တည်းမဟုတ် သူတဦးတယောက် သေစေရန်ဖြစ်စေ၊ အပြင်းအထန် နာကျင်စေရန်ဖြစ်စေ အားထုတ်လျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်သော်၎င်း၊ ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးသော်၎င်း ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ညဥ့် အချိန် ပုန်းလျှိုး အိမ် ကျော်နင်းမှုကို၊ သို့တည်း မဟုတ် ညဥ့် အချိန် အိမ်ဖေါက် ထွင်းမှုကို ကျူးလွန်ရာ၌ တွဲဖက် ပါဝင်သူများမှ တဦး တယောက်က သေစေမှုကို သော်၎င်း၊ အပြင်း အထန် နာကျင်စေမှုကို သော်၎င်း၊ ဖြစ်စေလျှင်၊ ထိုပါဝင် သူများ အားလုံး ခံထိုက်သော ပြစ်ဒဏ်။

၄၆၀။ ။ညဥ့်အချိန် ပုန်းလျှိုး အိမ်ကျော်နင်းမှုကိုသော်၎င်း၊ ညဥ့်အချိန် အိမ်ဖေါက်ထွင်းမှုကိုသော်၎င်း ကျူးလွန်သည့်အခါ၊ ထိုပြစ်မှုကို ကျူးလွန်ထင်ရှားသောသူတဦးဦးက တဦးတယောက်သောသူကို မိမိအလိုအလျောက် သေစေမှုကိုသော်၎င်း၊ အပြင်းအထန် နာကျင်စေမှုသော်၎င်း ဖြစ်စေလျှင်၊ သို့တည်းမဟုတ် ထိုသို့ဖြစ်စေရန် အားထုတ်လျှင်၊ ထိုသို့ညဥ့်အချိန် ပုန်းလျှိုး အိမ်ကျော်နင်းမှုကို၊ သို့တည်းမဟုတ် ညဥ့်အချိန် အိမ်ဖေါက်ထွင်းမှုကို ကျူးလွန်ရာ၌ တွဲဖက်ပါဝင်သူ အသီးသီးကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**ထည့်စရာကို မရိုးမဖြောင့်သော သဘောနှင့် ဖေါက်ဖွင့်မှု။**

၄၆၁။ ။မည်သူမဆို ပစ္စည်းပါဝင်၍ ပိတ်ထားသည့်အရာကို၊ သို့တည်းမဟုတ် ပစ္စည်းပါဝင်သည်ဟု မိမိယုံကြည်သော ပိတ်ထားသည့်အရာကို မရိုးမဖြောင့်သောသဘောနှင့်ဖြစ်စေ၊ အကျိုးဖျက်ဆီးမှု ကျူးလွန်ရန်အကြံနှင့်ဖြစ်စေ ဖေါက်ဖွင့်လျှင်၊ သို့တည်းမဟုတ် ဖွင့်လျှင် ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ် နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**သို့လှောင်ထိန်းသိမ်းခြင်း အပ်နှံ ခံရသူက အလားတူ ပြစ်မှုမျိုးကို ကျူးလွန်သည့်အခါ ချမှတ်ရမည့်ပြစ်ဒဏ်။**

၄၆၂။ ။မည်သူမဆို၊ ပစ္စည်းပါဝင်၍ ပိတ်ထားသည့် အရာကို၊ သို့တည်းမဟုတ် ပစ္စည်းပါဝင်သည်ဟု မိမိယုံကြည်သော ပိတ်ထားသည့် အရာကို အပ်နှံခြင်းခံရသည့်အခွင့် ထိုအရာကို ဖွင့်ပိုင်ခွင့်မရှိဘဲ မရိုးမဖြောင့်သောသဘောနှင့်ဖြစ်စေ၊ အကျိုးဖျက်ဆီးမှုကိုကျူးလွန်ရန် အကြံဖြင့်ဖြစ်စေ ထိုအရာကို ဖေါက်ဖွင့်လျှင်၊ သို့တည်းမဟုတ် ဖွင့်လျှင်၊ ထိုသူကို သုံးနှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

## အခန်း ၁၈။

## စာတမ်းအမှတ်အသားနှင့်ငှင်း၊ ကုန်တံဆိပ်၊ သို့တည်းမဟုတ် ပစ္စည်းတံဆိပ်များနှင့်ငှင်း စပ်လျဉ်းသောပြစ်မှုများ။

**လိမ်လည်အတုပြုမှု။**

၄၆၃။ ။မည်သူမဆို၊ အများပြည်သူကိုသော်ငှင်း၊ တဦးတယောက်သောသူကို သော်ငှင်း၊ ဆုံးရှုံးခြင်း၊ သို့တည်းမဟုတ် နစ်နာခြင်းဖြစ်စေရန် အကြံဖြင့်ဖြစ်စေ၊ တောင်းဆိုချက်ကို၊ သို့တည်းမဟုတ် ပိုင်ဆိုင်ခွင့်ကို ထောက်ခံရန်အကြံဖြင့်ဖြစ်စေ၊ တဦးတယောက်သောသူအား ပစ္စည်းလက်လွှတ်စေရန်အကြံဖြင့်ဖြစ်စေ၊ အတည့်အလင်းဖြစ်သော၊သို့တည်းမဟုတ်သဘောသက်ရောက်စေသော ပဋိညာဉ်ကိုပြုစေရန်အကြံဖြင့်ဖြစ်စေ၊ လိမ်လည်လှည့်ဖြားမှုကို ကျူးလွန်ရန်၊ သို့တည်းမဟုတ် ကျူးလွန်နိုင်စေရန်အကြံဖြင့်ဖြစ်စေ မဟုတ်မမှန်သော စာတမ်းအမှတ်အသားတခုကိုသော်ငှင်း၊ တစိတ်တဒေသကိုသော်ငှင်း ပြုလျှင်၊ ထိုသူသည်လိမ်လည်အတုပြုမှုကို ကျူးလွန်သည်မည်၏။

**မဟုတ်မမှန်သည့် စာတမ်းအမှတ်အသား ပြုခြင်း။**

၄၆၄။ ။တဦးတယောက်သောသူသည် အောက်ပါတခုခုကိုပြုလျှင်၊ မဟုတ်မမှန်သော စာတမ်းအမှတ်အသားကိုပြုသည်မည်၏။

ပဌမ။ ။တဦးတယောက်သောသူကဖြစ်စေ၊ ထိုသူ၏ ခွင့်ပြုချက်နှင့်ဖြစ်စေ စာတမ်းအမှတ်အသားတခုကို၊ သို့တည်းမဟုတ် တစိတ်တဒေသကိုပြုလုပ်ခြင်း၊ လက်မှတ်ထိုးခြင်း၊ တံဆိပ်ခတ်နှိပ်ခြင်း၊ ချုပ်ဆိုခြင်း တခုခုမပြုကြောင်းကို မိမိသိလျက်နှင့်သော်ငှင်း၊ စာတမ်းအမှတ်အသားတခုကို၊ သို့တည်းမဟုတ်တစိတ်တဒေသကိုပြုလုပ်ခြင်း၊ လက်မှတ်ထိုးခြင်း၊ တံဆိပ်ခတ်နှိပ်ခြင်း၊ ချုပ်ဆိုခြင်းတခုခုကို မိမိသိချက်အရမပြုသောအချိန်၌သော်ငှင်း ထိုသို့ပြုလုပ်ခြင်း၊ လက်မှတ်ထိုးခြင်း၊ တံဆိပ်ခတ်နှိပ်ခြင်း၊ ချုပ်ဆိုခြင်းတခုခုကိုပြုကြောင်းကို ယုံကြည်စေရန်အကြံဖြင့် တဦးတယောက်သောသူသည် စာတမ်း အမှတ်အသားတခုကိုသော်ငှင်း၊ တစိတ်တဒေသကိုသော်ငှင်း မရိုးမဖြောင့်သော

သဘောနှင့်ဖြစ်စေ၊ လိမ်လည်လှည့်ဖြားလိုသည့် သဘောနှင့်ဖြစ်စေ ပြုလုပ်ခြင်း၊ လက်မှတ်ထိုးခြင်း၊ တံဆိပ်ခတ်နှိပ်ခြင်း၊ ချုပ်ဆိုခြင်း တခုခုကိုပြုလျှင်၊ သို့တည်းမဟုတ် စာတမ်းအမှတ်အသား ချုပ်ဆိုကြောင်းဖေါ်ပြသော အမှတ်အသားကိုပြုလျှင်၊ သို့တည်းမဟုတ်

**ဒုတိယ။** ။စာတမ်းအမှတ်အသားကိုမိမိကိုယ်တိုင်ကပြုလုပ်ပြီးနောက်၊ သို့တည်းမဟုတ် ချုပ်ဆိုပြီးနောက် စာတမ်းအမှတ်အသားတွင် အရေးပါသောအချက်ကို၊ ဥပဒေအရ အခွင့်မရှိဘဲ မရိုးမဖြောင့်သောသဘောနှင့်ဖြစ်စေ၊ လိမ်လည်လှည့်ဖြားလိုသော သဘောနှင့်ဖြစ်စေ ဖျက်ခြင်းဖြင့်သော်၎င်း၊ အခြားနည်းဖြင့်သော်၎င်း ပြောင်းလဲလျှင်၊ သို့တည်းမဟုတ် စာတမ်းအမှတ်အသားကိုအခြားသူကပြုလုပ်ပြီးနောက်၊ သို့တည်းမဟုတ်ချုပ်ဆိုပြီးနောက်အရေးပါသောအချက်ကိုပြောင်းလဲသောအခါက ထိုအခြားသူအသက်ရှင်လျက်ရှိသည်ဖြစ်စေ၊ သေသည်ဖြစ်စေ ထိုအရေးပါသောအချက်ကို၊ ဥပဒေအရ အခွင့်မရှိဘဲ မရိုးမဖြောင့်သောသဘောနှင့်သော်၎င်း၊ လိမ်လည်လှည့်ဖြားလိုသောသဘောနှင့်သော်၎င်း ဖျက်ခြင်းဖြင့်၊ သို့တည်းမဟုတ် အခြားနည်းဖြင့် ပြောင်းလဲလျှင်၊ သို့တည်းမဟုတ်

**တတိယ။** ။တဦးတယောက်သောသူသည် စိတ်ပေါ့သွပ်ခြင်းကြောင့်ဖြစ်စေ၊ မူးယစ်ခြင်းကြောင့်ဖြစ်စေ၊ စာတမ်းအမှတ်အသား၌ပါရှိသောအကြောင်းအရာကို၊ သို့တည်းမဟုတ် ပြောင်းလဲထားခြင်း၏သဘောကို မသိနိုင်ကြောင်း မိမိကသိလျက်နှင့်၊ သို့တည်းမဟုတ် တဦးတယောက်သောသူသည်လှည့်ဖြားခြင်းခံရခြင်းကြောင့် စာတမ်းအမှတ်အသား၌ ပါရှိသောအကြောင်းအရာကို၊ သို့တည်းမဟုတ် ပြောင်းလဲထားခြင်း၏သဘောကို မသိကြောင်း မိမိကသိလျက်နှင့် ထိုသူအားစာတမ်းအမှတ်အသားကို လက်မှတ်ရေးထိုးခြင်း၊ တံဆိပ်ခတ်နှိပ်ခြင်း၊ ချုပ်ဆိုခြင်း၊ ပြောင်းလဲခြင်းတခုခုကိုမရိုးမဖြောင့်သောသဘောနှင့်ဖြစ်စေ၊ လိမ်လည်လှည့်ဖြားလိုသည့်သဘောနှင့်ဖြစ်စေ ပြုစေလျှင်။

ဥပမာများ။

(က) မောင်မဲထံမှ ငွေ ၁၀,၀၀၀ိ ရရှိရန် မောင်နီကရေးသားပေးသော ငွေထုတ်ခွင့်စာကို မောင်ဖြူရရှိထား၏။ မောင်ဖြူသည် မောင်မဲကိုလိမ်လည်လှည့်ဖြားလိုသဖြင့် ငွေ ၁၀,၀၀၀ိ တွင် သုညတလုံးတိုးထည့်၍၊ မောင်နီကထိုသို့ရေးသားသည်ဟု မောင်မဲယုံကြည်စေရန်အကြံဖြင့် ငွေ ၁၀,၀၀၀ိ ကို ငွေ ၁,၀၀,၀၀၀ိ ဖြစ်စေ၏။ ဤတွင်မောင်ဖြူသည် လိမ်လည်အတုပြုမှုကိုကျူးလွန်၏။

(ခ) မောင်ဖြူသည် မောင်နီပိုင် မြေယာတကွက်ကို မောင်မဲအားရောင်းချ၍၊ မောင်မဲထံမှမြေဘိုးငွေကိုရရှိရန်အကြံဖြင့် မောင်နီက မောင်ဖြူအားမြေနေရာလွှဲပြောင်းခြင်းသဘောသက်ရောက်သော စာတမ်းအမှတ်အသားတွင် မောင်နီ၏ ခွင့်ပြုချက်မရရှိဘဲ မောင်နီ၏တံဆိပ်ကိုခတ်နှိပ်၏။ ဤတွင်မောင်ဖြူသည် လိမ်လည်အတုပြုမှုကိုကျူးလွန်၏။

(ဂ) ဘဏ်တိုက်စိုးတဦးထံမှ ငွေထုတ်ယူစေရန် မောင်မဲလက်မှတ်ထိုးထားသော်လည်း ငွေမည်မျှဟုဖေါ်ပြမထားသော ဆောင်ယူလာသူအား ငွေထုတ်ပေးရန်ဖြစ်သည့် ချက်လက်မှတ်တစောင်ကို မောင်ဖြူကောက်ရ၏။ မောင်ဖြူသည် လိမ်လည်လှည့်ဖြားလိုသည့်သဘောဖြင့် ချက်လက်မှတ်ပေါ်၌ ငွေတသောင်းကိုရေးထည့်၏။ ဤတွင်မောင်ဖြူသည် လိမ်လည်အတုပြုမှုကိုကျူးလွန်၏။

(ဃ) မောင်ဖြူသည် မိမိလက်မှတ်ရေးထိုးထားသည့် ချက်လက်မှတ်တစောင်ကို မောင်မဲထံ၌ထားခဲ့၏။ ထိုချက်လက်မှတ်၌ ငွေမည်မျှဟု ဖေါ်ပြမထားဘဲ မောင်မဲကထိုချက်လက်မှတ်

၌ တသောင်းထက်မပိုသောငွေကို ရေးထည့်နိုင်စေရန် မောင်မဲအား အခွင့်ပြုထား၏။ မောင်မဲသည် လိမ်လည်လှည့်ဖြားလိုသောသဘောဖြင့် ချက်လက်မှတ်တွင် ငွေနှစ်သောင်းဟု ရေးထည့်၏။ မောင်မဲသည် လိမ်လည်အတုပြုမှုကိုကျူးလွန်၏။

(င) မောင်ဖြူသည် ငွေလွှဲစာချုပ်တစောင်ကို အစစ်အမှန်အနေဖြင့် ဘဏ်တိုက်စိုးတဦးထံ၌ပြ၍လျှော့နှုန်းဖြင့်ငွေလဲယူရန်ကြံရွယ်၍၊ မောင်မဲ၏ ခွင့်ပြုချက်မရဘဲ မောင်မဲ၏ အမည်ဖြင့် မိမိအားညွှန်ကြားသော ငွေလွှဲစာချုပ်တခုကိုပြုလုပ်၏။ မောင်ဖြူသည် အချိန်စေ့သောအခါ ငွေပြန်ဆပ်၍ ထိုငွေလွှဲစာချုပ်ကိုပြန်ယူရန်အကြံရှိ၏။ သို့ပါသော်လည်းငွေလွှဲစာချုပ်၌မောင်မဲ၏အာမခံချက်ပါရှိသည်ဟု ဘဏ်တိုက်စိုးယုံကြည်စေရန် ဘဏ်တိုက်စိုးအား လိမ်လည်၍ လျှော့နှုန်းဖြင့်ငွေလဲယူရန်ကြံရွယ်လျက် ငွေလွှဲစာချုပ်ကို ပြုလုပ်သည်ဖြစ်သောကြောင့် မောင်ဖြူသည် လိမ်လည်အတုပြုမှုကိုကျူးလွန်၏။

(စ) မောင်မဲ၏ သေတမ်းစာ၌ "ကျန်ပ်ပိုင်ပစ္စည်းကျန်ရှိသမျှအားလုံးကို မောင်ဖြူ မောင်ညိုနှင့် မောင်နီတို့ညီတူညီမျှခွဲယူရရှိစေရမည်" ဟု ပါရှိလျက်နှင့် မောင်ဖြူကထိုပစ္စည်းများအားလုံးသည် မိမိနှင့် မောင်နီအတွက်သာချန်ထားခဲ့ကြောင်း ယုံကြည်စေရန် ကြံရွယ်လျက် မရိုးမဖြောင့်သောသဘောဖြင့် မောင်ညို၏အမည်ကိုခြစ်၍ ဖျက်လိုက်၏။ ဤတွင် မောင်ဖြူသည်လိမ်လည်အတုပြုမှုကိုကျူးလွန်၏။

(ဆ) အစိုးရငွေပေးကတိစာချုပ်တစောင်တွင် မောင်နီသို့ဖြစ်စေ၊ မောင်နီညွှန်ကြားသူသို့ဖြစ်စေ စာချုပ်ပါငွေကိုပေးစေရန် "မောင်နီအား၊ သို့တည်းမဟုတ် မောင်နီညွှန်ကြားသူအားပေးရန်" ဟူသော စကားတို့ကို မောင်ဖြူသည်ရေး၍ ထိုစာချုပ်တွင်လက်မှတ်ထိုး၏။ မောင်မဲသည်မရိုးမဖြောင့်သောသဘောဖြင့် "မောင်နီအား၊ သို့တည်းမဟုတ် မောင်နီညွှန်ကြားသူအားပေးရန်" ဟူသော စကားများကိုဖျက်၍ ကန့်သတ် လက်မှတ်ထိုးချက်ကို ကန့်သတ်မဲ့လက်မှတ်ထိုးချက်သို့ပြောင်းလွှဲ၏။ဤတွင်မောင်မဲသည်လိမ်လည်အတုပြုမှုကိုကျူးလွန်၏။

(ဇ) မောင်ဖြူသည် မြေယာတကွက်ကိုမောင်နီအားရောင်းချလွှဲအပ်၏။ ထိုသို့လွှဲအပ်ပြီးမှ မောင်နီကိုလိမ်လည်လှည့်ဖြား၍ မြေကိုဆုံးပါးစေရန် မောင်နီအားထိုမြေကိုမလွှဲအပ်သေးမီ၊ မောင်မဲအား လွှဲအပ်ထားပြီးဖြစ်ကြောင်း ယုံကြည်စေရန်အကြံဖြင့် မောင်နီအားလွှဲအပ်ရောင်းချသည့်နေ့ရက်မတိုင်မီ ခြောက်လကနေ့စွဲဖြင့်ရေးသား၍ ထိုမြေကိုမောင်မဲအားလွှဲအပ်ကြောင်း စာချုပ်ပြုလုပ်၏။ ဤတွင်မောင်ဖြူသည်လိမ်လည်အတုပြုမှုကိုကျူးလွန်၏။

(ဈ) မောင်မဲသည် မိမိသေတမ်းစာကို နှုတ်ဖြင့်ပြော၍ မောင်ဖြူအားရေးစေ၏။ မောင်ဖြူသည် မောင်မဲပြောဆိုသော သေတမ်းစာဖြင့် ပစ္စည်းပေးခြင်းခံရသူ၏ အမည်ကိုမရေးဘဲ အခြားအမည်တခုကိုတမင်ရေးပြီးလျှင်၊ မောင်မဲညွှန်ကြားသည့်အတိုင်း ရေးပြီးကြောင်း မောင်မဲအားပြော၍ သေတမ်းစာကိုလက်မှတ်ထိုးရန် သွေးဆောင်၏။ ဤတွင် မောင်ဖြူသည် လိမ်လည်အတုပြုမှုကိုကျူးလွန်၏။

(ည) သက်သေခံစာကို အကြောင်းပြု၍ မောင်နီနှင့် အခြားသူများထံမှအလုပ်ခံရန်အကြံဖြင့် မောင်ဖြူသည် မောင်မဲ၏အခွင့်မရရှိဘဲ သက်သေခံစာတစောင်တွင် မောင်ဖြူမှာအကျင့်စာရိတ္တကောင်းသောသူတယောက်ဖြစ်ပါသော်လည်း၊ ကံမကောင်းခြင်းကြောင့် ဆင်းရဲနွမ်းပါးသောအခြေသို့ရောက်ရှိနေကြောင်းဖော်ပြ၍မောင်မဲ၏အမည်လက်မှတ်ကိုရေးထိုး၏။ မောင်နီကိုပစ္စည်းလက်လွှတ်ဘို့သွေးဆောင်ရန် မောင်ဖြူသည် စာတမ်းလိမ်ကို ပြုသည်ဖြစ်သောကြောင့် လိမ်လည်အတုပြုမှုကိုကျူးလွန်၏။

(ဋ) မောင်နီ၏ လက်အောက်၌ အလုပ်ရရှိရန်အကြံဖြင့်၊ မောင်ဖြူသည် မောင်မဲ၏ အခွင့်မရရှိဘဲ မောင်ဖြူ၏ အကျင့်စာရိတ္တကောင်းကြောင်းသက်သေခံစာ တစောင်ရေး၍ မောင်မဲ၏ အမည်လက်မှတ်ကိုရေးထိုး၏။ လိမ်လည် အတုပြုသော သက်သေခံစာဖြင့်၊ မောင်နီအား လှည့်ဖြား၍ မောင်နီနှင့် အလုပ်ငှါး ပဋိညာဉ်အတည့်အလင်းပြုမှုအတွက် သော်၎င်း၊ ပဋိညာဉ်သဘော သက်ရောက်သော ပြုမှုအတွက်သော်၎င်း မောင်နီကို သွေးဆောင်ရန် ကြံရွယ်သည်နှင့်အမျှ မောင်ဖြူသည် လိမ်လည်အတုပြုမှုကို ကျူးလွန်၏။

**ရှင်းလင်းချက်။** ။(၁) တဦးတယောက်သောသူသည် မိမိအမည်လက်မှတ်ကို ရေးထိုးခြင်းဖြင့်ပင် လိမ်လည်အတုပြုမှုကို ကျူးလွန်ရာ ရောက်နိုင်သည်။

**ဥပမာများ။**

(က) မိမိအမည်နှင့် တူသူတဦးက ငွေလွှဲစာချုပ်ကိုလက်မှတ်ရေးထိုးသည်ဟု ယုံကြည်စေရန်အကြံဖြင့်၊ မောင်ဖြူသည်၊ ထိုငွေလွှဲစာချုပ်၌ မိမိ၏အမည်လက်မှတ်ကို ရေးထိုး၏။ ဤတွင် မောင်ဖြူသည် လိမ်လည်အတုပြုမှုကို ကျူးလွန်၏။

(ခ) မောင်မဲသည် မောင်နီထံမှ တောင်းခံသော ငွေလွှဲစာချုပ်ကို စက္ကူတရွက်၌ နောင်အခါတွင်ရေး၍၊ မောင်နီက လက်ခံပြီး ဖြစ်ဘိသကဲ့သို့ ထိုငွေလွှဲစာချုပ်ကိုလွှဲပြောင်းနိုင်ရန်အလို့ငှါမောင်ဖြူသည်စက္ကူတရွက်ပေါ်၌ "လက်ခံပြီး" ဟူသောစကားကိုရေးပြီးလျှင် မောင်နီ၏ အမည်လက်မှတ်ကိုရေးထိုး၏။ ဤတွင် မောင်ဖြူသည် လိမ်လည် အတုပြုမှုကို ကျူးလွန်သည်။ အကယ်၍ မောင်မဲသည်ထိုအကြောင်းချင်းရာကို သိလျက်နှင့် မောင်ဖြူ၏ အကြံအတိုင်း ထိုစက္ကူပေါ်တွင် ထိုငွေလွှဲစာချုပ်ကိုရေးလျှင်၊ မောင်မဲသည်လည်း လိမ်လည်အတုပြုမှုကို ကျူးလွန်၏။

(ဂ) မောင်ဖြူသည် မိမိအမည်နှင့်တူသောအခြားသူတယောက်၏ ညွှန်ကြားချက်အရ ပေးချေရန်ဖြစ်သော ငွေလွှဲစာချုပ်တစောင်ကို ကောက်ရ၏။ ငွေပေးချေစေရန် ညွှန်ကြားသူက တဆင့် လက်မှတ်ရေးထိုးသည်ကို ယုံကြည်စေရန်အကြံဖြင့် မောင်ဖြူသည် မိမိ၏ အမည်လက်မှတ်ကို ထိုငွေလွှဲစာချုပ်၌ တဆင့်လက်မှတ်ရေးထိုး၏၊ ဤတွင် မောင်ဖြူသည် လိမ်လည်အတုပြုမှုကို ကျူးလွန်၏။

(ဃ) မောင်မဲ အပေါ်တွင် ချမှတ်ထားသော ဒီကရီအတည်ပြုချက်အရ ရောင်းချသော မြေနေရာကို မောင်ဖြူကဝယ်၏။ မောင်မဲသည် မောင်ဖြူကို လိမ်လည်လှည့်ဖြားရန် အကြံဖြင့်၎င်း၊ မြေနေရာကို မသိမ်းယူမီ အငှါးချထားပြီးကြောင်း ယုံကြည်စေရန်အကြံဖြင့်၎င်း ထိုမြေနေရာကို သိမ်းယူပြီးမှ မောင်နီနှင့်ပူးပေါင်းလျက်မောင်နီအား အငှါးချသော အငှါးစာချုပ်ကို အခအနည်းငယ်မျှနှင့် ရှည်ကြာသော ကာလအတွက် ချုပ်ဆို၍၊ အဆိုပါ မြေနေရာကို မသိမ်းယူမီ ခြောက်လနေ့စွဲကို ထိုအငှါးစာချုပ်တွင် ထည့်တပ်၏။ မောင်မဲသည် ထိုအငှါးစာချုပ်ကို မိမိအမည်နှင့် ချုပ်ဆိုသည် မှန်သော်လည်း ရှေးမမှန်နေ့စွဲကို တပ်ထားသည်ဖြစ်သောကြောင့် လိမ်လည်အတုပြုမှုကို ကျူးလွန်၏။

(င) ကုန်သည်မောင်ဖြူသည် လူမွဲစာခံရမည့်သူ အဖြစ်သို့ မိမိကျရောက်မည်ကို တင်ကူး၍ သိမြင်သဖြင့်၊ မိမိ၏မြီရှင်များကို လိမ်လည်လှည့်ဖြားရန်ကြံရွယ်၍ မိမိအကျိုးအတွက် မိမိပစ္စည်းများကို မောင်မဲထံ၌ အပ်နှံထား၏။ ထို့နောက် မောင်ဖြူသည် မိမိပြုသည့် အမှုကို ယုတ္တိရှိအောင် မောင်မဲထံမှ တန်ဘိုးရှိသော တုံ့ပြန်ချက် ရရှိသည့်အတွက် မောင်မဲအား ငွေပေးဆပ်ပါမည်ဟု ငွေပေးကတိစာချုပ်ကိုရေး၍၊ မောင်ဖြူ လူမွဲအဖြစ်သို့ ကျရောက်အံ့ဆဲဆဲ

မတိုင်မီက ထိုငွေပေး ကတိစာချုပ်ကို ချုပ်ဆိုကြောင်း ယုံကြည်စေရန် အကြံဖြင့် ထိုငွေပေး ကတိစာချုပ်၌ ရေးမှန်နေ့စွဲကိုတပ်ထား၏။ ဤတွင် မောင်ဖြူသည် ဤပုဒ်မ၏ ပဌမအပိုဒ် အရ လိမ်လည်အတုပြုမှုကို ကျူးလွန်၏။

ရှင်းလင်းချက်။ ။(၂) စာတမ်း အမှတ်အသားတခုကို အမှန်စင်စစ် ရှိသူတဦးကပြုလုပ် ကြောင်း ယုံကြည်စေရန်ကြံရွယ်၍ ကြံစည်ဖန်တီးသောအမည်ဖြင့်သော်၎င်း၊ကွယ်လွန်သူတဦး အသက်ရှင်လျက် ရှိစဉ်က ပြုလုပ်ကြောင်း ယုံကြည်စေရန်ကြံရွယ်၍ ထိုကွယ်လွန်သူ၏ အမည်ဖြင့်သော်၎င်း စာတမ်းလက်ကို ပြုလုပ်ခြင်းသည် လိမ်လည်အတုပြုမှု မြောက်နိုင်သည်။

ဥပမာ။

ကြံစည်ဖန်တီးသော အမည်တခုအား ညွှန်ကြားသော ငွေလွှဲစာချုပ်တစောင်ကို မောင် ဖြူသည် ပြုလုပ်ပြီးလျှင်၊ ထိုငွေလွှဲစာချုပ်ကို လွှဲပြောင်းရန်ကြံရွယ်၍၊ ထိုကြံစည်ဖန်တီး သောအမည်နှင့်ပင် လိမ်လည်လှည့်ဖြားလိုသော သဘောဖြင့် ထိုငွေလွှဲစာချုပ်ကို လက်ခံ၏။ ဤတွင် မောင်ဖြူသည် လိမ်လည်အတုပြုမှုကို ကျူးလွန်၏။

**လိမ်လည်အတုပြုမှု အတွက် ပြစ်ဒဏ်။**

၄၆၅။ ။မည်သူမဆို၊ လိမ်လည် အတုပြုမှုကို ကျူးလွန်လျှင်၊ ထိုသူအား နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ရုံးမှတ်တမ်းကို၊ သို့တည်းမဟုတ် ပြည်သူ့ဆိုင်ရာ စာရင်း စသည်တို့ကို လိမ်လည်အတုပြုမှု။**

၄၆၆။ ။မည်သူမဆို၊ တရားရုံး၏ မှတ်တမ်းကို၊ သို့တည်းမဟုတ် အမှုတွဲကိုသော်၎င်း၊ ဖွါးစာရင်း၊ ခရစ်ယာန်ဘာသာသွင်းစာရင်း၊ ထိမ်းမြားမင်္ဂလာ စာရင်း၊ မြေမြှုပ်သင်္ဂြိုဟ်စာရင်း တခုကို၊ သို့တည်းမဟုတ် ထိုကဲ့ သို့သော စာရင်းအနေနှင့် ပြည်သူ့ဝန်ထမ်းက ထိန်းသိမ်းသော စာရင်းကိုသော်၎င်း၊ ပြည်သူ့ဝန်ထမ်း တဦးက မိမိ၏ရာထူး အလျောက်ပြုလုပ်သော သက်သေခံလက်မှတ်ကို၊ သို့တည်းမဟုတ် စာတမ်းအမှတ်အသားကိုသော်၎င်း၊ ကိုယ်စား တရားမမှု စွဲဆိုနိုင်ခွင့်ကို၊ သို့တည်းမဟုတ် ချေပနိုင်ခွင့်ကိုသော်၎င်း၊ ထိုတရားမမှု၌ မှုခင်းဆောင်ရွက်နိုင်ခွင့်ကိုသော်၎င်း၊ စွဲဆိုချက်အတိုင်း ဖြောင့်ဆိုနိုင်ခွင့်ကိုသော်၎င်း၊ ကိုယ်စားလှယ် လွှဲစာကိုသော်၎င်း လိမ်လည်အတုပြုလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**အဘိုးတန် စာတမ်း အမှတ် အသား၊ သေတမ်းစာ စသည်တို့ကို လိမ်လည်အတုပြုမှု။**

၄၆၇။ ။မည်သူမဆို၊ အဘိုးတန်စာတမ်း အမှတ်အသား သဘောသက်ရောက်သော စာတမ်းအမှတ်အသားကိုဖြစ်စေ၊ သေတမ်းစာကိုဖြစ်စေ၊ သား မွေးစားရန်ခွင့်ပြုချက်ကိုဖြစ်စေ၊အဘိုးတန်စာတမ်းအမှတ်အသား ကိုပြုရန်၊ သို့တည်းမဟုတ် လွှဲပြောင်းရန် တဦးတယောက် အား အခွင့်ပြုသည့်သဘော သက်ရောက်သော စာတမ်းအမှတ် အသားကိုဖြစ်စေ၊ ထိုအဘိုးတန်စာတမ်းအမှတ်အသားအပေါ်၌ ငွေရင်းကို၊ သို့တည်းမဟုတ် အတိုးကို၊ သို့တည်းမဟုတ် အမြတ်ဝေစုကိုရရှိသည့်သဘောသက် ရောက်သော စာတမ်းအမှတ်အသားကိုဖြစ်စေ၊ ငွေကိုသော်၎င်း၊ ရွှေပြောင်းနိုင်သော ပစ္စည်း ကိုသော်၎င်း၊ အဘိုးတန်စာတမ်းအမှတ်အသားကိုသော်၎င်းရရှိသည့်၊ သို့တည်းမဟုတ် ပေး

အပ်သည့် သဘောသက်ရောက်သော စာတမ်းအမှတ်အသားကိုဖြစ်စေ၊ ငွေပေးသည်ကို ရကြောင်းဝန်ခံသည့်လုံးဝပြေစာ၊ သို့တည်းမဟုတ် ပြေစာသဘောသက်ရောက်သော စာတမ်းအမှတ်အသားကိုဖြစ်စေ၊ ရွှေပြောင်းနိုင်သော ပစ္စည်းကိုသော်၎င်း၊ အဘိုးတန်စာတမ်းအမှတ်အသားကိုသော်၎င်း ပေးဆပ်သည့်အတွက် လုံးဝပြေစာ၊ သို့တည်းမဟုတ် ပြေစာသဘောသက်ရောက်သော စာတမ်းအမှတ်အသားကိုဖြစ်စေ လိမ်လည်အတုပြုလျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်သော်၎င်း၊ ဆယ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးသော်၎င်း ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**လိမ်လည်ရန် အလို့ငှါလိမ်လည် အတုပြုမှု။**

၄၆၈။ ။မည်သူမဆို၊ လိမ်လည်ရန်အလို့အငှါ လိမ်လည်အတုပြုထားသော စာတမ်းအမှတ်အသားကို သုံးစွဲစေရန် အကြံဖြင့် လိမ်လည်အတုပြုမှုကို ကျူးလွန်လျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**သူတပါး၏ ဂုဏ်သရေကို နစ်နာထိခိုက်စေရန် အလို့ငှါ လိမ်လည်အတုပြုမှု။**

၄၆၉။ ။မည်သူမဆို၊ လိမ်လည်အတုပြုထားသော စာတမ်း အမှတ်အသားဖြင့်တဦးတယောက်သောသူ၏ ဂုဏ်သရေကို ထိခိုက်နစ်နာ စေရန်အကြံဖြင့်သော်၎င်း၊ ထိုသို့နစ်နာထိခိုက်စေရန် အလို့ငှါ ထိုစာတမ်းအမှတ်အသားကို အသုံးပြုစေတန်ရာသည်ကို သိလျက်နှင့်သော်၎င်း လိမ်လည်အတုပြုမှုကို ကျူးလွန်လျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**လိမ်လည် အတုပြုထားသော စာတမ်း အမှတ်အသား။**

၄၇၀။ ။လိမ်လည်အတုပြုခြင်းဖြင့် လုံးဝဖြစ်စေ၊ တစိတ်တဒေသဖြစ်စေ ပြုထားသည့် မမှန်သော စာတမ်းအမှတ်အသားကို "လိမ်လည်အတုပြုထားသောစာတမ်းအမှတ်အသား" ဟု ခေါ်သည်။

**လိမ်လည် အတုပြုထားသည့် စာတမ်းအမှတ်အသားကို အစစ်အမှန် အနေနှင့် အသုံးပြုမှု။**

၄၇၁။ ။မည်သူမဆို၊ လိမ်လည်အတုပြုထားသော စာတမ်း အမှတ်အသားဖြစ်ကြောင်း မိမိသိလျက်နှင့်သော်၎င်း၊ ထိုသို့ဖြစ်ကြောင်း ယုံကြည်ရန် မိမိ၌အကြောင်းရှိလျက်နှင့်သော်၎င်း၊ ထိုစာတမ်းအမှတ်အသားကို မရိုးမဖြောင့်သော သဘောဖြင့်ဖြစ်စေ၊ လိမ်လည်လိုသည့် သဘောဖြင့်ဖြစ်စေ အစစ်အမှန်အနေနှင့် အသုံးပြုလျှင်၊ ထိုစာတမ်းအမှတ်အသားကို မိမိကိုယ်တိုင် လိမ်လည် အတုပြုဘိသကဲ့သို့ ထိုသူအား ပြစ်ဒဏ်ချမှတ်ရမည်။

**ပုဒ်မ ၄၆၇ အရ ပြစ်ဒဏ်ထိုက်သည့် လိမ်လည် အတုပြုမှုကို ကျူးလွန်ရန် အကြံဖြင့် တံဆိပ်တုံး စသည်တို့ကို ပြုမှု၊ သို့တည်းမဟုတ် လက်ရှိထားမှု။**

၄၇၂။ ။မည်သူမဆို၊ ပုဒ်မ ၄၆၇ အရ ပြစ်ဒဏ်ထိုက်သည့် လိမ်လည်အတုပြုမှုကို ကျူးလွန်ရန်အလို့ငှါ တံဆိပ်ကို၊ သို့တည်းမဟုတ် တံဆိပ်ပြားကို၊ သို့တည်းမဟုတ် ပုံသဏ္ဌာန် ထင်အောင်ပြုသော အခြားကိရိယာကို သုံးစွဲစေရန် အကြံဖြင့် ထိုတံဆိပ်၊ တံဆိပ်ပြား၊ အခြား ကိရိယာတခုခုကိုပြုလျှင်၊ သို့တည်းမဟုတ် အတုပြုလျှင်၊ သို့တည်းမဟုတ် ထိုအကြံဖြင့် ထိုတံဆိပ်၊ တံဆိပ်ပြား၊ အခြားကိရိယာတခုခုသည် အတုဖြစ်ကြောင်း သိလျက်နှင့် မိမိ၌ လက်ရှိထားလျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ခုနစ်နှစ်ထိထောင်ဒဏ် တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

အခြား ပုဒ်မ အရပြစ်ဒဏ်ထိုက်သည့် လိမ်လည် အတုပြုမှုကို ကျူးလွန်ရန်အကြံဖြင့် တံဆိပ်တု စသည် တို့ကို ပြုမှု၊ သို့တည်းမဟုတ် လက်၌ရှိ ထားမှု။

၄၇၃။ ။မည်သူမဆို၊ ပုဒ်မ ၄၆၇ မှတပါး ဤအခန်းပါ အခြားပုဒ်မ တခုခုအရ ပြစ်ဒဏ်ထိုက်သည့် လိမ်လည်အတုပြုမှုကို ကျူးလွန်ရန် အလို့ငှါ တံဆိပ်ကို၊ သို့တည်းမဟုတ်တံဆိပ်ပြားကို၊ သို့တည်းမဟုတ် ပုံသဏ္ဍာန် ထင်အောင်ပြုသော အခြား ကိရိယာကို သုံးစွဲစေရန် အကြံဖြင့် ထိုတံဆိပ်၊ တံဆိပ်ပြား၊ အခြားကိရိယာ တခုခုကို ပြုလျှင်၊သို့တည်းမဟုတ် အတုပြုလျှင်၊သို့တည်းမဟုတ် ထိုအကြံဖြင့် ထိုတံဆိပ်၊ တံဆိပ်ပြား၊ အခြားကိရိယာတခုခုသည် အတုဖြစ်ကြောင်း သိလျက်နှင့် မိမိထံ၌ လက်ရှိထားလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ပုဒ်မ ၄၆၆ ၌၊ သို့တည်းမဟုတ် ၄၆၇ ၌ ဖော်ပြထားသည့် စာတမ်း အမှတ်အသားကို လိမ်လည် အတုပြုထားကြောင်း သိလျက်နှင့်ငင်း၊အစစ် အမှန် အနေဖြင့် အသုံးပြုရန် အကြံဖြင့်ငင်း လက်ရှိထားမှု။

၄၇၄။ ။မည်သူမဆို၊ ပုဒ်မ ၄၆၆ ၌ ဖော်ပြထားသော စာတမ်းအမှတ်အသားမျိုးတခုခုကို လိမ်လည်အတုပြုထားကြောင်း သိလျက်နှင့်ငင်း၊ လိမ်လည်လှည့်ဖြားလိုသည့် သဘောနှင့်ဖြစ်စေ၊ မရိုးမဖြောင့်သောသဘောနှင့် ဖြစ်စေ အစစ်အမှန် အနေနှင့်အသုံးပြုစေရန် အကြံဖြင့်ငင်း မိမိထံ၌လက်ရှိထားလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင်ငွေဒဏ်လည်း ချမှတ်နိုင်သည်။ ထို့ပြင် အကယ်၍ ထိုစာတမ်း အမှတ်အသားသည် ပုဒ်မ ၄၆၇ တွင် ဖော်ပြထားသည့် စာတမ်း အမှတ်အသားမျိုးတခုခုဖြစ်လျှင်၊ ထိုသူကို တသက်တကျွန်းဒဏ် ဖြစ်စေ၊ ခုနစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ ချမှတ် ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ပုဒ်မ ၄၆၇ တွင် ဖော်ပြထားသည့် စာတမ်း အမှတ်အသားကိုအမှန်ဖြစ်ကြောင်း ထင်ရှားစေရန် အလို့ငှါ အသုံးပြုသည့် ပုံအမှတ်ကို၊ သို့တည်းမဟုတ် အမှတ်အသားကို အတုပြုခြင်း၊ သို့တည်းမဟုတ် အတုပြုထား သောအမှတ် အသား ပါသည့်အရာဝတ္ထုကို လက်ရှိထားခြင်း။

၄၇၅။ ။မည်သူမဆို၊ ပုဒ်မ ၄၆၇ တွင် ဖော်ပြထားသည့် စာတမ်း အမှတ်အသား အမှန် ဖြစ်ကြောင်း ထင်ရှားစေရန် အလို့ငှါ အသုံးပြုသော ပုံအမှတ်ကို၊သို့တည်းမဟုတ် အမှတ်အသားကို လိမ်လည် အတုပြုထားသော စာတမ်း အမှတ်အသားအတွက်၊ သို့တည်းမဟုတ် အရာဝတ္ထု တခုခုပေါ်တွင် နောင်အခါ လိမ်လည်အတုပြုမည်ဖြစ်သော စာတမ်းအမှတ်အသားအတွက် အမှန်ဖြစ်ဟန်ရှိအောင် အသုံးပြုစေရန် အကြံဖြင့် ဆိုခဲ့သော ပုံအမှတ်ကိုသော်ငင်း၊ အမှတ်အသားကိုသော်ငင်း ဆိုခဲ့သော အရာဝတ္ထုတခုခုအပေါ်၌ ဖြစ်စေ၊အထဲ၌ဖြစ်စေ အတုပြုလျှင်၊သို့တည်းမဟုတ် ဆိုခဲ့သော အကြံဖြင့် အပေါ်၌ဖြစ်စေ၊ အထဲ၌ဖြစ်စေ ဆိုခဲ့သောပုံအမှတ်ကို၊ သို့တည်းမဟုတ် အမှတ်အသားကို အတုပြုထားသည့် အရာဝတ္ထုကို မိမိထံ၌ လက်ရှိထားလျှင်၊ထိုသူကိုတသက်တကျွန်းဒဏ်ဖြစ်စေ၊ ခုနစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ပုဒ်မ ၄၆၇ တွင် ဖေါ်ပြထားသည့် စာတမ်း အမှတ်အသားမှ တပါး၊ အခြားစာတမ်း အမှတ် အသားကို အမှန် ဖြစ်ကြောင်း ထင်ရှားစေရန်အလို့ငှါ အသုံးပြုသည့် ပုံအမှတ်ကို၊ သို့တည်းမဟုတ် အမှတ်အသားကိုအတုပြုခြင်း၊ သို့တည်းမဟုတ် အတုပြုထားသော အမှတ်အသားပါသည့် အရာဝတ္ထု ကို လက်ရှိထားခြင်း။

၄၇၆။ ။မည်သူမဆို၊ ပုဒ်မ ၄၆၇ တွင် ဖေါ်ပြထားသည့် စာတမ်းအမှတ်အသားမှတပါး အခြားစာတမ်း အမှတ်အသားကို အမှန်ဖြစ်ကြောင်း ထင်ရှား စေရန်အလို့ငှါ အသုံးပြုသောပုံအမှတ်ကို၊သို့တည်းမဟုတ်အမှတ် အသားကို လိမ်လည်အတုပြုထားသော စာတမ်းအမှတ်အသား အတွက်၊သို့တည်းမဟုတ် အရာဝတ္ထု တခုခုပေါ်တွင် နောင်အခါ လိမ်လည်အတုပြုမည်ဖြစ်သော စာတမ်းအမှတ်အသားအတွက် အမှန်ဖြစ်ဟန်ရှိအောင် အသုံးပြုစေရန်အကြံဖြင့် ဆိုခဲ့သောပုံ အမှတ်ကိုသော်၎င်း၊အမှတ်အသားကိုသော်၎င်း ဆိုခဲ့သောအရာ ဝတ္ထုတခုခုအပေါ်၌ဖြစ်စေ၊ အထဲ၌ဖြစ်စေ အတုပြုလျှင်၊သို့တည်း မဟုတ် ဆိုခဲ့သောအကြံဖြင့် အပေါ်၌ဖြစ်စေ၊ အထဲ၌ဖြစ်စေ ဆိုခဲ့သော ပုံအမှတ်ကို၊သို့တည်းမဟုတ်အမှတ်အသားကိုအတု ပြုထားသည့် အရာဝတ္ထုကို မိမိထံ၌ လက်ရှိထားလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ် လည်း ချမှတ်နိုင်သည်။

**သေတမ်းစာကိုသော်၎င်း၊ မွေးစားရန် ခွင့်ပြုချက်ကို သော်၎င်း၊** အဘိုးတန် စာတမ်းအမှတ်အသားကို သော်၎င်း လိမ်လည် လှည့်ဖြားလိုသောသဘောဖြင့် ဖျက်သိမ်းခြင်း၊သို့တည်းမဟုတ်ဖျက်ဆီးခြင်း စသည့်အမှု။

**၄၇၇။ ။မည်သူမဆို၊** လိမ်လည်လှည့်ဖြားလိုသော သဘောဖြင့်သော်၎င်း၊မရိုးမဖြောင့် သော သဘောဖြင့်သော်၎င်း၊ အများပြည်သူကိုဖြစ်စေ၊ တဦး တယောက်သောသူကိုဖြစ်စေ ဆုံးရှုံးစေမှုကို၊သို့တည်းမဟုတ် နစ် နာစေမှုကိုဖြစ်စေရန် အကြံဖြင့်သော်၎င်းသေတမ်းစာဖြစ်သော၊ သို့တည်းမဟုတ် သေတမ်းစာသဘောသက်ရောက်သော စာတမ်း အမှတ်အသားကိုဖြစ်စေ၊ သားမွေးစားရန် ခွင့်ပြုချက်ဖြစ်သော စာ တမ်းအမှတ်အသားကိုဖြစ်စေ၊ အဘိုးတန် စာတမ်း အမှတ် အသားကိုဖြစ်စေ ဖျက်သိမ်းခြင်း၊ ဖျက်ဆီးခြင်း၊ ပုံသဏ္ဍာန် ဖျက်ခြင်းတခုခုကို ပြုလျှင်၊ သို့တည်းမဟုတ်ထိုသို့ပြုရန်အားထုတ် လျှင်၊ သို့တည်းမဟုတ် ဖုံးကွယ်လျှင်၊ သို့တည်းမဟုတ် ဖုံးကွယ်ရန် အားထုတ်လျှင်၊ သို့တည်းမဟုတ် ဆိုခဲ့သော စာတမ်း အမှတ်အသားနှင့် စပ်လျဉ်း၍ အကျိုးဖျက်ဆီးမှုကို ကျူးလွန်လျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

စာရင်းများကို မဟုတ်မမှန် ပြုခြင်း။

၄၇၇-က။ ။မည်သူမဆို၊ စာရေး၊ အရာရှိ၊ အခိုင်း အစေ တမျိုးမျိုးဖြစ်လျက်၊ သို့တည်းမဟုတ် စာရေး၊ အရာရှိ၊ အခိုင်းအစေ တမျိုးမျိုး အဖြစ်ဖြင့် စေခိုင်းခံရသူသော်၎င်း၊ဆောင်ရွက်သူသော်၎င်း ဖြစ် လျက်၊ မိမိ၏ အလုပ်ရှင်ပိုင်သော၊ သို့တည်းမဟုတ် မိမိ၏ အလုပ်ရှင် လက်ရှိဖြစ်သော၊ သို့တည်းမဟုတ် ထိုသူအတွက်ဖြစ်စေ၊ ကိုယ်စားဖြစ်စေ မိမိ လက်ခံရရှိသော စာအုပ်၊ စက္ကူ၊ အရေးအသား၊ အဘိုးတန်စာတမ်းအမှတ်အသား၊ စာရင်းတခုခုအား ဖျက်ဆီးခြင်း၊ပြောင်းလဲခြင်း၊ ဆုတ်ဖြတ်ခြင်း၊ မဟုတ်မမှန်ပြုခြင်း တခုခု ကို လိမ်လည်လှည့်ဖြားလိုသောအကြံဖြင့် တမင်ပြုလျှင်၊ သို့တည်းမဟုတ် ဆိုခဲ့သောစာအုပ်၊ စက္ကူ၊ အရေးအသား၊ အဘိုးတန်စာတမ်းအမှတ်အသား၊ စာရင်းတခုခုတွင် လိမ်လည်

လှည့်ဖြားလိုသောအကြံဖြင့် တမင်မဟုတ်မမှန် ရေးသွင်းချက်ကိုပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့ ပြုခြင်းကို အားပေးကူညီလျှင်၊ သို့တည်းမဟုတ် ဆိုခဲ့သော စာအုပ်၊ စက္ကူ၊ အရေးအသား၊ အဘိုးတန် စာတမ်း အမှတ်အသား၊ စာရင်းတခုခုမှသော်၎င်း၊ အတွင်း၌သော်၎င်း လိမ်လည်လှည့်ဖြားလိုသောအကြံဖြင့် အရေးပါသော အချက်ကို တမင်မထည့်ဘဲ ပျက်ကွက်လျှင်၊ သို့တည်းမဟုတ် ထိုပျက်ကွက်မှုကို အားပေးကူညီလျှင်၊သို့တည်းမဟုတ်ပြောင်းလဲလျှင်၊ သိတည်းမဟုတ် ထိုသို့ ပြောင်းလဲခြင်းကို အားပေးကူညီလျှင်၊ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ရှင်းလင်းချက်။** ။လိမ်လည်လှည့်ဖြားရန် ကြံရွယ်ခြင်းခံရသူ၏ အမည်ကို မဖော်ဘဲ၊ သို့တည်းမဟုတ် လိမ်လည်လှည့်ဖြားရန် ကြံရွယ်ခြင်း ခံရသည့်ငွေကို အတိအကျ မဖော်ပြဘဲ၊ သို့တည်းမဟုတ် ဖြစ်မှုကျူးလွန်သည့်နေ့ရက်ကို အသေအချာမဖော်ပြဘဲ လိမ်လည်လှည့်ဖြားရန် ယေဘုယျအကြံရှိကြောင်းကို ထုတ်ဖော် စွဲဆိုလျှင်၊ ဤပုဒ်မအရ မည်သည့်စွဲချက်အတွက် မဆို လုံလောက်သည်။

## ကုန်တံဆိပ်၊ ပစ္စည်းတံဆိပ်နှင့် အခြားတံဆိပ်များ။

၄၇၈။ **ကုန်တံဆိပ်။** ။တဦးတယောက်သောသူ၏ ထုတ်လုပ် ကုန်စည်ဖြစ်ကြောင်းကို သော်၎င်း၊ အရောင်းအဝယ် ကုန်စည်ဖြစ်ကြောင်းကို သော်၎င်း ဖော်ပြရန် အသုံးပြုသော အမှတ်အသားကို ကုန်တံဆိပ်ဟု ခေါ်သည်။

၄၇၉။ **ပစ္စည်းတံဆိပ်။** ။ရွှေ့ပြောင်းနိုင်သော ပစ္စည်းကို တဦးတယောက်သော သူပိုင်ကြောင်း ဖော်ပြရန် အသုံးပြုသော အမှတ်အသားကိုပစ္စည်းတံဆိပ်ဟု ခေါ်သည်။

၄၈၀။ **ကုန်တံဆိပ် လိမ်ကို သုံးစွဲခြင်း။** ။ကုန်စည်သည်၊ သို့တည်းမဟုတ် သေတ္တာ၊ အထုပ်၊ အခြားထည့်စရာ တခုခု၌ ပါရှိသည့် ကုန်စည်သည် တဦးတယောက်သောသူ၏ ထုတ်လုပ် ကုန်စည်၊ သို့တည်းမဟုတ် အရောင်းအဝယ် ကုန်စည်မဟုတ်ပါဘဲလျက် ဟုတ်ကြောင်း ယုံကြည်စေရန် ယုတ္တိရှိအောင် စီမံပြုလုပ်ထားသော နည်းလမ်းဖြင့် မည်သူမဆို၊ ထိုကုန်စည်များကိုသော်၎င်း၊ကုန်စည်များ ပါရှိသော ထိုသေတ္တာ၊ အထုပ်၊ အခြားထည့်စရာတခုခုကိုသော်၎င်း အမှတ်အသားပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့ အမှတ်အသားပါရှိသော သေတ္တာ၊ အထုပ်၊အခြားထည့်စရာတခုခုကို သုံးစွဲလျှင်၊ ထိုသူသည် ကုန်တံဆိပ်လိမ်ကို သုံးစွဲသည်မည်၏။

၄၈၁။ **ပစ္စည်းတံဆိပ်လိမ်ကို သုံးစွဲခြင်း။** ။ရွှေ့ပြောင်းနိုင်သည့်ပစ္စည်း၊ သို့တည်းမဟုတ် ကုန်စည်များကို၊ သို့တည်းမဟုတ် သေတ္တာ၊ အထုပ်၊အခြားထည့်စရာ တခုခု၌ ပါရှိသည့် ရွှေ့ပြောင်းနိုင်သော ပစ္စည်း၊ သို့တည်းမဟုတ် ကုန်စည်များကို တဦးတယောက်သောသူ မပိုင်ပါဘဲလျက် ပိုင်ကြောင်း ယုံကြည်စေရန်၊ ယုတ္တိရှိအောင် စီမံပြုလုပ်ထားသော နည်းလမ်းဖြင့် မည်သူမဆို၊ ထိုရွှေ့ပြောင်းနိုင်သည့် ပစ္စည်းကိုသော်၎င်း၊ ကုန်စည်များကိုသော်၎င်း၊ ထိုပစ္စည်း၊ ထိုကုန်စည် တခုခုပါဝင်သည့်

သေတ္တာ၊ အထုပ်၊ အခြားထည့်စရာတခုခုကိုသော်၎င်း အမှတ်အသားပြုလျှင်၊ သို့တည်းမဟုတ် ထိုသို့ အမှတ်အသားပါရှိသော သေတ္တာ၊ အထုပ်၊ အခြားထည့်စရာ တခုခုကို သုံးစွဲလျှင်၊ ထိုသူသည် ပစ္စည်းတံဆိပ် လိမ်ကို သုံးစွဲသည်မည်၏။

**ကုန်တံဆိပ် လိမ်ကိုဖြစ်စေ၊ ပစ္စည်း တံဆိပ်လိမ်ကို ဖြစ်စေ သုံးစွဲ သည့်အတွက် ပြစ်ဒဏ်။**

၄၈၂။ ။မည်သူမဆို ကုန်တံဆိပ်လိမ်ကိုဖြစ်စေ၊ ပစ္စည်းတံဆိပ်လိမ်ကိုဖြစ်စေ သုံးစွဲရာ၌ လိမ်လည် လှည့်ဖြားလိုသော အကြံမရှိဘဲ သုံးစွဲကြောင်းထင်ရှားအောင် သက်သေမပြနိုင်လျှင်၊ ထိုသူကို တနှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

**အခြားသူ သုံးစွဲသောကုန် တံဆိပ်ကို သော်၎င်း၊ ပစ္စည်း တံဆိပ်ကို သော်၎င်း အတု ပြုခြင်း။**

၄၈၃။ ။မည်သူမဆို အခြားသူတဦး တယောက် သုံးစွဲသော ကုန်တံဆိပ်ကိုသော်၎င်း၊ ပစ္စည်းတံဆိပ်ကိုသော်၎င်း အတုပြုလျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

**ပြည်သူ့ဝန်ထမ်း သုံးစွဲသော အမှတ်အသားကိုအတု ပြုခြင်း။**

၄၈၄။ ။မည်သူမဆို ပြည်သူ့ဝန်ထမ်း သုံးစွဲသော ပစ္စည်းတံဆိပ်ကို အတုပြုလျှင်၊ သို့တည်းမဟုတ် ပစ္စည်းတခုကို လူတဦးတယောက်ကဖြစ်စေ၊ အချိန်ကာလ တခု၌ဖြစ်စေ၊ နေရာတခု၌ဖြစ်စေ ထုတ်လုပ်ကြောင်း၊ သို့တည်းမဟုတ် ပစ္စည်းတခုသည် အမျိုးအစားတခုဖြစ်ကြောင်း၊ သို့တည်းမဟုတ် ရုံးတခုခုသို့ ရောက်ပြီး ဖြစ်ကြောင်း၊ သို့တည်းမဟုတ် ပစ္စည်းတခုသည် ကင်းလွတ်ခွင့်ရထိုက်ကြောင်း ဖေါ်ပြရန် ပြည်သူ့ဝန်ထမ်း သုံးစွဲသော အမှတ်အသားကို အတုပြုလျှင်၊ သို့တည်းမဟုတ် ဆိုခဲ့သော ပစ္စည်းတံဆိပ်ကိုသော်၎င်း၊ အမှတ်အသားကိုသော်၎င်း အတုဖြစ်ကြောင်း မိမိသိလျက်နှင့် အစစ်အမှန်အဖြစ်ဖြင့် သုံးစွဲလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

**ကုန်တံဆိပ်ကို ဖြစ်စေ၊ ပစ္စည်း တံဆိပ်ကိုဖြစ်စေ အတုပြုရန် ကိရိယာတခုခုကိုပြုလုပ်ခြင်း၊ သို့တည်းမဟုတ် လက်ရှိထားခြင်း။**

၄၈၅။ ။မည်သူမဆို ကုန်တံဆိပ်ကိုသော်၎င်း၊ ပစ္စည်းတံဆိပ်ကိုသော်၎င်း အတုပြုရန် အလို့ငှါ၊ တံဆိပ်သွန်းရန်ပုံကိုဖြစ်စေ၊ တံဆိပ်ပြားကိုဖြစ်စေ၊ အခြားကိရိယာကိုဖြစ်စေ ပြုလုပ်လျှင်၊ သို့တည်းမဟုတ် လက်ရှိထားလျှင်၊ သို့တည်းမဟုတ် ကုန်စည်များသည် တဦးတယောက်သော သူ၏ ထုတ်လုပ်ကုန်စည်၊ အရောင်းအဝယ် ကုန်စည်တခုခု မဟုတ်ပါဘဲလျက် ဟုတ်ကြောင်းကိုသော်၎င်း၊ ထိုကုန်စည်များကိုတဦးတယောက်သောသူက မပိုင်ပါဘဲလျက် ပိုင်ကြောင်းကိုသော်၎င်း ဖေါ်ပြရန်အလို့ငှါ ကုန်တံဆပ်ကိုဖြစ်စေ၊ ပစ္စည်းတံဆိပ်ကို ဖြစ်စေ လက်ရှိထားလျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ် တမျိုးမျိုးသော်၎င်း၊ ငွေဒဏ်သော်၎င်း၊ ဒဏ်နှစ်ရပ်လုံး သော်၎င်း ချမှတ်ရမည်။

**ကုန်တံဆိပ်လိမ်နှင့်ဖြစ်စေ၊ ပစ္စည်းတံဆိပ် လိမ်နှင့်ဖြစ်စေ အမှတ် အသား ထားသော ကုန်စည်များကို ရောင်းခြင်း။**

၄၈၆။ ။မည်သူမဆို၊ ကုန်တံဆိပ်လိမ်ဖြစ်စေ၊ ပစ္စည်းတံဆိပ်လိမ်ဖြစ်စေ စွဲကပ်ထားသော၊ သို့တည်းမဟုတ် ခပ်နှိပ်ထားသော ကုန်စည်များကို၊ သို့တည်းမဟုတ် အရာများကို၊ သို့တည်းမဟုတ် ကုန်တံဆိပ်လိမ်ဖြစ်စေ၊ ပစ္စည်းတံဆိပ်လိမ်ဖြစ်စေ၊ စွဲကပ်ထားသော သို့တည်းမဟုတ် ခတ်နှိပ်ထားသော သေတ္တာ၊ အထုပ်၊ အခြားထည့်စရာ တခုခု၌ ပါရှိသည့် ကုန်စည်များကို၊ သို့တည်းမဟုတ် အရာများကို ရောင်းသည်တွင်၊ သို့တည်းမဟုတ် ရောင်းရန် ပြထားသည်တွင်၊ သို့တည်းမဟုတ်ရောင်းရန်သော်၎င်း၊ ကုန်သွယ်ရန်သော်၎င်း၊ ထုတ်လုပ်ရန်သော်၎င်း လက်ရှိထားသည်တွင်—

(က) ဤပုဒ်မအရ ပြစ်မှုကျူးလွန်ခြင်းကို မဖြစ်စေရန် သင့်လျော်သော ကြိုတင်သတိပြုချက်အလုံးစုံကို ထားရှိလျက် စုပ်စွဲခံရသည့် အမှုကို ပြုသည့်အချိန်အခါ၌၊ တံဆိပ်ကို မသင်္ကာဖြစ်ရန် အကြောင်းမရှိဟူ၍၎င်း၊

(ခ) တရားစွဲဆိုသူကဖြစ်စေ၊ သို့တည်းမဟုတ် ကိုယ်စားဖြစ်စေ တောင်းဆိုသောအခါ အဆိုပါကုန်စည်များကို၊ သို့တည်းမဟုတ် အရာများကိုမည်သူ့ ထံမှရရှိကြောင်း မိမိတတ်နိုင်သမျှ သတင်းအလုံးစုံကို ပေးခဲ့သည်ဟူ၍၎င်း သက်သေအထင်အရှားမပြနိုင်လျှင်၊ သို့တည်းမဟုတ်

(ဂ) မိမိသည် အခြားနည်းဖြင့် အပြစ်ကင်းစွာ ပြုခဲ့သည်ဟု သက်သေအထင်အရှားမပြနိုင်လျှင်

ထိုသူကို တနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ကုန်စည်များ ပါရှိသော ထည့်စရာ အပေါ်၌ အမှတ် အသားလိမ်ပြုခြင်း။**

၄၈၇။ ။သေတ္တာ၊ အထုပ်၊ ထည့်စရာတခုခုတွင်ကုန်စည်မပါရှိဘဲလျက်၊ ပါရှိကြောင်းကို၊ သို့တည်းမဟုတ် ပါရှိပါလျက် မပါရှိကြောင်းကို၊ သို့တည်းမဟုတ် ပါရှိသော ကုန်စည်များသည် ပစ္စည်းမှန်၊ သို့တည်းမဟုတ် အမျိုးမှန်မဟုတ်ပါဘဲလျက် ဟုတ်ကြောင်းကို ပြည်သူ့ ဝန်ထမ်းအားသော်၎င်း၊ သူတပါးအားသော်၎င်း ယုံကြည်စေရန် ယုတ္တိရှိအောင် စီမံပြုလုပ်ထားသော နည်းလမ်းဖြင့် မည်သူမဆို၊ ကုန်စည်များပါရှိသော သေတ္တာ၊ အထုပ်၊ အခြားထည့်စရာတခုခုအပေါ်၌၊ အမှတ်အသားလိမ် ပြုလုပ်သည်တွင်၊ လိမ်လည်လှည့်ဖြားလိုသော အကြံမရှိဘဲ မိမိပြုလုပ်ကြောင်း ထင်ရှားအောင် သက်သေမပြနိုင်လျှင်၊ ထိုသူကို သုံးနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**ဆိုခဲ့သော အမှတ်အသားလိမ်ကို သုံးစွဲသည့် အတွက် ပြစ်ဒဏ်။**

၄၈၈။ ။မည်သူမဆို၊ တဆက်တည်း ဖြစ်သော အထက်ပုဒ်မအရ တနည်းနည်းဖြင့် တားမြစ်ထားသော အဆိုပါ အမှတ်အသားလိမ်ကို သုံးစွဲသည်တွင်၊ လိမ်လည် လှည့်ဖြားလိုသော အကြံမရှိဘဲ မိမိပြုလုပ်ကြောင်း ထင်ရှားအောင် သက်သေ မပြနိုင်လျှင်၊ ထိုသူကို ထိုပုဒ်မအရ ပြစ်မှုကျူးလွန်ဘိသကဲ့သို့ ပြစ်ဒဏ်ချမှတ်ရမည်။

၄၇၉။ ။မည်သူမဆို၊ လူတဦးတယောက်အား နစ်နာစေရန် ကြံရွယ်လျက်သော်၎င်း၊ ထိုသို့နစ်နာစေတန်ရာသည်ကို သိလျက်နှင့် သော်၎င်း ပစ္စည်းတံဆိပ်ကို ဖယ်ရှားခြင်း၊ ဖျက်ဆီးခြင်း၊ ပုံသဏ္ဌာန်ဖျက်ခြင်း၊ထပ်ထည့်ခြင်း တခုခုပြုလျှင်၊ထိုသူကို တနှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

နစ်နာစေရန် အကြံဖြင့် ပစ္စည်းတံဆိပ်ကို တမျိုးတဖုံ ပြုခြင်း။

## ငွေစက္ကူနှင့် ဘဏ်ငွေလက်မှတ်များ။

၄၇၉-က။ ။မည်သူမဆို၊ ငွေစက္ကူကိုဖြစ်စေ၊ ဘဏ်ငွေလက်မှတ်ကိုဖြစ်စေ လိမ်လည်အတုပြုလျှင်၊ သို့တည်းမဟုတ် မိမိသိလျက်နှင့် ထိုသို့လိမ်လည်အတုပြုမှုလုပ်ငန်း အဆင့်ဆင့်တွင် အဆင့်တခုခုကို ပြုလျှင်၊ ထိုသူကို တသက်တကျွန်း ဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ငွေစက္ကူများကို ဖြစ်စေ၊ ဘဏ်ငွေလက်မှတ်များကို ဖြစ်စေ လိမ်လည် အတုပြုခြင်း။

ရှင်းလင်းချက်။ ။ဤပုဒ်မနှင့် ပုဒ်မ ၄၇၉ (ခ)၊ ၄၇၉ (ဂ)၊ ၄၇၉ (ဃ) များ၏ ကိစ္စအလို့ငှါ၊ ဘဏ်ငွေလက်မှတ် ဆိုသည်မှာ၊ ကမ္ဘာပေါ်ရှိ အရပ်ဒေသတခုခု၌ ဘဏ်လုပ်ငန်းကို လုပ်ကိုင်သူက ထုတ်သည်လည်းဖြစ်၍၊ သို့တည်းမဟုတ် နိုင်ငံတော်ကဖြစ်စေ၊ အချုပ်အခြာအာဏာပိုင်ကဖြစ်စေ၊ နိုင်ငံတော်၏ အမိန့်အရဖြစ်စေ၊ အချုပ်အခြာ အာဏာပိုင်၏ အမိန့်အရဖြစ်စေ ထုတ်သည်လည်းဖြစ်၍၊ ငွေနှင့်အလားတူသော်၎င်း၊ ငွေအစားသော်၎င်း သုံးစွဲရန်ကြံရွယ်သည်လည်း ဖြစ်သော ငွေပေးကတိစာချုပ်ကို၊ သို့တည်းမဟုတ် ဝန်ခံချက် စာတမ်းကိုဆိုလိုသည်။ ထိုငွေပေးကတိစာချုပ်နှင့် ဝန်ခံချက် စာတမ်းတို့သည်ဆောင်ယူလာသူ တောင်းခံသည့်အခါတွင် ဆောင်ယူလာသူအား ငွေပေးရန် ဖြစ်သော အရာများဖြစ်သည်။

၄၇၉-ခ။ ။မည်သူမဆို၊ ငွေစက္ကူအတုကိုသော်၎င်း၊ ဘဏ်ငွေလက်မှတ် အတုကိုသော်၎င်း အတုပြုထားကြောင်းသိလျက်ဖြစ်စေ၊ထိုသို့ပြုထားကြောင်း ယုံကြည်ရန် အကြောင်းရှိလျက်ဖြစ်စေ ရောင်းခြင်း၊ ဝယ်ခြင်း၊ လက်ခံခြင်း၊ အခြားနည်းကုန်သွယ်ခြင်း၊ အစစ်အမှန်အနေဖြင့် သုံးစွဲခြင်းတခုခုကိုပြုလျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

ငွေစက္ကူအတုကို ဖြစ်စေ၊ ဘဏ်ငွေ လက်မှတ်အတုကို ဖြစ်စေ အစစ်အမှန် အနေဖြင့် သုံးစွဲခြင်း။

၄၇၉-ဂ။ ။မည်သူမဆို၊ငွေစက္ကူအတုကိုသော်၎င်း၊ဘဏ်ငွေလက်မှတ်အတုကိုသော်၎င်း အတုပြုထားကြောင်းကို သိလျက်၊ သို့တည်းမဟုတ် ထိုသို့ပြုထားကြောင်း ယုံကြည်ရန် အကြောင်းရှိလျက်၊ ထိုပြင် အစစ်အမှန်အနေဖြင့် သုံးစွဲရန်၊ သို့တည်းမဟုတ် သုံးစွဲ နိုင်ရေး ကြံရွယ်လျက် လက်ရှိထားလျှင်၊ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ငွေစက္ကူအတုကို ဖြစ်စေ၊ ဘဏ်ငွေ လက်မှတ် အတုကို ဖြစ်စေ လက်ရှိထားခြင်း။

၄၈၉-ဃ။ ။မည်သူမဆို၊ ငွေစက္ကူကိုသော်၎င်း၊ ဘဏ်ငွေလက်မှတ်ကိုသော်၎င်း အတုပြုမှုအတွက် အသုံးပြုရန်ဖြစ်စေ၊ ထိုသို့အသုံးပြုရန် ရည်ရွယ်သည်ကို သိလျက်နှင့်၊ သို့တည်းမဟုတ် ယုံကြည်ရန် အကြောင်းရှိလျက်နှင့်ဖြစ်စေ စက်ကိရိယာကို၊ သို့တည်းမဟုတ် ကိရိယာကို၊ သို့တည်းမဟုတ် ဝတ္ထုပစ္စည်းကို ပြုလုပ်လျှင်၊ သို့တည်းမဟုတ် စက်ကိရိယာ၊ ကိရိယာ၊ ဝတ္ထုပစ္စည်း တခုခု ပြုမှုလုပ်ငန်းအဆင့်ဆင့်တွင် အဆင့်တခုခုကို ပြုလုပ်လျှင်၊ သို့တည်းမဟုတ် ဝယ်ခြင်း၊ ရောင်းခြင်း၊ စီမံခန့်ခွဲခြင်း တခုခုပြုလျှင်၊ သို့တည်းမဟုတ် လက်ရှိထားလျှင်၊ ထိုသူကို တသက်တကျွန်းဒဏ်ဖြစ်စေ၊ ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ ချမှတ်ရမည့်ပြင် ငွေဒဏ်လည်းချမှတ်နိုင်သည်။

ငွေစက္ကူကိုဖြစ်စေ၊ ဘဏ်ငွေလက်မှတ်ကို ဖြစ်စေ အတုပြုရန် ကိရိယာကို သော်၎င်း၊ ပစ္စည်းများကို သော်၎င်း ပြုလုပ်ခြင်း၊ သို့တည်းမဟုတ် လက်ရှိထားခြင်း။

## အခန်း ၁၉။

## ဆောင်ရွက်မှုပဋိညာဉ်ကို ရာဇဝတ်ပြစ်ဒဏ်ထိုက်အောင် ဖေါက်ဖျက်ခြင်း။

၄၉၀။ ။ * * * *

၄၉၁။ ။မည်သူမဆို၊ အသက်ငယ်ခြင်းကြောင့်သော်၎င်း၊ စိတ်ပေါ့သွပ်ခြင်းကြောင့်သော်၎င်း၊ ရောဂါစွဲကပ်ခြင်းကြောင့်သော်၎င်း၊ ကိုယ်လက်အင်္ဂါချည့်နဲ့ခြင်းကြောင့်သော်၎င်း အားကိုးရာမဲ့သော၊ သို့တည်းမဟုတ် မိမိ၏လုံခြုံမှုအတွက် ကိုယ်တိုင်မစွမ်းဆောင်နိုင်သော၊ သို့တည်းမဟုတ် မိမိအလိုရှိသည်ကို မိမိကိုယ်တိုင် မဖြည့်စွမ်းနိုင်သောသူကို ဥပဒေနှင့်အညီ ပြုလုပ်သည့် ပဋိညာဉ်အရ ပြုစုကြည့်ရှုရန်၊ သို့တည်းမဟုတ် ထိုသူ၏အလိုများကိုဖြည့်စွမ်းရန် တာဝန်ရှိပါလျက် ထိုတာဝန်ကို မိမိအလိုအလျောက် မဆောင်မရွက် ချန်လှပ်ထားလျှင်၊ ထိုသူကို သုံးလအထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ နှစ်ရာထိငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အားကိုးရာမဲ့ဖြစ်သူကို ပြုစု ကြည့်ရှု၍၊ အလိုရှိသည့် အရာများကို ဖြည့်စွမ်း ရန် ဖြစ်သော ပဋိညာဉ်ကိုဖေါက်ဖျက်မှု။

၄၉၂။ ။ * * * *

## အခန်း ၂၀။

## ထိမ်းမြားခြင်းဆိုင်ရာ ပြစ်မှုများ။

၄၉၃။ ။မည်သည့်ယောကျ်ားမဆို၊ မိမိနှင့် တရားဝင်ထိမ်းမြားခြင်းမပြုသော မိန်းမကို မိမိနှင့် တရားသဖြင့် ထိမ်းမြားကြောင်း လှည့်ဖြားယုံကြည်စေ၍ ထိုသို့ယုံကြည်စေသဖြင့် မိမိနှင့် ကာမစပ်ယှက်စေလျှင်၊ ထိုသူကို ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

တရားဝင် ထိမ်းမြားကြောင်းကို ယုံကြည်စေရန်၊ ယောကျ်ားက လှည့်ဖြားလိုသော သဘောဖြင့် သွေးဆောင်၍ ကာမ စပ်ယှက်ခြင်း။

၄၉၄။ ။မည်သူမဆို၊ အသက်ရှင်သောလင်ဖြစ်စေ၊ မယားဖြစ်စေ သည်ဖြစ်၍နေသော် ထပ် ထိမ်းမြားရာတွင်၊ ထိုလင်ဖြစ်စေ၊ ထိုမယားဖြစ်စေ အသက်ရှင်လျက် ရှိခြင်းကြောင့် ထိမ်းမြားခြင်း အတည်မဖြစ်သော ကိစ္စမျိုး၌ နောက်ထပ်ထိမ်းမြားလျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

လင်၊ သို့တည်း မဟုတ် မယားရှိနေစဉ်ကာလအတွင်း ထပ်မံ ထိမ်းမြားခြင်း။

ကင်းလွတ်ချက်။ ။မူလထိမ်းမြားခြင်းသည် အတည်မဖြစ်ဟု စီရင်ပိုင်ခွင့်ရှိသော ရုံးတော်က စီရင်ဆုံးဖြတ်ပြီးဖြစ်လျှင်၊ ဤပုဒ်မနှင့် မသက်ဆိုင်စေရ။

အထက်လင်သော်၎င်း၊ အထက်မယားသော်၎င်း အသက်ရှိစဉ် ကာလအတွင်း နောက်ထပ် ထိမ်းမြားသည့်ကိစ္စတွင်၊ ထိုလင်သည်၊ သို့တည်းမဟုတ် ထိုမယားသည် ခုနစ်နှစ်တိုင်တိုင်မလာ မရောက်ရှိလျှင်၎င်း၊ ထိုအချိန်ကာလအတွင်း၌လည်းထိုလင်၊ သို့တည်းမဟုတ် ထိုမယား အသက်ရှင်လျက်ရှိသည်ဟု မကြားခဲ့လျှင်၎င်း၊ နောက်ထပ်ထိမ်းမြားမည့်သူကိုထိမ်းမြားခြင်း မပြုမီ မိမိသိသမျှဖြစ်သော အကြောင်းချင်းရာအမှန်ကို ဖွင့်ပြောလျှင်၎င်း ဤပုဒ်မနှင့် မသက်ဆိုင်စေရ။

၄၉၅။ ။မည်သူမဆို၊ နောက်ထပ်ထိမ်းမြားမည့်သူအား၊ အထက်ကထိမ်းမြားခြင်း အကြောင်းကို ထိမ်ချန်၍၊ တဆက်တည်းဖြစ်သောအထက်ပုဒ်မ၌ ဖော်ပြထားသည့် ပြစ်မှုကို ကျူးလွန်လျှင်၊ ထိုသူကို ဆယ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ်လည်း ချမှတ်နိုင်သည်။

နောက်ထပ်ထိမ်းမြားမည့်သူအား၊ အထက်က ထိမ်းမြားခြင်းအကြောင်းကို ထိမ်ချန်သည့် အတွက် ထပ်တူ ပြစ်ဒဏ်။

၄၉၆။ ။မည်သူမဆို၊ မရိုးမဖြောင့်သော သဘောဖြင့်ဖြစ်စေ၊ လိမ်လည်လှည့်ဖြားလို သော အကြံဖြင့်ဖြစ်စေ တရားဝင် ထိမ်းမြားခြင်းမမြောက်သည် ကို သိလျက်နှင့် ထိမ်းမြားခြင်းအခမ်းအနားကို ခံယူလျှင်၊ ထိုသူ ကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုး ချမှတ်ရမည့်ပြင် ငွေဒဏ် လည်း ချမှတ်နိုင်သည်။

တရားဝင် ထိမ်းမြားခြင်း မမြောက်ဘဲ လိမ်လည်လှည့် ဖြားလိုသော သဘောဖြင့် ထိမ်းမြားခြင်း အခမ်းအနား ကို ခံယူမှု။

၄၉၇။ ။မည်သူမဆို၊ လင်ရှိမယားလည်းဖြစ်၍ လင်ရှိမယားဖြစ်ကြောင်းမိမိသိသည် လည်းဖြစ်သော၊ သို့တည်းမဟုတ် ထိုသို့ဖြစ်ကြောင်းမိမိယုံကြည် ရန်အကြောင်း ရှိသည်လည်းဖြစ်သောမိန်းမကို လင်ဖြစ်သူသဘော မတူဘဲသော်၎င်း၊ အလိုတူရာရောက်ခြင်းမရှိဘဲသော်၎င်း ကာမစပ်ယှက်ခြင်းပြုရာ၌ မုဒိမ်းမှု မမြောက်လျှင်၊ မယားခိုးမှုကိုကျူးလွန်ခြင်းဖြစ်၍၊ ထိုသူကို ငါးနှစ်ထိထောင်ဒဏ်တမျိုးမျိုး ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။ ထိုအမှုမျိုးတွင် မယားဖြစ်သူကို အားပေးကူညီသူ အဖြစ်ဖြင့် ပြစ်ဒဏ်မထိုက်စေရ။

မယားခိုးမှု။

*ရာဇဝတ် မကင်းသော အကြံနှင့် တရားဝင် မယား ကိုဖြားယောင်းခြင်းဖြင့်ထွက် သွားစေခြင်း၊ သို့တည်းမ ဟုတ်ဆောင်ယူ သွားခြင်း၊ သို့တည်း မဟုတ် တားဆီး ခြင်း။*

၄၉၈။ ။မည်သူမဆို၊ လင်ရှိမယားလည်းဖြစ်၍ လင်ရှိမယားဖြစ်ကြောင်း မိမိသိသည်လည်းဖြစ်သော၊ သို့တည်းမဟုတ် ထိုသို့ဖြစ်ကြောင်း မိမိယုံကြည်ရန် အကြောင်းရှိသည်လည်းဖြစ်သော မိန်းမကို တဦးတယောက်သောသူနှင့် မတရား ကာမစပ်ယှက်ခြင်းပြုစေရန် အကြံဖြင့် ထိုမိန်းမ၏ လင်ထံမှဖြစ်စေ၊ ထိုလင်၏ ကိုယ်စား ထိန်းသိမ်းစောင့်ရှောက်သူထံမှဖြစ်စေဆောင်ယူသွားလျှင်၊ သို့တည်းမဟုတ် ဖြားယောင်းခြင်းအားဖြင့် ထွက်သွားစေလျှင်၊ သို့တည်းမဟုတ် ထိုအကြံဖြင့်ထိုမိန်းမကိုဝှက်သိမ်းလျှင်၊ သို့တည်းမဟုတ် တားဆီးလျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

# အခန်း ၂၁။

## အသရေဖျက်မှု။

*အသရေဖျက်မှု။*

၄၉၉။ ။မည်သူမဆို၊ နှုတ်ဖြင့်ဖြစ်စေ၊ ဖတ်ရှုစေရန် ကြံရွယ်သည့်စကားဖြင့်ဖြစ်စေ၊ အမှတ်အသားဖြင့်ဖြစ်စေ၊ ထင်ရှားသော ပုံသဏ္ဍာန်ဖြင့်ဖြစ်စေ လူတဦးတယောက်၏ အသရေကို နစ်နာစေရန် အကြံဖြင့်သော်၎င်း၊ ထိုသူနှင့်စပ်လျဉ်းသော စွပ်စွဲခြင်းသည် ထိုသူ၏အသရေကို နစ်နာစေမည်ဟု သိလျက်နှင့်သော်၎င်း၊ ထိုသို့ယုံကြည်ရန် အကြောင်းရှိလျက်နှင့်သော်၎င်း ထိုသူနှင့်စပ်လျဉ်းသော စွပ်စွဲချက်ကိုပြုလျှင်၊ သို့တည်းမဟုတ်၊ ကြေညာလျှင်၊ ထိုသူသည် အောက်ပါကင်းလွတ်ချက်များမှတပါး၊ အဆိုပါ လူ၏အသရေကို ဖျက်သည်မည်၏။

ရှင်းလင်းချက် ၁။ ။သေသူ တဦးတယောက်ကို စွပ်စွဲသော စွပ်စွဲချက်သည် ထိုသူ အသက်ရှင်လျက် ရှိနေပါက ထိုသူ၏အသရေကို နစ်နာစေမည်ဖြစ်လျှင်၎င်း၊ ထိုသူ၏မိသားစုအား၊ သို့တည်းမဟုတ် အခြားဆွေမျိုးအရင်းများအား၊ စိတ်နှလုံးထိခိုက်စေရန် ကြံရွယ်လျှင်၎င်း သေသူကိုစွပ်စွဲခြင်းသည် အသရေဖျက်မှု မြောက်နိုင်သည်။

ရှင်းလင်းချက် ၂။ ။ကုမ္ပဏီကို ကုမ္ပဏီအဖြစ်ဖြင့်သော်၎င်း၊အသင်းကိုအသင်းအဖြစ်ဖြင့်သော်၎င်း၊ လူတစုကို လူတစုအဖြစ်ဖြင့်သော်၎င်း စွပ်စွဲခြင်းသည် အသရေဖျက်မှု မြောက်နိုင်သည်။

ရှင်းလင်းချက် ၃။ ။တခုမဟုတ်လျှင် တခုဟုတ်ကြောင်း စွပ်စွဲခြင်းသည်၊ သို့တည်းမဟုတ် သရော်၍စွပ်စွဲခြင်းသည် အသရေဖျက်မှု မြောက်နိုင်သည်။

ရှင်းလင်းချက် ၄။ ။စွပ်စွဲချက်တခုသည် လူတဦးတယောက်၏ အကျင့်စာရိတ္တကိုသော်၎င်း၊ ဉာဏ်ပညာ အရည်အချင်းကိုသော်၎င်း၊ ထိုသူ၏ မျိုးရိုးဇာတ်နှင့်ဖြစ်စေ၊ အလုပ်အကိုင်နှင့်ဖြစ်စေ စပ်လျဉ်းသော ကျင့်ဝတ်ကိုသော်၎င်း၊ ထိုသူ၏စီးပွါးရေးဂုဏ်ကိုသော်၎င်း တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ အထင်အမြင်သေးခြင်းမဖြစ်စေလျှင်၊ သို့တည်းမဟုတ် ထိုသူ၏ ကိုယ်အင်္ဂါသည်စက်ဆုပ်ဖွယ်ဖြစ်သည်ဟုသော်၎င်း၊ ယေဘုယျအားဖြင့် ရှက်ဖွယ်ထားအခြေ၌ ရှိသည်ဟုသော်၎င်း သူတပါးယုံကြည်ခြင်း မဖြစ်စေလျှင်၊ ထိုစွပ်စွဲချက်သည် ထိုသူ၏အသရေကို ဖျက်သည်မမည်။

ဥပမာများ။

(က) မောင်မဲ၏ ခါးပိုက်ဆောင်နာရီကို မောင်နီခိုးယူကြောင်း ယုံကြည်စေရန် အကြံဖြင့် မောင်ဖြူက "မောင်နီသည် ရိုးသားသူပါ၊ မောင်မဲ၏နာရီကိုသူဘယ်တော့မှ မခိုးခဲ့ပါ" ဟုပြော၏။ ထိုသို့ ပြောခြင်းသည် ကင်းလွတ်ချက် တခုခု၌ မပါဝင်လျှင်၊ အသရေဖျက်မှု ဖြစ်သည်။

(ခ) မောင်မဲ၏ နာရီကို မည်သူခိုးယူကြောင်းမေးရာ၊ မောင်ဖြူက မောင်နီခိုးယူကြောင်း ယုံကြည်စေရန်အကြံဖြင့် မောင်နီကို ညွှန်ပြ၏။ ထိုသို့ညွှန်ပြခြင်းသည် ကင်းလွတ်ချက် တခုခု၌မပါဝင်လျှင်၊ အသရေဖျက်မှုဖြစ်သည်။

(ဂ) မောင်မဲ၏ နာရီကို မောင်နီခိုးယူကြောင်း ယုံကြည်စေရန်အကြံဖြင့် မောင်မဲ၏ နာရီကို မောင်နီယူဆောင် ပြေးသွားနေသော ရုပ်ပုံကို မောင်ဖြူရေးဆွဲ၏။ ထိုသို့ရေးဆွဲခြင်းသည် ကင်းလွတ်ချက်တခုခု၌ မပါဝင်လျှင်၊ အသရေဖျက်မှုဖြစ်သည်။

**ပဌမကင်းလွတ်ချက်။** ။တဦးတယောက်သောသူနှင့် စပ်လျဉ်း၍၊ မှန်ကန်သော စွပ်စွဲချက်ကိုအများပြည်သူ အကျိုးအတွက် ပြုလုပ်ရန်၊ သို့တည်းမဟုတ် ကျေညာရန် သင့်သည်ဖြစ်လျှင်၊ ထိုစွပ်စွဲချက်သည် အသရေဖျက်မှု ဖြစ်သည်မမည်။ အများပြည်သူအကျိုးအတွက် ဟုတ် မဟုတ်ဆိုသောအချက်မှာ ကြောင်းချင်းရာ ပြဿနာ ဖြစ်သည်။

အများ ပြည်သူ၏ အကျိုး အတွက် ပြုလုပ်ရန်၊ သို့တည်း မဟုတ် ကျေညာရန် လိုအပ်သည့် မှန်ကန်သော အရာကို စွပ်စွဲခြင်း။

**ဒုတိယကင်းလွတ်ချက်။** ။ပြည်သူ့ဝန်ထမ်းအဖြစ်ဖြင့် အလုပ်ဝတ်တရားဆောင်ရွက်ရာတွင်၊ ထိုပြည်သူ့ဝန်ထမ်း၏ အပြုအမူနှင့်စပ်လျဉ်း၍သော်၎င်း၊ ထိုပြည်သူ့ဝန်ထမ်း၏ အကျင့်စာရိတ္တသည် ထိုသူ၏ အပြုအမူ၌ထင်ပေါ်နေသည်အထိ ထိုသူ၏ အကျင့်စာရိတ္တနှင့် စပ်လျဉ်း၍သော်၎င်း တဦးတယောက်သောသူက သဘောရိုးဖြင့် မိမိ၏ထင်မြင်ချက်ကို ဖေါ်ပြခြင်းသည် အသရေဖျက်မှု ဖြစ်သည်မမည်။

ပြည်သူ့ ဝန်ထမ်း၏ တာဝန် ဝတ်တရား ဆိုင်ရာ အပြုအမူ။

**တတိယကင်းလွတ်ချက်။** ။ အများပြည်သူ့ပြဿနာဆိုင်ရာ တဦးတယောက်သောသူ၏ အပြုအမူနှင့်စပ်လျဉ်း၍၎င်း၊ ထိုသူ၏ အကျင့်စာရိတ္တသည် ထိုသူ၏ အပြုအမူ၌ ထင်ပေါ်နေသည်အထိ ထိုသူ၏ အကျင့် စာရိတ္တနှင့်စပ်လျဉ်း၍၎င်း တဦးတယောက်သောသူက သဘောရိုးဖြင့် မိမိ၏ထင်မြင်ချက်ကို ဖေါ်ပြခြင်းသည် အသရေဖျက်မှုဖြစ်သည် မမည်။

အများ ပြည်သူ့ပြဿနာ ဆိုင်ရာ တဦး တယောက် သော သူ၏ အပြုအမူ။

ဥပမာ။

မောင်မဲသည် အများပြည်သူဆိုင်ရာ ပြဿနာနှင့် စပ်လျဉ်း၍၊ အစိုးရထံလျှောက်ထားရာတွင်ဖြစ်စေ၊ အများပြည်သူဆိုင်ရာ ပြဿနာနှင့်စပ်လျဉ်း၍၊ အစည်းအဝေးတခု ကျင်းပရန်တောင်းဆိုလွှာ၌ လက်မှတ်ရေးထိုးရာတွင်ဖြစ်စေ၊ ထိုသို့သော အစည်းအဝေးတွင် အကြီး

အမှုးပြုလုပ်ဆောင်ရွက်ရာတွင်၊ သို့တည်းမဟုတ် တက်ရောက်ရာတွင်ဖြစ်စေ၊ အများပြည်သူ၏ အကူအညီကို တောင်းခံဖွဲ့စည်းသည့်အသင်းကို တည်ထောင်ရာတွင်၊ သို့တည်းမဟုတ် ထို အသင်း၌ပါဝင်ရာတွင်ဖြစ်စေ၊ အများပြည်သူ၏ အကျိုးနှင့် သက်ဆိုင်သော အလုပ်ဝတ်တရားများကို ကျွမ်းကျင်စွာဆောင်ရွက်သည့် ရာထူးနေရာအတွက် လူတဦးတယောက်အား မဲပေးရာတွင်၊ သို့တည်းမဟုတ် ထိုသူအတွက် မဲတောင်းရာတွင်ဖြစ်စေ မောင်မဲ၏ အပြုအမူနှင့် စပ်လျဉ်းသော ထင်မြင်ချက်ကို မောင်ဖြူက သဘောရိုးနှင့် ပေါ်ပြခြင်းသည် အသရေဖျက်မှု ဖြစ်သည်မမည်။

**စတုတ္ထကင်းလွတ်ချက်။** ။တရားရုံးတခု၏ မှုခင်းဆောင်ရွက်ချက် များကိုဖြစ်စေ၊ မှုခင်း ဆောင်ရွက်ပြီးပြတ်ပုံကိုဖြစ်စေ အရေးပါသော အချက်အလက်များ၌ မှန်ကန်စွာ ကျေညာခြင်းသည် အသရေဖျက်မှုဖြစ်သည် မမည်။

တရား ရုံးများ၏ မှုခင်း ဆောင် ရွက် ချက် များ ကို ကျေညာခြင်း။

**ရှင်းလင်းချက်။** ။တရားရုံးတရုံးတွင် စစ်ဆေးစီရင်ခြင်းမပြုမီ၊ လူသိရှင်ကြားစစ်ဆေးမေးမြန်းခြင်းကိုပြုသော ရာဇဝတ်တရားသူကြီးသည်၊ သို့တည်းမဟုတ် အခြားအရာရှိသည် အထက်ပုဒ်မ၏ အဓိပ္ပါယ်အရ တရားရုံးဖြစ်သည်။

**ပဉ္စမကင်းလွတ်ချက်။** ။တရားရုံးက စီရင်ဆုံးဖြတ်ပြီးသောတရားမမှု၏၊ သို့တည်းမဟုတ် ရာဇဝတ်မှု၏ အရည်အသွေးနှင့် စပ်လျဉ်း၍သော်၎င်း၊ ထိုအမှုတွင် အမှုသည်၏၊ သို့တည်းမဟုတ် သက်သေ၏၊ သို့တည်းမဟုတ် ကိုယ်စားလှယ်အဖြစ်ဖြင့် ဆောင်ရွက်သောသူ၏ အပြုအမူနှင့် စပ်လျဉ်း၍သော်၎င်း၊ ထိုသူ၏ အကျင့်စာရိတ္တသည် ထိုသူ၏ အပြုအမူ၌ ထင်ပေါ်နေသည်အထိ ထိုသူ၏အကျင့်စာရိတ္တနှင့်စပ်လျဉ်း၍သော်၎င်း တဦးတယောက်သောသူက သဘောရိုးဖြင့် မိမိ၏ ထင်မြင်ချက်ကို ပေါ်ပြခြင်းသည် အသရေဖျက်မှုဖြစ်သည်မမည်။

တရားရုံးတွင် စီရင် ဆုံးဖြတ်သည့် အမှု၏အရည် အသွေး၊သို့တည်းမဟုတ် သက်သေ များနှင့် အခြား သက်ဆိုင်သူများ၏ အပြုအမူ။

## ဥပမာများ။

(က) မောင်ဖြူက "ထိုအမှုကို စစ်ဆေးစီရင်ရာ၌၊ မောင်မဲ၏ သက်သေထွက်ချက်သည်ဆန့်ကျင်ကွဲလွဲလှသဖြင့် မောင်မဲသည် ဥာဏ်တုံးသူသော်၎င်း၊ မရိုးမဖြောင့်သူသော်၎င်း ဖြစ်ရမည် ကျွန်ုပ်ထင်ပါသည်" ဟုပြောဆို၏။ မောင်ဖြူက သဘောရိုးဖြင့် ထိုသို့ ပြောဆိုလျှင်၊ ပြောဆိုသောထင်မြင်ချက်သည် သက်သေအဖြစ်ဖြင့် မောင်မဲ၏ အပြုအမူ၌ထင်ပေါ်နေသော မောင်မဲ၏၊ အကျင့်စာရိတ္တနှင့် သက်ဆိုင်သည့်အထိသာလျှင် ပြောဆိုသောထင်မြင်ချက်ဖြစ်သောကြောင့် မောင်ဖြူသည် ဤကင်းလွတ်ချက်၌ သက်ဝင်သည်။

(ခ) သို့သော်လည်း မောင်ဖြူက "မောင်မဲသည် သမာဓိကင်းမဲ့သူဖြစ်ကြောင်းကျွန်ုပ် သိသောကြောင့်၊ ထိုအမှုစစ်ဆေးရာ၌၊ မောင်မဲ၏ ထွက်ဆိုချက်ကို ကျွန်ုပ်မယုံကြည်" ဟု ပြောဆို၏။ မောင်မဲ၏ အကျင့်စာရိတ္တနှင့် စပ်လျဉ်း၍ ထိုသို့ပြောဆိုသောမောင်ဖြူ၏ ထင်မြင်ချက်သည် သက်သေအဖြစ်ဖြင့် မောင်မဲ၏ အပြုအမူ၌ အခြေခံထားခြင်းမရှိသော ထင်မြင်ချက်ဖြစ်သောကြောင့် မောင်ဖြူသည် ဤကင်းလွတ်ချက်နှင့် မသက်ဝင်ချေ။

အထင်အရှား ဆောင်ရွက်မှု၏ အရည် အသွား။

ဆဋ္ဌမကင်းလွတ်ချက်။ ။လူအများက ဝေဖန်ချက်ပြုရန် စာရေးဆရာ တဦးကတင်ပြသော အထင်အရှားဆောင်ရွက်မှု၏ အရည်အသွေးနှင့် စပ်လျဉ်း၍သော်၎င်း၊ ထိုစာရေးဆရာ၏အကျင့်စာရိတ္တသည် ထိုဆောင်ရွက်မှု၌ ထင်ပေါ်နေသည်အထိ ထိုစာရေးဆရာ၏ အကျင့်စာရိတ္တနှင့် စပ်လျဉ်း၍သော်၎င်း၊ တဦးတယောက်သောသူက မိမိ၏ထင်မြင်ချက်ကို သဘောရိုးဖြင့် ဖေါ်ပြခြင်းသည် အသရေဖျက်မှု ဖြစ်သည် မမည်။

ရှင်းလင်းချက်။ ။လူအများဝေဖန်နိုင်ရန် အထင်အရှားဆောင်ရွက်မှုတခုကို အတည့်အလင်းဖေါ်ပြခြင်းဖြင့်သော်၎င်း၊ လူအများဝေဖန်နိုင်ရန် တင်ပြခြင်းသဘော သက်ရောက်သည့် ဆောင်ရွက်သူ၏ ပြုလုပ်မှုများဖြင့်သော၎င်း တင်ပြနိုင်သည်။

## ဥပမာများ။

(က) စာအုပ်တအုပ်ကို ပုံနှိပ်ထုတ်ဝေသောသူသည်၊ မိမိ၏ စာအုပ်ကို လူအများဝေဖန်ချက်ပြုရန် တင်ပြခြင်းဖြစ်သည်။

(ခ) ပရိသတ်ရှေ့တွင် မိန့်ခွန်းစကား ပြောဆိုသောသူသည်၊ မိမိ၏ မိန့်ခွန်းစကားကို လူအများဝေဖန်ချက်ပြုရန် တင်ပြခြင်းဖြစ်သည်။

(ဂ) လူအများသွားရောက် ကြည့်ရှုသည့် ဇာတ်စင်ပေါ်၌ ကပြ သီဆိုသော သဘင်သည်တဦးသည်၊ မိမိ၏ ကပြ သီဆိုခြင်းကိုလူအများဝေဖန်ချက်ပြုရန် တင်ပြခြင်းဖြစ်သည်။

(ဃ) မောင်မဲ ပုံနှိပ်ထုတ်ဝေသော စာအုပ်ကို မောင်ဖြူက "မောင်မဲ၏စာအုပ်သည် အကျိုးမရှိ၊ မဖတ်အပ်၊ မောင်မဲသည် ပညာချို့တဲ့သူဖြစ်၏။ မောင်မဲ၏စာအုပ်သည် ညစ်ညမ်း၏။ မောင်မဲသည်သဘောထား မဖြူစင်သောသူဖြစ်၏။ "ဟုပြောဆို၏။ မောင်ဖြူက သဘောရိုးဖြင့် ထိုသို့ပြောဆိုလျှင်၊ ပြောဆိုသော ထင်မြင်ချက်သည် မောင်မဲ၏ စာအုပ်၌ ထင်ပေါ်နေသမျှဖြစ်သော မောင်မဲ၏အကျင့်စာရိတ္တနှင့် သက်ဆိုင်သည်အထိသာလျှင် ပြောဆိုသောထင်မြင်ချက်ဖြစ်သောကြောင့်မောင်ဖြူသည် ဤကင်းလွတ်ချက်၌ သက်ဝင်သည်၊

(င) သို့သော်လည်း မောင်ဖြူက "မောင်မဲသည်ပညာချို့တဲ့၍ ကာမဂုဏ်လိုက်စားသူဖြစ်သောကြောင့် သူ၏စာအုပ်သည်အကျိုးမရှိခြင်း၊ မဖတ်အပ်ခြင်း၊ ညစ်ညမ်းခြင်း ဖြစ်သည်မှာ အံ့သြစရာမရှိ "ဟုပြောဆို၏။ မောင်မဲ၏အကျင့်စာရိတ္တနှင့်စပ်လျဉ်း၍ထိုသို့ပြောဆိုသော မောင်ဖြူ၏ ထင်မြင်ချက်သည် မောင်မဲ၏စာအုပ်ပေါ်၌ အခြေခံထားခြင်းမရှိသော ထင်မြင်ချက်ဖြစ်သောကြောင့် မောင်ဖြူသည် ဤကင်းလွတ်ချက်၌ မသက်ဝင်ချေ။

တဦး တယောက် သောသူအပေါ်၌ ဥပဒေနှင့် အညီ အခွင့် အာဏာ ရှိသူက သဘောရိုးဖြင့် အပြစ်ဆိုခြင်း။

သတ္တမကင်းလွတ်ချက်။ ။ဥပဒေအရဖြစ်စေ၊ ဥပဒေနှင့်အညီ ပြုလုပ်သောပဋိညာဉ်အရဖြစ်စေ တဦးတယောက်သောသူအပေါ်၌ အခွင့်အာဏာ ရှိသူက ထိုအခွင့်အာဏာနှင့် သက်ဆိုင်သော ကိစ္စများတွင် ထိုတဦးတယောက်သောသူ၏ အပြုအမူကို သဘောရိုးဖြင့် အပြစ်ဆိုခြင်းသည် အသရေဖျက်မှုဖြစ်သည် မမည်။

ဥပမာ။

တရားသူကြီးတဦးက သက်သေတဦး၏၊ သို့တည်းမဟုတ် ရုံးအရာရှိတဦး၏ အပြုအမူကို သဘောရိုးဖြင့် အပြစ်ဆိုခြင်း၊ ဌာနအကြီးအကဲက မိမိ၏ လက်အောက်ခံရာထမ်းမှုထမ်းတို့ကို သဘောရိုးဖြင့် အပြစ်ဆိုခြင်း၊ မိဘက သားသမီးကိုအခြားကလေးများရှေ့တွင် သဘောရိုးဖြင့် အပြစ်ဆိုခြင်း၊မိဘဖြစ်သူ၏အခွင့်ကို ရရှိသည့်ကျောင်းဆရာက တပည့်ကို အခြားတပည့်များရှေ့တွင် သဘောရိုးဖြင့် အပြစ်ဆိုခြင်း၊ အရှင်ဖြစ်သူက မိမိ၏အစေခံကို အလုပ်ပေါ့လျော့ လစ်ဟင်းသည့်အတွက် သဘောရိုးဖြင့် အပြစ်ဆိုခြင်း၊ ဘဏ်တိုက်စိုးက မိမိ၏ဘဏ်တိုက်ငွေကိုင်စာရေးကို ငွေကိုင်စာရေး၏ အပြုအမူနှင့်စပ်လျဉ်း၍ သဘောရိုးဖြင့် အပြစ်ဆိုခြင်းတို့သည် ကင်းလွတ်ချက်၌ သက်ဝင်သည်။

**အဋ္ဌမကင်းလွတ်ချက်။** ။စွပ်စွဲသည့် အကြောင်းအရာနှင့် စပ်လျဉ်း၍ တဦးတယောက်သောသူအပေါ်၌ ဥပဒေနှင့်အညီ အခွင့်အာဏာရှိသော သူအားထိုတဦး တယောက်အကြောင်းကို သဘောရိုးဖြင့် ပြောဆိုစွပ်စွဲခြင်းသည် အသရေဖျက်မှု ဖြစ်သည်မမည်။

လူ တဦးတယောက် အကြောင်းကို အခွင့် အာဏာရှိသူအား သဘော ရိုးဖြင့် ပြောဆိုစွပ်စွဲခြင်း။

ဥပမာ။

ရာဇဝတ်တရားသူကြီးရှေ့တွင် မောင်ဖြူက သဘောရိုးဖြင့် မောင်မဲကို စွပ်စွဲလျှင်၎င်း၊ မောင်ဖြူက အစေခံမောင်မဲ၏ အပြုအမူကို မောင်မဲ၏ ဆရာအား သဘောရိုးဖြင့် တိုင်တန်းလျှင်၎င်း၊ မောင်ဖြူက ကလေးဖြစ်သူမောင်မဲ၏ အပြုအမူကို မောင်မဲ၏ ဘခင်အား သဘောရိုးဖြင့် တိုင်တန်းလျှင်၎င်း မောင်ဖြူသည် ကင်းလွတ်ချက်၌ သက်ဝင်သည်။

**နဝမကင်းလွတ်ချက်။** ။အခြားသူ တယောက်၏အကျင့်စာရိတ္တကို ထိခိုက်အောင် စွပ်စွဲရာ၌၊ စွပ်စွဲသူက သဘောရိုးဖြင့် မိမိ၏ အကျိုးကိုသော်၎င်း၊ သူတပါး၏အကျိုးကိုသော်၎င်း ကာကွယ်စောင့်ရှောက်ရန် စွပ်စွဲခြင်းသည်၊ သို့တည်းမဟုတ် အများပြည်သူ၏ အကျိုးအတွက် စွပ်စွဲခြင်းသည် အသရေဖျက်မှုဖြစ်သည်မမည်။

တဦး၊ တယောက်သောသူက မိမိ၏ အကျိုးကို၊ သို့တည်းမဟုတ် အခြားသူ၏ အကျိုးကို ကာကွယ် စောင့်ရှောက်ရန် သဘောရိုးဖြင့်စွပ်စွဲခြင်း။

ဥပမာများ။

(က) ဆိုင်ရှင် မောင်ဖြူက မိမိ၏ မန်နေဂျာ မောင်မဲအား "မောင်နီသည် ငွေပြောင်သူမဟုတ်ဟု ကျွန်ုပ်ထင်သည်။ထို့ကြောင့် ငွေလက်ငင်းမပေးလျှင်၊ သူ့အား ဘာမျှမရောင်းနှင့်" ဟု ပြော၏။ မောင်ဖြူသည် မိမိ၏ အကျိုးကို ကာကွယ် စောင့်ရှောက်ရန် မောင်နီအား သဘောရိုးဖြင့် စွပ်စွဲခြင်းပြုလျှင်၊ မောင်ဖြူသည် ဤကင်းလွတ်ချက်၌ သက်ဝင်သည်။

(ခ) ရာဇဝတ်တရားသူကြီး မောင်ဖြူသည် မိမိ၏ အထက်အရာရှိထံ အစီရင်ခံရာ၌၊ မောင်နီ၏ အကျင့်စာရိတ္တကို ထိခိုက်အောင် စွပ်စွဲ၏။ ဤတွင် စွပ်စွဲခြင်းကို သဘောရိုးဖြင့် အများပြည်သူ၏ အကျိုးအတွက် ပြုသည်ဖြစ်လျှင်၊ မောင်ဖြူသည် ဤကင်းလွတ်ချက်၌ သက်ဝင်သည်။

**ဒသမကင်းလွတ်ချက်။** ။အခြားသူတဦးတယောက်အကြောင်းနှင့် စပ်လျဉ်း၍၊ တဦးတယောက်သောသူအား သတိပေးရာတွင်၊ သတိပေးသူကသတိပေးခြင်းခံရသူ၏ အကျိုးအတွက် သော်၎င်း၊ ထိုသူကအကျိုးလိုလားသောသူ၏ အကျိုးအတွက်သော်၎င်း၊အများပြည်သူ၏ အကျိုးအတွက်သော်၎င်း ရည်ရွယ်၍ သဘောရိုးဖြင့် သတိပေးခြင်းဖြစ်လျှင်၊ အသရေ ဖျက်မှုဖြစ်သည်မမည်။

သတိ ပေးခြင်းခံရသူ အကျိုး အတွက်ဖြစ်စေ၊အများပြည်သူ၏ အကျိုး အတွက် ဖြစ်စေ ရည်ရွယ်၍ သတိပေးခြင်း။

၅၀၀။ ။မည်သူမဆို၊ အခြားသူ တဦး၏ အသရေကို ဖျက်လျှင်၊ ထိုသူကို နှစ်နှစ်ထိအလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

**အသရေဖျက်မှုအတွက်ပြစ်ဒဏ်။**

၅၀၁။ ။မည်သူမဆို၊ အကြောင်းအရာတခုကို ပုံနှိပ်ရာတွင်၊ သို့တည်းမဟုတ် ထုထွင်းရာတွင်၊ ထိုအကြောင်းအရာသည် တဦးတယောက်သောသူ၏ အသရေကို ပျက်စေသည်ဟု သိလျှင်၊ သို့တည်းမဟုတ်ထိုသို့ပျက်စေသည်ဟု ယုံကြည်ရန် အကြောင်းရှိလျှင်၊ထိုသူကို နှစ်နှစ်ထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

အသရေ ပျက်စေမည်ဟု သိသော အကြောင်းအရာကို ပုံနှိပ်ခြင်း၊ သို့တည်း မဟုတ် ထုထွင်းခြင်း။

၅၀၂။ ။မည်သူမဆို၊ တဦးတယောက်သောသူ၏ အသရေပျက်စေသော အကြောင်းအရာပါရှိသည့် ပုံနှိပ်ထားသော အရာကိုဖြစ်စေ၊ ထုထွင်းထားသောအရာကိုဖြစ်စေ ရောင်းရာတွင်၊ သို့တည်းမဟုတ် ရောင်းရန်ကမ်းလှမ်းရာတွင်၊ ထိုသို့ အသရေပျက်စေသည့် အကြောင်း ပါရှိသည်ဟုသိလျှင်၊ ထိုသူကို နှစ်နှစ်ထိ အလုပ်မဲ့ ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အသရေ ပျက်စေသော အကြောင်း ပါရှိသည့် ပုံနှိပ်ထားသော အရာကိုဖြစ်စေ၊ ထုထွင်းထားသော အရာကို ဖြစ်စေရောင်းခြင်း။

## အခန်း ၂၂။

## ရာဇဝတ်မကင်းသောခြောက်လှန့်မှု၊ စော်ကားမှုနှင့် စိတ်ပြိုငြင်စေမှုများ။

၅၀၃။ ။မည်သူမဆို၊ တခြားသူတဦးတယောက်၏ ကိုယ်ကိုသော်၎င်း၊ဂုဏ်သရေကိုသော်၎င်း၊ ပစ္စည်းကိုသော်၎င်း၊ ထိုအခြားသူက အကျိုးလိုလားသောသူ၏ ကိုယ်ကိုသော်၎င်း၊ ဂုဏ်သရေကိုသော်၎င်း နစ်နာစေမည်ဟု ခြိမ်းခြောက်ရာတွင်၊ ထိုသို့ခြိမ်းခြောက်ခြင်းသည် ထိုသူအား ထိတ်လန့်ခြင်းဖြစ်စေရန် အကြံဖြင့် ခြိမ်းခြောက်ခြင်းဖြစ်လျှင်၊ သို့တည်းမဟုတ် ခြိမ်းခြောက်သည့်အတိုင်း ပြုလုပ်ခြင်းခံရမည်ကို ရှောင်ရှားနိုင်ရန် အကြောင်းအဖြစ်ဖြင့် ဥပဒေအရ ပြုလုပ်ရန် တာဝန်မရှိသော ပြုလုပ်မှုကို ထိုသူအား ပြုစေရန် အကြံဖြင့်သော်၎င်း၊

ရာဇဝတ် မကင်းသော ခြောက်လှန့်မှု။

ဥပဒေအရ ပြုလုပ်ပိုင်ခွင့်ရှိသော ပြုလုပ်မှုကို ထိုသူအား မပြုမလုပ်ပျက်ကွက်စေရန် အကြံဖြင့်သော်၎င်း ခြိမ်းခြောက်ခြင်းဖြစ်လျှင်၊ ထိုသူသည် ရာဇဝတ်မကင်းသော ခြောက်လှန့်မှုကို ကျူးလွန်သည်မည်၏။

ရှင်းလင်းချက်။ ။ခြိမ်းခြောက်ခြင်းခံရသူက အကျိုးလိုလားသော သေသူ၏ အသရေကို နစ်နာစေမည်ဟု ခြိမ်းခြောက်ခြင်းသည် ဤပုဒ်မ၌ သက်ဝင်သည်။

ဥပမာ။

တရားမမှုကို မောင်မဲမစွဲဆိုအောင် မောင်မဲကို သွေးဆောင်ရန်အလို့ငှါ မောင်ဖြူက မောင်မဲ၏အိမ်ကို မီးရှို့မည်ဟု ခြိမ်းခြောက်၏။ ဤတွင် မောင်ဖြူသည် ရာဇဝတ်မကင်းသော ခြောက်လှန့်မှုကို ကျူးလွန်၏။

ငြိမ်ဝပ်ရေး ပျက်ပြားစေရန် အကြံဖြင့် တမင်စော်ကားခြင်း။

၅၀၄။ ။မည်သူမဆို၊ တဦးတယောက်သောသူအား တမင်စော်ကား၍ ဒေါသထွက်စေမှုကို ပြုသည်တွင်၊ ထိုသို့ဒေါသထွက်စေမှုပြုခြင်းသည် ထိုသူက နိုင်ငံတော် ငြိမ်ဝပ်ရေးကိုဖျက်ဆီးစေရန် အကြံဖြင့်သော်၎င်း၊ ထိုသို့ ဖျက်ဆီးတန်ရာသည်ကို သိလျက်နှင့်သော်၎င်း၊ အခြားပြစ်မှုတခုခုကို ထိုသူက ကျူးလွန်စေရန်အကြံဖြင့်သော်၎င်း၊ ထိုသို့ ကျူးလွန်တန်ရာသည်ကို သိလျက်နှင့်သော်၎င်း ပြုခြင်းဖြစ်လျှင်၊ ထိုသူကို နှစ်နှစ်ထိထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အများပြည်သူ၏ အကျိုးပျက်စီးစေမှုကိုဖြစ်သောပေါ်ပြချက်။

၅၀၅။ ။မည်သူမဆို၊ ပေါ်ပြချက်ကိုဖြစ်စေ၊ ကောလာဟလကိုဖြစ်စေ၊ သတင်းကိုဖြစ်စေပြုရာတွင်၊ သို့တည်းမဟုတ် ထုတ်ပြန်ကျေညာရာတွင်၊ သို့တည်းမဟုတ် ဖြန့်ချိရာတွင်——

(က) ပြည်ထောင်စု အစိုးရ၏ ကြည်း၊ ရေ၊ လေတပ် တခုခုမှအရာရှိအား၊ သို့တည်းမဟုတ် တပ်သားအား စစ်ပုန်ကန်ခြင်းကိုသော်၎င်း၊ သက်ဆိုင်ရာမိမိ၏ တာဝန်ဝတ်တရားကို မလေးစားခြင်းသော်၎င်း၊ ပျက်ကွက်ခြင်းသော်၎င်း ပြုစေရန်အကြံရှိလျှင်၊ သို့တည်းမဟုတ် ထိုသို့ပြုစေတန်ရာသည့် အကြောင်းရှိလျှင်၊ သို့တည်းမဟုတ်

(ခ) နိုင်ငံတော် အစိုးရကိုဖြစ်စေ၊ နိုင်ငံတော်ငြိမ်ဝပ်ရေးကိုဖြစ်စေ ထိခိုက်သည့် ပြစ်မှုကို တဦး တယောက်သောသူကကျူးလွန်ချင်လာအောင်အများပြည်သူကိုသော်၎င်း၊ အများပြည်သူ၏ သီးခြားလူစုကိုသော်၎င်း ကြောက်ခြင်း၊ ထိတ်လန့်ခြင်း တခုခုဖြစ်စေရန် အကြံရှိလျှင်၊ သို့တည်းမဟုတ် ထိုသို့ဖြစ်စေတန်ရာသည့် အကြောင်းရှိလျှင်၊ သို့တည်းမဟုတ်

(ဂ) လူအမျိုးအစား အချင်းချင်းဖြစ်စေ၊ လူမျိုးစု အချင်းချင်းဖြစ်စေ တဘက်နှင့်တဘက်ပြစ်မှု ကျူးလွန်အောင်လှုံ့ဆော်ရန်အကြံရှိလျှင်၊ သို့တည်းမဟုတ် အဆိုပါ လှုံ့ဆော်ခြင်းကို ဖြစ်စေတန်ရာသည့် အကြောင်းရှိလျှင်၊

ထိုသူကို နှစ် နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံး ဖြစ်စေ ချမှတ်ရမည်။

**ကင်းလွတ်ချက်**။ ။တဦးတယောက်သောသူသည် ပေါ်ပြူချက်ကိုဖြစ်စေ၊ ကောလာဟလကိုဖြစ်စေ၊ သတင်းကိုဖြစ်စေ ပြုရာတွင်၊ သို့တည်းမဟုတ် ထုတ်ပြန်ကျေညာရာတွင်၊ သို့တည်းမဟုတ် ဖြန့်ချီရာတွင်၊ ထိုပေါ်ပြူချက်သော်၎င်း၊ ထိုကောလာဟလသော်၎င်း၊ ထိုသတင်းသော်၎င်း မှန်ကန်သည်ဟု ယုံကြည်ရန် အကြောင်းရှိသည့်ပြင် အထက်ကဆိုခဲ့သော အကြံမရှိဘဲပြုလျှင်၊ သို့တည်းမဟုတ် ထုတ်ပြန်ကျေညာလျှင်၊ သို့တည်းမဟုတ် ဖြန့်ချီလျှင် ဤပုဒ်မ၏ အဓိပ္ပါယ်အရ ပြစ်မှုမမြောက်။

ရာဇဝတ် မကောင်းသော ခြောက်လှန့်မှုအတွက် ပြစ်ဒဏ်။

၅၀၆။ ။မည်သူမဆို၊ ရာဇဝတ်မကောင်းသော ခြောက်လှန့်မှုကို ကျူးလွန်လျှင်၊ ထိုသူကို နှစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

အကယ်၍ ခြိမ်းခြောက်ခြင်းသည် သေစေရန်၊ သို့တည်း မဟုတ် အပြင်းအထန်နာကျင်စေရန် စသည်တို့ဖြစ်လျှင်။

အကယ်၍ ခြိမ်းခြောက်ခြင်းသည် သေစေမည်ဟုသော်၎င်း၊ အပြင်းအထန်နာကျင် စေမည်ဟုသော်၎င်း၊ ပစ္စည်းကို မီးဖြင့် ပျက်စီးစေမည်ဟုသော်၎င်း၊ သေဒဏ်ဖြစ်စေ၊ တကျွန်းပို့ဒဏ်ဖြစ်စေ၊ ခုနစ်နှစ်ထိ ထောင်ဒဏ်ဖြစ်စေထိုက်သောပြစ်မှုကိုကျူးလွန်မည်ဟုသော်၎င်း၊ ကာမ ဖေါက်ပြန်ကြောင်းဖြင့် မိန်းမတဦးအား စွပ်စွဲမည်ဟု သော်၎င်း ခြိမ်းခြောက်ခြင်းဖြစ်လျှင်၊ ထိုသူကို ခုနစ်နှစ်ထိ ထောင်ဒဏ်တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ပစ်စာဖြင့် ရာဇဝတ် မကောင်းသော ခြောက်လှန့်မှု။

၅၀၇။ ။မည်သူမဆို၊ ပစ်စာဖြင့်သော်၎င်း၊ ခြိမ်းခြောက်သူ၏ အမည်ကိုဖြစ်စေ၊ နေရပ်ကိုဖြစ်စေ ထိမ်ချန်ရန် ကြိုတင်ပြုလုပ်ပြီးမှသော်၎င်း၊ ရာဇဝတ်မကောင်းသော ခြောက်လှန့်မှုကို ကျူးလွန်လျှင်၊ ထိုသူကို တဆက်တည်းဖြစ်သော အထက်ပုဒ်မအရ ပြစ်ဒဏ်အပြင် နှစ်နှစ်ထိ ထောင်ဒဏ် တမျိုးမျိုးချမှတ်ရမည်။

သက်ဆိုင်ရာ ဘာသာ အယူ ဝါဒအရ အပြစ်ရောက်မည်ဟု ယုံကြည်စေရန် တဦးတယောက်သော သူအား ဖျေးဆောင်ခြင်းဖြင့် ပြုလုပ်မှု။

၅၀၈။ ။မည်သူမဆို၊ မိမိက ပြုလုပ်စေလိုသည့်အရာကို တဦးတယောက်သောသူက မပြုလုပ်လျှင်၊ သို့တည်းမဟုတ် မိမိကမပြုလုပ်စေလိုသည့် အရာကို ထိုသူက ပြုလုပ်လျှင်၊ မိမိ၏ ပြုလုပ်မှု တခုခုကြောင့် ထိုသူသော်၎င်း၊ ထိုသူက အကျိုးလိုလားသူသော်၎င်း၊ သက်ဆိုင်ရာ ဘာသာ အယူဝါဒအရ အပြစ်ရောက်မည်ဟု ယုံကြည်စေရန် ထိုသူအားသွေးဆောင်ခြင်းဖြင့်၊ သို့တည်းမဟုတ် ထိုသို့သွေးဆောင်ရန် အားထုတ်ခြင်းဖြင့် ဥပဒေအရ ထိုသူပြုလုပ်ရန် တာဝန်မရှိသော ပြုလုပ်မှုကို ထိုသူအား မိမိအလိုအလျောက် ပြုလုပ်စေလျှင်၊ သို့တည်းမဟုတ် ထိုသို့ပြုလုပ်စေရန် အားထုတ်လျှင်၊ သို့တည်းမဟုတ် ဥပဒေအရ ထိုသူ ပြုလုပ်ပိုင်ခွင့်ရှိသော ပြုလုပ်မှုကို ထိုသူအား မိမိအလိုအလျောက် မပြုလုပ်ဘဲ နေစေလျှင်၊ သို့တည်းမဟုတ် ထိုသို့မပြုလုပ်ဘဲ နေစေရန် အားထုတ်လျှင်၊ ထိုသူကို တနှစ်ထိ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

ဥပမာများ

(က)

(ခ)

မိန်းမတို့ ကာယိန္ဒြေကိုစော်ကားရန် ရည်ရွယ်သော စကား၊ သို့တည်းမဟုတ် ကိုယ် အမူအရာ၊ သို့တည်းမဟုတ်ပြုလုပ်မှု။

၅၀၉။ ။မည်သူမဆို၊ မိန်းမတဦးဦး၏ကာယိန္ဒြေကိုစော်ကားရန်ကြံရွယ်၍ ပြောဆိုခြင်းပြုသည်တွင်၊ သို့တည်းမဟုတ် အသံပြုသည်တွင်၊ သို့တည်းမဟုတ် ကိုယ်အမူအရာကို ပြသသည်တွင်၊ သို့တည်းမဟုတ် အရာဝတ္ထုတခုခုကို ပြသည်တွင်၊ ပြောဆိုသော စကားကိုဖြစ်စေ၊ ပြုသော အသံကို ဖြစ်စေ ထိုမိန်းမအား ကြားစေရန် ကြံရွယ်လျှင်၊ သို့တည်းမဟုတ် ပြုသောကိုယ်အမူအရာကိုဖြစ်စေ ပြသောအရာဝတ္ထုကိုဖြစ်စေ ထိုမိန်းမအား မြင်စေရန် ကြံရွယ်လျှင်၊ သို့တည်းမဟုတ် ထိုမိန်းမ၏ ကာယိန္ဒြေကို စော်ကားရန်ကြံရွယ်၍ ထိုမိန်းမ၏ ဆိတ်ကွယ်ရာသို့ ကျူးကျော်လျှင်၊ ထိုသူကို တနှစ်ထိ အလုပ်မဲ့ထောင်ဒဏ်ဖြစ်စေ၊ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

မူးယစ်သူက အများနှင့် ဆိုင်သော နေရာ၌မလျော်စေသော အမူကိုပြုခြင်း။

၅၁၀။ ။မည်သူမဆို၊ မူးယစ်လျက် အများပြည်သူနှင့် ဆိုင်သော နေရာသို့ဖြစ်စေ၊ မိမိလာရောက်လျှင် ကျူးကျော်ရာဖြစ်မည့် နေရာသို့ ဖြစ်စေ လာရောက်၍ ထိုနေရာတွင် တဦးတယောက်သောသူအား စိတ်ပြင်းအောင် ပြုမူလျှင်၊ ထိုသူကို နှစ်ဆယ့်လေးနာရီထိ အလုပ်မဲ့ထောင်ဒဏ်ဖြစ်စေ၊ တဆယ်ထိ ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

## အခန်း ၂၃။

## ပြစ်မှုကျူးလွန်ရန်အားထုတ်မှုများ။

တကျွန်း ပို့ဒဏ် ဖြစ်စေ၊ ထောင်ဒဏ်ဖြစ်စေထိုက်သော ပြစ်မှုများကို ကျူးလွန်ရန် အားထုတ်ခြင်းအတွက် ပြစ်ဒဏ်။

၅၁၁။ ။မည်သူမဆို၊ ဤရာဇသတ်ကြီးအရ တကျွန်းပို့ဒဏ်ဖြစ်စေ၊ ထောင်ဒဏ်ဖြစ်စေထိုက်သော ပြစ်မှုကို ကျူးလွန်ရန်သော်၎င်း၊ ထိုသို့သော ပြစ်မှုကို ကျူးလွန်ရန်သော်၎င်း အားထုတ်၍၊ ထိုသို့အားထုတ်ရာတွင် ပြစ်မှုကျူးလွန်ခြင်းသို့ ရှေးရှုသော ပြုလုပ်မှု တခုခုကိုပြုရာ၌၊ အဆိုပါအားထုတ်မှုအတွက် ပြစ်ဒဏ်ချမှတ်ရန် ဤရာဇသတ်ကြီး၌ အတည့်အလင်းပြဋ္ဌာန်းထားခြင်းမရှိလျှင်၊ ထိုသူကို သက်ဆိုင်ရာပြစ်မှုအတွက် ပြဋ္ဌာန်းသော အများဆုံး ကာလအပိုင်းအခြား၏ ထက်ဝက်အထိ တကျွန်းပို့ဒဏ်ဖြစ်စေ၊ ထောင်ဒဏ် တမျိုးမျိုးဖြစ်စေ၊ ထိုပြစ်မှုအတွက် ပြဋ္ဌာန်းသည့်ငွေဒဏ်ဖြစ်စေ၊ ဒဏ်နှစ်ရပ်လုံးဖြစ်စေ ချမှတ်ရမည်။

### ဥပမာများ။

(က) မောင်ဖြူသည် သေတ္တာတလုံးကိုခွဲဖေါက်ပြီးလျှင် ကျောက်မျက်ရတနာအချို့ကို ခိုးယူရန်အားထုတ်၏။ သေတ္တာကို ဖွင့်ပြီးသောအခါ ကျောက်မျက်ရတနာမရှိသည်ကိုသိရ၏။ ဤတွင် မောင်ဖြူသည် ခိုးမှု ကျူးလွန်ခြင်းသို့ ရှေးရှုသော ပြုလုပ်မှုကို ပြုပြီးသောကြောင့် ဤပုဒ်မအရ ပြစ်မှုကို ကျူးလွန်၏။

(ခ) မောင်ဖြူသည် မောင်မဲ၏ အင်္ကျီအိတ်အတွင်းသို့ လက်သွင်း၍ ခါးပိုက်နှိုက်ရန် အားထုတ်၏။ မောင်မဲ၏ အိတ်အတွင်း၌ ဘာမျှမရှိခြင်းကြောင့် မောင်ဖြူ၏ အားထုတ်ခြင်းသည် မအောင်မြင်သော်လည်း၊ မောင်ဖြူသည် ဤပုဒ်မအရ ပြစ်မှုကို ကျူးလွန်၏။